မြသန်းတင့်

# စာရေးခြင်းအတတ်ပညာ



# မာတိကာ

# စာရေးဆရာဘာလဲ

စာရေးဆရာတစ်ယောက်ရဲ့ ဘ၀အစဟာ စာရေးချင်တဲ့စိတ် ဖြစ်တယ်။ ကလေးပဲဖြစ်ဖြစ်၊ လူကြီးပဲဖြစ်ဖြစ်လူတွေသို့မဟုတ်အရာဝတ္ထုတွေကို မြင်ပြီး သူတို့ရင်ထဲမှာ ခံစားချက်တွေ ပေါ်လာကြတယ်။ ဒါမှမဟုတ်စိတ်ကူးတွေ ပေါ်လာတတ်ကြတယ်။ ဒီခံစားချက်၊ ဒီစိတ်ကူးတွေကို စကားလုံးတွေနဲ့ ထုတ်ဖော်ပြသချင်လာကြတယ်။သူငယ်ငယ်တုန်းကစာရေးဆရာမာစယ်မရစ်ဟာ တစ်စုံတစ်ခုတွေ ဖုံးကွယ်နေတဲ့အလှကို ဖော်ထုတ်ချင်တယ်တဲ့။ငယ်ငယ်တုန်းက လှပတဲ့ပစ္စည်းတစ်ခုကို တခြားတစ်ခုခုက ဖုံးကွယ်ထားတာမြင်ရင် အဲဒီဖုံးကွယ်ထားတာကို ဖယ်ရှားပစ်ချင်တဲ့စိတ်မျိုး ပေါ်ခဲ့ တယ်တဲ့။ အဲဒီလို ဖုံးကွယ်ခံထားရတဲ့ အလှအပကို 'အကျဉ်းချခံထားရတဲ့ အလှ' လို့ သူက ခေါ်ခဲ့တယ်။ အကျဉ်းချခံထားရတဲ့ အမှန်တရားတစ်ခုကို လွတ်မြောက်အောင် လုပ်ပေးဖို့စိတ်ဆန္ဒမျိုးဖြစ်တယ်ဆိုတာသူအဲဒီတုန်းကမသိခဲ့ဘူးတဲ့ ဟုတ်တာပေါ့။ အဲဒီတုန်းက ငယ်တုန်းဆိုတော့အမှန်တရားတို့ဘာတို့ဆိုတာတွေကိုသူ ဘယ်နားလည်ဦးမလဲ။ ချုံနွယ်တွေ အောက်မှာသစ်သီးခြံတွေထဲမှာ လာဗျူးကနေခြည်ဝင်းပတွေထဲမှာအမှန်တရားရှိတယ်ဆိုတာ သူဘယ်နားလည်နိုင်ပါဦးမလဲ။ စာရေးဆရာ ဘားလ်ဇက်ကတော့ ငယ်ငယ်တုန်းက လုပ်ချင်တာအများကြီးရှိတဲ့ လူငယ်ကလေး တစ်ယောက်အဖြစ် သူ့ရုပ်ပုံကို

သူ ရေးခြယ်ပြသသွားပါတယ်။ ဗစ်တာဟူးဂိုး၊ ဘိုင်ရွန်၊ မူဆေး၊ ဗာလေရီ့ စတဲ့ ကဗျာဆရာကြီးတွေ၊ စာရေးဆရာကြီးတွေဟာ သူတို့ငယ်ငယ်တုန်းကတည်းက ကဗျာတွေကို ရေးခဲ့ကြတယ်။ တစ်ခါတစ်ရံမှာလည်း စာရေးခြင်း အလုပ်ဟာ နှောင်းမှ အသီးအပွင့်တွေ ဝေပြီး ကြီးထွားလာတဲ့ ဖြစ်စဉ်တစ်ခု ဖြစ်လေ့ရှိပါတယ်။ ဥပမာအားဖြင့် ရူဆိုး ဆိုပါတော့။ ဒါပေမယ့် ဒီလို အသက်ကြီးမှ စာရေးလာသည့်တိုင်အောင် ငယ်ငယ်တုန်းက လူမသိ သူမသိ ကျိတ်ပြီး ရေးခဲ့ကြလို့သာ နောင်မှာ စာရေးဆရာဖြစ်လာခဲ့ကြတာဖြစ်ပါတယ်။

စာရေးချင်တဲ့ ဆန္ဒဟာ လူတချို့မှာသာရှိပြီး တခြားလူတချို့မှာတော့ ဘာဖြစ်လို့ မရှိရတာလဲ။ ယေဘုယျကျတဲ့ တရားတစ်ခုအနေနဲ့ မဟုတ်သော်လည်း ပြောနိုင်တာ တစ်ချက်တော့ ရှိပါတယ်။ အဲဒါကတော့ မိမိရဲ့ခံစားချက်ကို စာနဲ့ရေးပြီး ဖော်ပြချင်တဲ့ဆန္ဒဟာ ဘဝရဲ့ အဆင်မပြေမှု၊ မိမိကိုယ်တိုင် ဖြေရှင်းခြင်းမပြုနိုင်တဲ့ အတွင်းပဋိပက္ခကို ကောက်ကာငင်ကာ လက်တွေ့ဖြေရှင်းလေ့ရှိသူများမှာတော့ အစစ်အမှန်ထဲက ရုန်းထွက်ပြီး သူ့ ခံစားချက်တွေကို စာနဲ့ရေးပြဖို့ လိုတယ်လို့ ထင်လေ့မရှိကြပါဘူး။ ဒါကြောင့်မို့ ကမ္ဘာမှာ အတော်ဆုံးသောစာရေးဆရာများဟာ ကျန်းမာရေး ချို့တဲ့နေကြသူများ ဖြစ်နေတယ် ထင်ပါတယ်။ (အဂ္ဂါအာလန်ပိုး၊ မာပတ်ဖရစ်၊ ဖလောဘေး၊ ချက်ကော့ စသူတို့ဖြစ်ပါတယ်။) ဒါကြောင့်မို့ထင်ပါရဲ့ စာရေးဆရာတော်တော်များများဟာ ငယ်ငယ်တုန်းက ဘဝဒဏ်ချက်ကို လူးလိမ့်ခံရပြီး ရှေ့တိုးတက်ဖွံ့ဖြိုးမှုမှာ အခက်အခဲ၊ အတားအဆီးတွေကို ကြုံတွေ့ခဲ့ရသူတွေ ဖြစ်လေ့ရှိတာကို တွေ့ရပါတယ်။

ဒစ်ကင်း၊ ဘားလ်ဇက်၊ ဟူးဂိုး၊ ကစ်ပလင်းနဲ့ စတင်ဒယ် စသူတို့ဟာ ငယ်ငယ်တုန်းက စိတ်မချမ်းသာစရာကောင်းတဲ့ ကလေးဘဝကို ဖြတ်သန်းခဲ့ကြရပြီး နောင်မှာ အိမ်တွင်း ရေးအဆင်မပြေခဲ့သူတွေ ဖြစ်ခဲ့ကြတယ်။ တချို့ကျတော့ သူတို့ရဲ့ အတွင်းပဋိပက္ခဟာ ဘာသာရေး သို့မဟုတ် လူမှုရေး အကြောင်းတွေ ဖြစ်နေတတ် ကြတယ်။ (ဖော်လ်တဲယား၊ အနာတိုးဖရန့်စ်နဲ့ တော်လစတွိုင်း စသည်တို့ ဖြစ်တယ်) တချို့ကျတော့လည်း သိပ်အကဲဆတ်လွန်းတဲ့ ပင်ကိုစိတ်သဘာဝကြောင့် အရာရာကို စိုးရိမ်ကြောက်လန့်နေပြီး ကိုယ့်ရင်ထဲမှာ ပဋိပက္ခတွေ ဖြစ်လာကြရာက အဲဒီပဋိပက္ခကို ထုတ်ဖော်ဖို့ စာရေးလာကြသူတွေ ဖြစ်တယ်။ (ဥပမာ မာရီမီ စသည်) ဒီလိုပြောလိုက်တဲ့ အတွက် ကြီးကျယ်ထင်ရှားတဲ့ စာရေးဆရာတစ်ယောက်ဖြစ်လာဖို့ ဘဝမှာ အဆင်မပြေ ဖြစ်ရမယ်လို့ ကျွန်တော်ဆိုလိုတာ မဟုတ်ပါဘူး။ ဒါပေမယ့် ဘယ်လိုပဲပြောပြော နဂိုက စာရေးဖို့ အရည်အချင်းရှိပြီးသားဆိုရင် စာရေးခြင်း

အလုပ်ဟာ မိမိရဲ့အတွင်း ပဋိပက္ခကို ဖြေရှင်းတဲ့ နည်းတစ်နည်းဖြစ်တယ်လို့တော့ ကျွန်တော် ထင်တယ်။

ဒီတော့ တချို့က ကန့်ကွက်ကောင်း ကန့်ကွက်ကြလိမ့်မယ်။လောက မှာ ဘဝတလျှောက် အဆင်ပြေပြီး ပျော်ရွှင်နေတဲ့ စာရေးဆရာတွေ တစ်ပုံကြီး။ သူတို့တစ်တွေမှာ ကျန်းမာတဲ့စိတ်ဓာတ်ညီမျှမှု ရှိသားပဲလို့ ပြောကောင်း ပြောကြမယ်။ မှန်ပါတယ်။ ဒါပေမယ့် ဒီလို စိတ်ဓာတ်သဘောထား ညီမျှမှု မှန်ကန်နေတာမျိုးဟာ ရုန်းကန်ပြီးမှ ရရှိလာတာဖြစ်ပါတယ်။ ရုန်းကန်မှု မရှိဘဲ ဒီလိုစိတ်သဘောထား မှန်ကန်ညီမှု ရရှိလာခဲ့တဲ့ သာဓကမျိုးကို ကျွန်တော် တစ်ခုမှ မတွေ့ဖူးသေးပါဘူး။

ဗစ်တာဟူးဂိုးဟာ ၁၈၇၅ ခုနှစ်မှာ အံ့ဩစရာကောင်းလောက် အောင် ကျန်းမာသန်စွမ်းတဲ့ အဘိုးကြီးတစ်ဦးဖြစ်ပြီး စာရေးဆရာအဖြစ် ဂုဏ်သတင်းဟာလည်း တော်တော်ကြီးမားနေတဲ့အချိန် ဖြစ်ပါတယ်။ ဒါကြောင့်မို့ ဒီအချိန်မှာ ဘဝမှာ အဆင်မပြေဖြစ်တာတွေများလှချည်ရဲ့ဆိုပြီး ညည်းတွားနေစရာအကြောင်း မရှိတော့ပါဘူး။ ဒါပေမယ့် သူ့ငယ်စဉ်ဘဝတုန်းက ဆင်းရဲဒုက္ခတွေ ကြုံတွေ့ခဲ့ရတာ၊ အချစ်ရေးမှာ အဆင်မပြေဖြစ်ခဲ့ရတာ၊ သေခြင်းတရားနဲ့ နိုင်ငံရေး လောကဓံမုန်တိုင်းတွေကြောင့် စိတ်ဆင်းရဲခဲ့ရတာ၊ ဒါတွေကြောင့် စိတ်ပင်ပန်းရတာ မမေ့သင့်ပါဘူး။

ပြင်သစ်ထီးနန်း ပြန်လည်အုပ်စိုးရေး ခေတ်ကာလတုန်းက စာရေးဆရာ ရှာတိုဘရိုင်းယန်းဟာ သံအမတ်ကြီးဖြစ်ခဲ့ဖူးတယ်။ ဝန်ကြီးဖြစ်ခဲ့ဖူးတယ်။ ဒါကြောင့် တစ်ခါတုန်းကလို အလွမ်းအဆွေးကဗျာတွေကို စပ်စရာ မလိုတော့ပါဘူး။ ဒါပေမယ့် ရှာတိုဘရိုင်းယန်းဟာ သူ့ရဲ့ စာပေအစွမ်းအစကို သဘောပေါက်စေပြီး အဲဒီအစွမ်းအစကို ဘယ်လို အစာကျွေးရမယ်ဆိုတာ သိခဲ့တဲ့အတွက် သူ့အရင်တုန်းက ရှိခဲ့တဲ့ ရင်ထဲက ပဋိပက္ခတွေကို ဆက်လက် ရှင်သန်အောင် ဆက်လက်မွေးမြူပြီး ပဋိပက္ခသစ်တွေကိုလည်း ရှာခဲ့ပါတယ်။

နောက်တစ်ယောက်ကတော့ ကဗျာဆရာ ပေါဗာလေရီပါ။ ကျွန်တော် သိသလောက် ပြောရရင် ဗာလေရီဟာ အလွန်စိတ်ဓာတ်ကြံ့ခိုင်တဲ့လူ၊ ပျော်ပျော်နေတတ်တဲ့လူပါ။ ဒါပေမယ့် အရေတွန့်တွေထင်ပြီး ရှုံ့တွနေတဲ့သူ မျက်နှာဟာ သူ ငယ်စဉ်က တွေ့ခဲ့ရတဲ့ ဒုက္ခဆင်းရဲတွေကို သက်သေထူပြနေပါတယ်။ ကိုယ့်ကိုယ်ကိုသော်လည်းကောင်း၊ ပတ်ဝန်းကျင် လောကကြီးကိုသော်လည်း ကောင်း ကျေနပ်ရောင့်ရဲနေတဲ့ စာရေးဆရာမျိုးဟာ ကျွန်တော် တွေ့ဖူး သလောက်ပြောရရင် အညံ့စားစာရေးဆရာများသာ ဖြစ်ပါတယ်။ (ဒီလိုပြောရတဲ့အတွက် မကောင်းပါဘူးဗျာ) ဒီလိုပြောလိုက်တဲ့အတွက် စာ ကောင်း

ကောင်းရေးတတ်ချင်ရင် အဆိုးမြင်ဝါဒသမား တစ်ယောက်ဖြစ်ရမယ်လို့တော့ ကျွန်တော်ဆိုလိုတာ မဟုတ်ပါဘူး။ ဒါပေမယ့် စာရေးဆရာ အာလိန်းပြော သလို အနုပညာသည်တစ်ဦး၌ အကောင်းမြင်ဝါဒသည် ပြင်းထန်သော တိုက်ပွဲ ဖြင့်သာ ရရှိနိုင်သောအရာဖြစ်ပေသည်လို့ ပြောချင်ပါတယ်။

ဒီတော့ စာရေးဆရာတစ်ယောက်ဖြစ်ဖို့အတွက် ပထမဦးဆုံး လိုအပ် ချက်က စာရေးချင်တဲ့စိတ်ဆန္ဒနဲ့ စာရေးဆရာဖြစ်ဖို့ ကြိုးစားအားထုတ်မှု ရှိရ လိမ့်မယ်။ ဒုတိယအချက်က ကိုယ့်မှာ ပရိသတ်ရှိရလိမ့်မယ်။ စာရေးဆရာ တစ်ယောက်အဖို့ ဘာဖြစ်လို့ ပရိသတ်လိုလဲ။ စာရေးဆရာရဲ့ ရည်ရွယ်ချက် ဟာ သူ့ခံစားချက်ကို ထုတ်ဖော်ပြောဆိုဖို့ ဖြစ်တယ်ဆိုလို့ရှိရင် ထုတ်ဖော်ပြော ပြီးရင် ပြီးရောပေ့ါ။ မလုံလောက်သေးဘူးလား၊ သူ့မှာ ဒီထုတ်ဖော်ပြောဆိုချက် ကို ကြားနာမယ့် သက်သေတွေလိုသေးသလား။ ဒီ မေးခွန်းကိုဖြေရရင် အများ အားဖြင့် လိုတယ်လို့ပဲ ဖြေရလိမ့်မယ်။ 'အများအားဖြင့်' လို့ ပြောရတာက တခြားကြောင့်မဟုတ်ဘူး။ မိမိတို့ရဲ့ ကိုယ်ရေးကိုယ်တာမှတ်တမ်းများကို ရေး တဲ့ စာရေးဆရာတွေရှိနေလို့ပါ။

ဥပမာအားဖြင့် စိန့်ဆိုင်မွန်နဲ့ ဆင်မျူရယ်တို့ဟာ လူထုရဲ့ကောင်းချီး သြဘာသံကို နည်းနည်းလေးမှ အရေးထားတဲ့သူတွေ မဟုတ်ပါဘူး။ သူတို့ စာရေးတာဟာ သူတို့အတွက်နဲ့ သူတို့ မမြင်ဖူးတဲ့ နောင်လာနောင်သားတွေ အတွက် ရေးကြတာပါ။ ဒါပေမယ့် ဒီလိုကိစ္စမျိုးကတော့ တော်တော်ရှားတယ်။ စာရေးဆရာတိုင်းဟာ ဘယ်လောက်ပဲ နည်းသည်ဖြစ်စေ ကိုယ့် စာကိုဖတ်မယ့် ပရိသတ်တော့ ရှိစေချင်ကြတာပါပဲ။ ဒါကလည်း သဘာဝကျပါတယ်။ စာရေး ဆရာဟာ သူနဲ့ပတ်သက်တဲ့ အမှန်တရားကို ထုတ်ဖော်မယ်ဆိုတဲ့ ရည်ရွယ် ချက်နဲ့ စာရေးတာကို၊ လောကကြီးကို ထုတ်ဖော်ပြောဆိုချင်လို့ စာရေးတာကို၊ သူရည်ရွယ်ပြီးရေးတဲ့ လူတွေဆီကို သူ့စာမရောက်ဘူးဆိုရင် သူစာရေးရတာ ဟာလည်း ဘာအဓိပ္ပါယ်ရှိဦးမှာလဲ။ ကိုယ့်ကို နားလည်တဲ့ပရိသတ်၊ ကိုယ့် ကိုချစ်တဲ့ ပရိသတ်၊ ကိုယ့်ကို လေးစားကြည်ညို တဲ့ ပရိသတ်ရှိရင် စာရေး ဆရာဟာ ကျေနပ်အားရသွားတော့တာပါပဲ။ ပြီးတော့ ကိုယ့်ရဲ့ ပဋိပက္ခတွေဟာ လည်း ကိုယ့်စာဖတ်ပရိသတ်ရဲ့ အတွင်း ပဋိပက္ခတွေနဲ့ တူနေပြီး သူ့စာကို ဖတ်တဲ့အတွက် ပရိသတ်မှာ စိတ်သက်သာရာရသွားတယ်။ စိတ်ချမ်းသာရာရ တယ်ဆိုရင် ပရိသတ်ကို ကူညီလိုက်ရပြီဆိုပြီး ပီတိတွေ နောက်ထပ် ဖြစ်ရပါ သေးတယ်။

ကိုယ့်အသက်မွေးဝမ်းကျောင်းနဲ့အညီ ထိုက်ထိုက်တန်တန်၊ လေး လေးစားစားရေးလာတဲ့ စာရေးဆရာဟာ အာဏာကိုလည်း မလိုချင်ဘူး။

ဘုန်းတန်ခိုးကိုလည်း မလိုချင်ဘူး။ တစ်ခါတစ်လေမှာ ဖြစ်တတ်တာက ကိုယ်နဲ့ ထိုက်တန်တဲ့အတွက် သွားရင်းလာရင်း ဒီအခွင့်အရေးတွေကို ရလာတဲ့အခါမျိုးတွေ ရှိတတ်ပါတယ်။ ဒါပေမယ့် ထင်ရှားကြီးကျယ်တဲ့ စာရေးဆရာ တော်တော်များများဟာ သူတို့ အသက်ထင်ရှားရှိချိန်မှာ ဒီအရာတွေကို ရမသွားခဲ့ကြပါဘူး။ ကဗျာဆရာကြီး မာလာမေဟာ လူနည်းစုကလေးက သဘောကျတဲ့ ကဗျာဆရာပဲဖြစ်ခဲ့ပါတယ်။ ကျယ်ပြန့်တဲ့ စာဖတ်ပရိသတ်တွေကြားထဲမှာ သူ့ကို မသိခဲ့ကြပါဘူး။

စတင်ဒယ်ကတော့ 'ကျွန်တော့်ဘဝမှာ ၁၈၆၀ ခုနှစ်ကျရင် စာဖတ်ပရိသတ်တွေရမှာပါ' လို့ ဟောင်ပြောင်ခဲ့ဖူးပါတယ်။ ၁၉၆၀ ခုနှစ်အထိလည်း စာဖတ်ပရိသတ်တွေ ပိုလို့တောင် ရှိလာပါသေးတယ်။ ဒါပေမယ့် သူ့အသက်ထင်ရှားရှိစဉ်တုန်းကတော့ သိပ်ပြီး ပရိသတ် မရှိခဲ့ပါဘူး။ တော်လစတွိုင်း၊ ဘားလ်ဇက်နဲ့ ဒစ်ကင်းတို့ကတော့ သူတို့ အသက်ထင်ရှားရှိစဉ်တုန်းက သိပ်ပြီး လူကြိုက်များခဲ့ကြပါတယ်။ အောင်မြင်မှုဟာ စာရေးဆရာတစ်ယောက်အဖို့ ပိုပြီးလည်း အကျိုးမများပါဘူး။ ပိုပြီးလည်း အကျိုးမယုတ်ပါဘူး။ အောင်မြင်မှုဟာ အမှီခိုကင်းမှု၊ လွတ်လပ်မှု ပိုရစေတဲ့အတွက် လိုအပ်တာတော့ မှန်ပါတယ်။ ဒါပေမယ့် အဲဒီအောင်မြင်မှုဟာ အရုပ်တော်ပုံတွေကြောင့် နာမည်ကြီးလာတာမျိုး၊ အောက်တန်းကျတဲ့ နည်းမျိုး၊ ကြော်ငြာတွေ အကြီးအကျယ်ကြော်ငြာလို့ နာမည်ကြီးလာတာမျိုးတော့ မဖြစ်သင့်ဘူးပေါ့။ အချို့သော စာပေဆုများကို လူထုက အထင်ကြီး စိတ်ဝင်စားနေတာဟာ သိပ်အကျိုးကျေးဇူးမရှိလှပါဘူး။ အထူးသဖြင့် ဆုရရှိသူ တွေအတွက် အကျိုးမများလှပါဘူး။ တစ်ခါတစ်လေမှာ ဒီဆုတွေကြောင့် ရုတ်တရက် နာမည်ပျက်သွားပြီး အရှိန်အဝါတောင် ကျသွားတတ်ပါသေးတယ်။ ဆုတွေမရသည့်တိုင်အောင်လည်း သူတို့ဟာ သူတို့ဂုဏ်သတင်းနဲ့ ထိုက်တန်တယ်ဆိုတာကို ပြနိုင်ပြီးသားပါ။ သူတို့အပေါ်မှာထားရှိတဲ့ ပရိသတ်ရဲ့ မျှော်လင့်ချက်တွေကို တုန့်ပြန်နိုင်တဲ့ အရည်အချင်းရှိပြီးသားပါ။ ဒါပေမယ့် အောင်မြင်မှုရလိမ့်မယ်ဆိုတဲ့ မျှော်လင့်ချက်ကြီးတွေ ထားခဲ့တဲ့အတွက် နာမည်ကျသွားတဲ့အခါမှာ သူ့ရဲ့ဆုံးရှုံးမှုဟာ ပိုလို့တောင် ကြီးမားပြီး အကျနာတတ်ပါသေးတယ်။

အတော်အတန် နာမည်ကြီးတဲ့ စာရေးဆရာတစ်ယောက်ဟာ စာရေးဆရာအဖြစ် အသက်မွေးရင်း အပိုအလုပ်အကိုင်တွေကိုလည်း တွေ့ရတတ်ပါသေးတယ်။ ဥပမာ သတင်းစာတွေထဲမှာ ဆောင်းပါးရေးတာ၊ စာပေပို့ချချက်တွေ လုပ်တာ၊ ရေဒီယိုတို့၊ ရုပ်မြင်သံကြားတို့က စကားပြောတာ စတဲ့အလုပ်တွေ ဖြစ်ပါတယ်။ ဒီလိုအလုပ်တွေအပေါ်မှာ စာရေးဆရာဟာ

ဘယ်လို သဘောထားမလဲ။ အထူးသဖြင့် ကိုယ်ကလည်း ငယ်တုန်းရွယ်တုန်း၊ ဒီလိုအခွင့်အရေးမျိုးကို ငြင်းလိုက်မယ်ဆိုရင် ဘဝမြင့်လိုက်တာလို့ ထင်ချင်ထင်သွားနိုင်တယ်။ ဒါမှမဟုတ်ရင်လည်း မပြောရဲလို့ မပြောတတ်လို့ ထင်ချင်သလို ထင်သွားနိုင်တယ်။ တချို့စာရေးဆရာတွေဟာ ဒီလို လူထုနဲ့ ဆက်သွယ်တာမျိုးကို သိပ်ဝါသနာမပါကြဘူး။ ဒါပေမယ့် စာရေးဆရာ တော်တော်များများကတော့ ဒီလို လူထုလုပ်ငန်းတွေမှာ ဝါသနာ ပါတတ်ကြပါတယ်။ ဒါကြောင့်မို့ ကိုယ့်ထင်မြင်ယူဆချက်ကို ပရိသတ်အများ ရှေ့မှာ ထုတ်ဖော်ပြောဆိုပြီး ပရိသတ်ကို လွှမ်းမိုးနိုင်မယ်ဆိုရင် ဘာဖြစ်လို့ ဒီလိုလုပ်ငန်းမျိုးကို ငြင်းပယ်ရမှာလဲ။ မငြင်းပယ်သင့်ဘူးလို့ ကျွန်တော် ထင်တယ်။ ကဗျာဆရာ ဗာလေရီဟာ သူ့ကိုလာဖိတ်တဲ့ ဒီလိုလုပ်ငန်းမျိုးကို ဘယ်တော့မှ အထင်သေးလေ့မရှိပါဘူး။ အကြောင်းအရာတစ်ခုနဲ့ ပတ်သက်လို့ သူ့ကိုလာပြီး ရေးခိုင်းရင် ဝမ်းမြောက်ဝမ်းသာ ရေးပေးလိုက်တာချည်းပဲ။ သူ့ရဲ့ အချို့သော ဆောင်းပါးကောင်းများဟာ ဒီလိုလာပြီး အရေးခိုင်းလို့ ရေးပေးလိုက်တာချည်းပဲ ဖြစ်တယ်။ ဥပမာအားဖြင့် မွန်တက်စက္ကျူ ဆောင်းပါးပေါင်းချုပ် နိဒါန်းဆိုရင် တော်တော်ကောင်းတဲ့ နိုင်ငံရေး ဆောင်းပါးတစ်စောင်ဖြစ်ပါတယ်။

ဗစ်တာဟူးဂိုးရဲ့ အကောင်းဆုံး အမျိုးသားရေးနဲ့ နိုင်ငံတကာရေးတို့နဲ့ပတ်သက်တဲ့ ကဗျာပေါင်းများစွာဟာလည်း အလားတူ အရေးခိုင်းလို့ ရေးလိုက်ရတဲ့ ကဗျာတွေ ဖြစ်ပါတယ်။ ဒါပေမယ့် စာရေးဆရာဟာ ကိုယ့်ရဲ့မူအလုပ်ဖြစ်တဲ့ စာရေးခြင်းအလုပ်ကို အပျက်ခံပြီး ဒီလို ဘေးပေါက်အလုပ်တွေကိုချည်း လိုက်လုပ်နေလို့တော့ မဖြစ်ဘူးပေါ့။ သူ့အလုပ်က သူ ခံစားနေရတဲ့အကြောင်းတွေကို ရေးချဖို့ပဲ မဟုတ်လား။ အထူးသဖြင့် ကျွန်တော်တို့ပြင်သစ်မှာဆိုရင် စာရေးဆရာတွေဟာ အစိုးရဝန်ထမ်းတွေရင်လည်း ဖြစ်ပါတယ်။ ဒါမှမဟုတ်ရင်လည်း အတိုက်အခံ နိုင်ငံရေးအသင်းအဖွဲ့တွေထဲမှာရင်လည်း ပါလေ့ရှိကြတယ်။ ဒါကြောင့် ကျွန်တော်တို့ဆီက စာရေးဆရာတွေအဖို့ ကိုယ်ပိုင်လွတ်လပ်ခွင့်ကို တတ်နိုင်သမျှ ထိန်းသိမ်းထားဖို့ လိုပါတယ်။ ဒီနည်းအားဖြင့် အခြားတိုင်းပြည်က စာရေးဆရာတွေထက် လူထုလုပ်ငန်းတွေထဲမှာ ပါဝင်လေ့ရှိကြတယ်။

စာရေးဆရာတစ်ယောက်ဟာ ရုပ်ဝတ္ထုအရ အောင်မြင်မှုရဖို့ အဓိကထားသင့်သလား၊ ဒီရည်ရွယ်ချက်နဲ့ကော စာရေးသင်သလား၊ တစ်နည်းပြောရရင် အသက်မွေးဝမ်းကျောင်း လုပ်ငန်းတစ်ခုအဖြစ် သဘောထားပြီး စာရေးဆရာ လုပ်သင့်သလား၊ စာရေးဆရာ တော်တော်များများဟာ သူ့ကိုယ်သူရပ်တည်ဖို့နဲ့ သူ့မိသားစု ရပ်တည်ဖို့အတွက် စာရေးရတယ်ဆိုတာ မှန်ပါ

တယ်။ အချို့သော အနည်းစု စာရေးဆရာများဟာလည်း စာရေးခြင်းဖြင့် ချမ်းသာသွားကြတယ်ဆိုတာ မှန်ပါတယ်။ ဥပမာ ဟူးဂိုး၊ ဗားနစ်ရှော့နဲ့ အမေရိကန် စာရေးဆရာတွေ၊ ပြင်သစ် ပြဇာတ်ရေးဆရာတွေဟာ ချမ်းသာသွားကြတာပါပဲ။

ဒီနေ့ဆိုရင် အရင်ကထက်တောင် ချမ်းသာဖို့ ပိုပြီးလွယ်နေသေးတယ်။ စာဖတ်ပရိသတ်ကလည်း များလာ၊ နိုင်ငံတကာနှင့် ချီပြီး ထုတ်ဝေရတဲ့အပြင် စာတတ်သူဦးရေကလည်း များလာတဲ့အပြင် အရင်ကထက် ပိုပြီး ချမ်းသာဖို့အခွင့်အလမ်းတွေ များလာပါတယ်။ ဒါပေမယ့် ဘားလ်ဇက်နဲ့ ဒူးမားစ်တို့ဟာ အောင်မြင်မှုတွေကို ရခဲ့ကြသည့်တိုင် သူတို့မှာ ချမ်းသာတယ်လို့ မရှိဘဲ မကြာခဏဆိုသလို ငွေလိုနေကြတာပါပဲ။ ဒါကြောင့်မို့ သူတို့ဟာ စာတွေကို အများကြီးရေးခဲ့ကြရပါတယ်။ စာတွေ အများကြီးရေးတာဟာ ရာဇဝတ်မှု မဟုတ်ပါဘူး။ ကြီးကျယ်ထင်ရှားတဲ့ စာရေးဆရာများဟာ စာတွေ ဘယ်လောက်ပဲ မရပ်မနား ထုတ်လုပ်နေစေကာမူ စာကောင်းပေမွန်တွေကို ထုတ်လုပ်နိုင်နေတာပါပဲ။ ဘားလ်ဇက်ဟာ ဝမ်းကွဲညီမ ဘက်တီနဲ့ ဝမ်းကွဲညီ ပွန်းဆိုတဲ့ ဝတ္ထုတွေကို ငွေလိုလို့ ရေးခဲ့တာပါပဲ။ ဒါပေမယ့် ငွေလိုလို့ရေးတဲ့အတွက် ဒီစာအုပ်တွေဟာ မကောင်းဘူးလို့ ပြောလို့မရပါဘူး။ အင်္ဂလိပ်တွေကတော့ ဒီလိုစာရေးရတာမျိုးကို ခွင်ပေါ်မှာ အိုးဆူနေအောင် (ထမင်းအိုး မှန်မှန်တည်နိုင်အောင်) လို့ လုပ်ရ တယ်လို့ သုံးလေ့ရှိကြပါတယ်။ ဒါကြောင့်မို့ အဲဒီလိုစာမျိုးကိုလည်း 'အိုး ဆူအောင်လုပ်တဲ့စာ' လို့ ပြောလေ့ရှိကြပါတယ်။ ဒါပေမယ့် ထမင်းကို ဆူစေ တဲ့မီးတောက်ဟာ စိတ်ဓာတ်ကိုလည်း ဘာဖြစ်လို့ ဆူဝေအောင် မလုပ်နိုင်ရမှာလဲ။ ဒါပေမယ့် စာရေးဆရာတစ်ယောက်အဖို့ အာဏာတို့၊ ဘုန်းတန်ခိုးတို့၊ ငွေတို့ ဆိုတာဟာ သာမညတွေပါ။ ပါးစပ်က ထုတ်ဖော်ပြောဆိုခြင်း မရှိသည့်တိုင် လေးနက်တဲ့ဒဿနမရှိတဲ့ လူတစ်ယောက်စာ ကြီးကျယ်ထင်ရှားတဲ့ စာရေးဆရာ ဘယ်တော့မှ မဖြစ်နိုင်ဘူး။ ဒါဟာ မှန်တယ်။ ဘဝ အနေနိမ့်ကျတဲ့ လူအတွက်ပဲဖြစ်ဖြစ် မှန်တယ်။

စာရေးဆရာမ ဂျော့ဆင်း ရဲ့ဘဝဟာ ကျွန်တော်တို့ဘဝလိုပဲ စိတ်ပျက်စရာကောင်းတဲ့ဘဝ၊ အကွေ့အကောက်များတဲ့ ဘဝ၊ ရွက်ကြမ်းရေကျူ ဘဝပါပဲ၊ ဒါပေမယ့် သူ့ရဲ့ 'ကွန် ဆူလို' ဝတ္ထုထဲမှာတော့ သူက မိန်းမတိုင်း အတုခိုးလောက်တဲ့ ယောကျ်ားတိုင်း နားလည်မြတ်နိုးလောက်တဲ့ မိန်းမစိတ်ကို အသေးစိတ် ခြယ်မှုန်းပြသ နိုင်ခဲ့ပါတယ်။ ကြီးကျယ်ထင်ရှားတဲ့ စာရေးဆရာဆိုတာ တန်ဖိုးတွေကို လေးစားသူဖြစ်ပါတယ်။ သူ့ရဲ့ အဓိကလုပ်ငန်းဟာ ဘဝကို အတွေးအခေါ်ရဲ့ ဂုဏ်သိက္ခာအဆင့်အတန်းကိုရအောင် မြှင့်တင်ဖို့

ဖြစ်ပါတယ်။ ဒီလိုလုပ်တဲ့ နေရာမှာ အတွေးအခေါ်ကို ပုံပန်းသဏ္ဍာန်ပေါ်အောင် ဖော်ရပါတယ်။ ဒီလုပ်ငန်းကိုလုပ်ဖို့ ငြင်းဆိုခဲ့ရင် စာရေးဆရာဟာ ကျွမ်းကျင်တဲ့ မျက်လှည့်ဆရာတစ်ယောက်မျှသာ ဖြစ်နေပြီး စကားလုံးတွေနဲ့ ကစားနေသူ တစ်ဦးပဲ ဖြစ်နေမှာပါပဲ။ ဒါကြောင့် သူ့ကို ရေးဖော်စာရေးဆရာတွေက လေးစား ကောင်း လေးစားကြမှာဖြစ်သော်လည်း သူ့စာအုပ်တွေကိုတော့ ဘယ်သူကမှ စိတ်ဝင်စားကြမှာ မဟုတ်ပါဘူး။ ဒါပေမယ့် စာရေးဆရာဟာ အထက်ပါ လုပ် ငန်းတာဝန်ကို ကျေပြွန်ခဲ့မယ် ဆိုရင်တော့ သူ စာရေးရတာကို ပျော်နေမှာပါပဲ။ ဒီလိုလုပ်ခဲ့ရင် စာရေးဆရာဟာ သူထင်ဟပ်ပြတဲ့ ကမ္ဘာလောကကြီးမှာ ချီးမြှင့် မြှောက်စားခြင်း ခံရပြီး သူ့ခေတ်ရဲ့ ပွဲတင်သံကို ထုတ်လုပ်ပေးနိုင်မှာ ဖြစ်ပါ တယ်။ လူတွေကို သူတို့ရဲ့ စနစ်ကျတဲ့၊ မှန်ကန်တဲ့ ရုပ်ပုံလွှာတွေကို ရေးပြခြင်း ဖြင့် ကမ္ဘာလောကကြီးကို ပုံသွင်းဖန်တီးရာမှာ ပါဝင်ကူညီမှာဖြစ်ပါတယ်။

* * *

# စာရေးဆရာငယ်များသို့

နာရီတစ်လုံးကို ထုတ်လုပ်ရာမှာ အတတ်ပညာရှိသလို စာအုပ် တစ်အုပ်ကို ထုတ်လုပ်ရာမှာလည်း အတတ်ပညာရှိလို့ စာရေးဆရာ လာဗရုယက ပြောဖူးတယ်။ အချို့က ဒီအချက်ကို အကျယ်ကျယ် ငြင်းခုန်ကောင်း ငြင်းခုန်ကြမယ်။ စာအုပ်တစ်အုပ်ကို ထုတ်လုပ်ဖို့အတွက် အတတ်ပညာတစ်ခုကို လေ့လာရတယ်ဆိုတာ ဘာမှသံသယဖြစ်စရာ မလိုဘူး။ စာရေးတဲ့ အလေ့အကျင့်အားဖြင့်သာ အဲဒီအတတ်ပညာကို ပိုင်နိုင်ကျွမ်းကျင်လာ နိုင်တယ်။ တချို့လည်းပဲ ပထမတစ်ကြိမ်တည်းနဲ့ အောင်မြင်သွားကြတယ်။ ပထမ တစ်ကြိမ်ထုတ်မှာပဲ စာအရေးအသား ကျွမ်းကျင်လှပါကလား။ အတတ်ပညာကို ပိုင်နိုင်လှပါကလားလို့ ထင်ရတယ်။ ဒါပေမယ့် တိတိကျကျ ပြောရရင် သူတို့ဟာ ခုမှ စရေးတဲ့လက်သင်တွေ မဟုတ်ပါဘူး။ ကာလကြာမြင့်စွာကတည်းက သူတို့အခန်းကလေးထဲမှာ ကျိတ်ပြီး တစ်ယောက်တည်း စာတွေ တကုန်းကုန်း ရေးနေခဲ့သူတွေ ဖြစ်ကြောင်းကို တွေ့ရပါလိမ့်မယ်။ ဒါမှ မဟုတ်ရင်လည်း စာရေးဆရာအကျော်တို့ရဲ့ စာတွေကို တစ်ကုပ်ကုပ် ဖတ်လာခဲ့သူတွေဖြစ်ကြောင်းကို တွေ့ရလိမ့်မယ်။ စာရေးဆရာဟာ အတတ်ပညာသင်လို့ ဆိုလိုက်ပေမယ့် အဲဒီအတတ်ပညာဟာ နာရီလုပ်တဲ့သူရဲ့ အတတ်ပညာနဲ့ မတူပါဘူး။ နာရီလုပ်တဲ့သူကတော့ အဆင်သင့် ရှိပြီးသားဖြစ်တဲ့ ကိရိယာအစိတ်အပိုင်း

ကလေးတွေကို သူ့နေရာနဲ့သူ ကောက်တပ်သွားရုံပဲ။ စာရေးဆရာကတော့ ကလောင်တန်နဲ့ စာရွက်ကို ကောက်ကိုင်ပြီး ဇာတ်လမ်းဇာတ်ကွက်ကို ဖွဲ့စည်း ဖန်တီးယူရတယ်။ ဒါတွင် မကဘူး။ အဲဒီစာအုပ်ထဲမှာပါတဲ့ အကြောင်းအရာ (ကုန်ကြမ်း) ကိုလည်း ဖန်တီးယူရတယ်။

ဒါဖြင့်ရင် စာရေးဆရာရဲ့ လေ့ကျင့်သင်ကြားမှုဟာ ဘယ်လို သဘာဝ ရှိသလဲ။

စာအုပ်တစ်အုပ်ကို စာလုံးတွေနဲ့ ရေးရတယ်။ ဒါကြောင့်မို့ စာရေးဆရာဖြစ်ချင်သူတစ်ယောက်အဖို့ ပထမဆုံး လိုအပ်ချက်ကတော့ ဝေါဟာရတွေရရှိဖို့နဲ့ သဒ္ဒါကို နိုင်ဖို့လိုတယ်။ သူဟာ မိမိရဲ့ တိုင်းရင်းသားဘာသာစကား အသုံးအနှုန်းတွေကို ကောင်းစွာ နားလည်သိကျွမ်းရလိမ့်မယ်။ အဲဒီ ဝေါဟာရနဲ့ အစဉ်အလာအရ တွဲနေတဲ့အနက်အဓိပ္ပါယ်ကို တိတိကျကျ သုံးတတ်ရမယ်။ ရှုပ်ထွေးပြီး နားမလည်နိုင်တဲ့ ဝါကျ၊ မှားယွင်းတဲ့ဝါကျကို ဘယ်တော့မှ မသုံးမိလေအောင် ကိုယ့်တိုင်းရင်းဘာသာစကားကို ကောင်းစွာ တတ်ကျွမ်းရမယ်။ ဝါကျဖွဲ့ပုံတွေ အသုံးအနှုန်းတွေကို နားလည်ရလိမ့်မယ်။ တစ်ခါတစ်ရံမှာ စာရေးအကျော်အမော်တို့ဟာ စကားလုံးအဟောင်းတွေကို အဓိပ္ပါယ်သစ်နဲ့ သုံးနှုန်းသွားတာတွေ၊ ဝါကျဖွဲ့ပုံကို ကစားပြီး တစ်မျိုးဖွဲ့တာတွေ မရှိဘူးလားလို့ ခင်ဗျားတို့က မေးကောင်းမေးမယ်။ ရှိပါတယ်။ ကျွန်တော်တို့ သိနေတဲ့ အဓိပ္ပါယ်တွေနဲ့ ကွဲလွဲအောင်သုံးပြပြီး သူ့နေရာနဲ့ သူ သုံးစားတတ်တဲ့အတွက် သူတို့ သုံးတာကိုတော့ လက်ခံကောင်း လက်ခံကြမှာပဲ။ ဒါပေမယ့် လက်သင်တစ်ယောက်က ဒီလွတ်လပ်မှုမျိုးကိုယူပြီး သွားသုံးတတ်တယ်ဆိုရင်တော့ မသိနားမလည်လို့ သုံးတာ၊ မတတ်လို့ သုံးတာလို့ပဲ ထင်ကြမှာပဲ။ ထူးချွန်တဲ့ ဂီတပညာရှင်တစ်ယောက်ဟာ သူ့ရဲ့ သံစဉ်တွေထဲမှာ သံဆန်းတွေကို စမ်းထည့်ကြည့်ချင်တယ်ဆိုရင် ထည့်ပိုင်ခွင့်ရှိတယ်။ စမ်းသပ်ကြည့်ချင်တယ်ဆိုရင်လည်း စမ်းသပ်ကြည့်နိုင်တယ်။ ပန်းချီကျော်တွေဟာလည်း ခပ်ဆန်းဆန်း စမ်းသပ်ကြည့်တာမျိုးတွေကို စမ်းသပ်ဆွဲကြည့်ချင် ကြည့်နိုင်တယ်။ သူ ဒီလိုဆွဲတာဟာ ပန်းချီမဆွဲတတ်လို့ မဟုတ်ဘူး။ ပန်းချီပညာကို သိပ်နိုင်သွားလို့ ဒီလို စမ်းသပ်ကြည့်တာ မျိုးဖြစ်တယ်။

ဒါကြောင့်မို့ စာရေးဆရာငယ်တစ်ယောက်အဖို့ ပထမဆုံး အာရုံစိုက်လေ့လာရမယ့် အခြေခံအချက်ကတော့ တိကျတဲ့ ဝေါဟာရကို သုံးစွဲတတ်ဖို့ဖြစ်တယ်။ ဒါဖြင့်ရင် ဘယ်လောက်ကျယ်ကျယ်ပြန့်ပြန့် လေ့လာရမလဲ။ ပုံသေသတ်မှတ်လို့တော့ မဖြစ်နိုင်ဘူးပေါ့။ တချို့သော ဂန္ထဝင်စာရေး ဆရာကြီးများဟာ သူတို့ပြောချင်တာကို စကားလုံးကလေးနည်းနည်းနဲ့ ဒိုးကနဲ ဒေါက်

ကနဲ ပြောနိုင်ကြတယ်။ ဒီနေရာမှာတော့ စာရေးဆရာ ရေစင်းထက်ကောင်းတဲ့ ဥပမာကို မတွေ့နိုင်ဘူး။ သူ့လိုပဲ တစ်နည်းတစ်ဖုံ ကျော်ကြားတဲ့ တချို့စာရေး ဆရာများကျတော့လည်း တိကျခိုင်မာတဲ့ ပညာရပ်ဆိုင်ရာ ဝေါဟာရတွေကို စုဆောင်းလေ့ရှိကြတယ်။ ရှာတိုဘရိုင်းယန်းဆိုရင် ရေးဟောင်းပေါရာဏ စကားလုံးတွေကို စုဆောင်းလေ့ရှိပြီး အဲဒီ စကားလုံးတွေကို ဘာသာစကား နယ်ပယ်မှာ သူ့နေရာသူ ရောက်အောင်ပြန်ပြီး သုံးလေ့ရှိတယ်။ ဘားလ်ဇက် ကတော့ ဘဏ်တိုက်စာရေးစာချီတွေ၊ သတင်းစာဆရာတွေ၊ ရဲအရာရှိတွေ၊ ရှေ့နေတွေနဲ့ အခြားသော သက်မွေးမှုလုပ်ငန်းအမျိုးမျိုးက လူတွေ သုံးစွဲလေ့ရှိ တဲ့ အာဟာရတွေကို တော်တော်များများသိတယ်။ ကဗျာဆရာကတော့ သိပ္ပံ ပညာကို ဝါသနာပါတဲ့အတွက် သူ့ရဲ့စကားပြေ အရေးအသားတွေထဲမှာ သိပ္ပံပညာဆိုင်ရာ ဝေါဟာရတွေကို သုံးလေ့ရှိတယ်။ စာရေးဆရာငယ်တစ်ဦး အဖို့ကတော့ ကိုယ်က ဘယ်အကြောင်းအရာကို ရေးမလဲဆိုတဲ့ အချက်ပေါ်မှာ မူတည်ပြီး ဝေါဟာရတွေကို ရွေးချယ်လေ့လာသင့်တယ်။ ပညာရပ်ဆိုင်ရာ စကားလုံးတွေကို ဝတ္ထုစကားပြေတို့မှာ သွားပြီးသုံးရင် ဟန်များပြီး ကြီးကြီး လုံး ကြီးကြီးကျယ်ကျယ်တွေကို သုံးတာထက် အများသုံးနေကျ ရှင်းလင်း လွယ်ကူတဲ့ စကားလုံးတွေကို သုံးတာက ပိုပြီး ကောင်းတယ်။ ဒဿနဆရာ တွေရဲ့ အဘိဓမ္မာစကားလုံးကြီးတွေဟာလည်း အနှစ်သာရမပါဘဲ ဟာလာ ဟင်းလင်း ဖြစ်နေတတ်တာတွေ အများကြီးရှိတယ်။

စာရေးဆရာငယ်တစ်ယောက်အဖို့ အကောင်းဆုံး လေ့ကျင့်သင် ကြားနည်းကတော့ သေသေချာချာ လေ့လာကြည့်လိုက်ရင် အနုပညာ လက် ရာကောင်းတွေကို ဘယ်လိုဖန်တီးရသလဲဆိုတာ သိလာလိမ့်မယ်။ ဂန္ထဝင် စာရေးဆရာကြီးတွေရဲ့ စာပေတွေကို ကျွမ်းကျင်ရင်းနှီးနေလို့ရှိရင် သူတို့ ဆီက နမူနာတွေ အများကြီးရလာနိုင်တယ်။ ပထမတော့ သာမန် စာဖတ်ဝါသနာ ပါသူတစ်ယောက်လို အပျင်းပြေဖတ်တဲ့သဘောပဲ။ နောက်တော့ အဲဒီစာအုပ်ကို ဖတ်ရင်း ဖတ်ရင်းနဲ့ သဘောကျလာပြီး အကြိမ်ကြိမ်ဖတ်မိလာလိမ့်မယ်။ အဲဒီစာအုပ်ကို တစ်ပိုင်းစီ တစ်ပိုင်းစီ ကျေညက်သွားအောင် ဒီလိုစာအုပ်မျိုးကို ဘယ်လိုရေးရတယ်ဆိုတာ သဘောပေါက်သွားအောင် အထပ်ထပ်ဖတ်မိလာ လိမ့်မယ်။ ဘားလ်ဇက်ရဲ့ ဝတ္ထုတစ်ပုဒ်ဟာ ဘယ်လိုရေးထားသလဲ။ ချက်ကော့ ရဲ့ ဝတ္ထုတစ်ပုဒ်ဟာ ဘယ်လိုရေးထားသလဲ။ ရိုတ်စပီးယားရဲ့ ပြဇာတ်တစ်ပုဒ် ဟာ ဘယ်လိုတည်ဆောက်ထားသလဲ၊ ပါရမီ ထူးချွန်သူတစ်ယောက်ဖြစ်ဖို့ အတွက် ဖော်နည်းကားရယ်လို့ မရှိနိုင်ဘူး။ ဒါပေမယ့် စာပေအရေးအသား အဖွဲ့အနွဲ့၊ ဇာတ်လမ်းတည်ဆောက်ပုံ၊ စကားပြောခန်းကို ဘယ်လိုရေးပုံ

စသည်တို့ကတော့ လေ့လာလို့ရနိုင်တဲ့အရာတွေ ဖြစ်တယ်။ တော်လ်စတွိုင်းလို ကျွန်တော်တို့ရဲ့ ဇာတ်ဆောင်တွေကို အသက်ရှင် ဝင်လှုပ်ရှားစေချင်ရင် သူ့ကို လေ့လာရမယ်။ တော်လ်စတွိုင်းဟာ သူတို့ရဲ့ လှုပ်ရှားပြောဆိုဟန်၊ သူတို့ရဲ့ အမူအရာတွေ ပြောင်းသွားပုံ၊ သူတို့ စကားပြောဆိုပုံတို့ကို အလေးအနက်ထား ရေးသွားတဲ့အတွက် ဒီလို နိုင်နင်းစွာ ဖွဲ့နိုင်တယ်ဆိုတာကို တွေ့ရလိမ့်မယ်။ ယေဘုယျ စိတ်ကူးစိတ်သန်းတွေကနေပြီး လူတစ်ယောက်ရဲ့ လှုပ်ရှားမှုကို ကူးပြောင်းဖော်ပြတဲ့နေရာမှာ ကျွန်တော်တို့ဟာ မာစယ်ပရုစ်ကို လေ့လာသင့်တယ်။ မာစယ်ပရုစ်ဟာ ဂျော့အလိယက်၊ ဒစ်ကင်းနဲ့ ဂရပ်စကင်းတို့ဆီက လေ့လာခဲ့တာဖြစ်တယ်။ ဘယ်လိုလေ့လာသလဲ။ သူတို့စာအုပ်တွေကို အမြဲဖတ်၊ သူတို့စာပေတွေကို ဘာသာပြန်၊ ရပ်စတင်းရဲ့ စာပေတွေကို ကောက်နှုတ်အကျဉ်းချုပ်ဖော်ပြ။ ဒီနည်းအားဖြင့် သူတို့အဖွဲ့အနွဲ့တွေကို လေ့လာ။ ဒီနည်းအားဖြင့် သူတို့ဆီက သင်ယူခဲ့ခြင်းဖြစ်ပါတယ်။

ဒါပေမယ့် စာရေးဆရာတစ်ယောက်ရဲ့စာပေကို အပတ်တကုတ် လေ့လာတဲ့အတွက် အန္တရာယ် မရှိနိုင်ပေဘူးလား။ ကျွန်တော်တို့ ပြောနေတာက စာရေးဆရာငယ်ဟာ ဒုတိယဘားလ်ဇက်ဖြစ်အောင်လုပ်ဖို့ ပြောနေတာ မဟုတ်ဘူး။ နောက်ထပ် ဒစ်ကင်းတစ်ယောက်ဖြစ်အောင်လုပ်ဖို့ ပြောနေတာ မဟုတ်ဘူး။ ကိုယ်ပိုင်ဖြစ်အောင် လုပ်ဖို့ပြောနေတာ။ စာရေးဆရာကြီးတွေရဲ့ စာပေတွေကို အပတ်တကုတ် လေ့လာဖတ်ရှုတဲ့အတွက် သူတို့ရဲ့ နောက်လိုက်ဖြစ်သွားနိုင်တဲ့ အန္တရာယ်ရှိတယ်လို့ ကျွန်တော်မထင်ဘူး။

ပထမအချက်အားဖြင့် စာရေးဆရာငယ်ဟာ ဒီနေ့ ချက်ချင်း ကောက်ရေးမှာ မဟုတ်ပါဘူး။ အမှန်ကတော့ စာရေးဆရာငယ်ဟာ တကယ် ပါရမီခံ ရင့်သန်တဲ့သူဖြစ်ရင်လည်း ဒီလို တိုက်ရိုက်ကြီး အတုခိုးပြီး လိုက်ရေးမှာ မဟုတ်ပါဘူး။ စာရေးဆရာငယ်ဟာ ဂန္ထဝင်စာရေးဆရာကြီးများရဲ့ အတတ်ပညာကို ယူကောင်းယူမယ်။ လေ့လာကောင်းလေ့လာမယ်။ ဒါပေမယ့် အတတ်ပညာကို သူ့နည်းနဲ့သူ တစ်မျိုး အသုံးချမှာပါပဲ။ တကယ်လို့ ဆရာကြီးတွေရဲ့ နည်းတွေကို အတုခိုးတယ်ပဲ ထားဦး။ သူ့ပါရမီအခံဟာ နိုးလာပြီး တစ်နေ့မှာ သူ့နည်းနဲ့သူ ရေးလာမှာပါပဲ။ အတုခိုးတာတွေကို မေ့သွားမှာပါပဲ။ သူ့အကြောင်းအရာကို သူ ကောင်းစွာ နားလည်သဘောပေါက်ပြီး သူ့နည်း သူ့ဟန်နဲ့ သူရေးသွားမှာပါပဲ။ တစ်ခါတုန်းက စာရေးဆရာ မောရီယေးဟာ ဗိုဆွေးရဲ့ အရေးအသားကို လုံးဝ အတုခိုးဖို့ ကြိုးစားခဲ့ဖူးတယ်။ အတုခိုးပြီး ရေးလိုက်တဲ့အခါမှာ အလွန်ကောင်းတဲ့ ဗိုဆွေးရဲ့ အရေးအသားမျိုး ဖြစ်လာပါတယ်။ ဒါပေမယ့် ချက်ချင်းဆိုသလိုပဲ သူ့ အရေးအသားဟာ မောရီယေးရဲ့

အကောင်းဆုံး ကိုယ်ပိုင်ရေးဟန်ဖြစ်လာခဲ့ပါတယ်။ စာရေးပြီဆိုကတည်းက အရင်တုန်းက ဘယ်သူမှ မရေးခဲ့ဖူးသေးတဲ့ ရေးဟန်မျိုးနဲ့ ရေးမယ်လို့ ဘယ်သူမှ စိတ်ကူးထားခဲ့ကြတာ မဟုတ်ပါဘူး၊ စာပေမှာ လူတိုင်း၊ စာရေးဆရာတိုင်းဟာ အခြားတစ်ယောက်ယောက်ရဲ့ စိတ်ဓာတ်ဆိုင်ရာ သားသမီးချည်းပါပဲ။ မူဆေးဟာ ဘိုင်ရွန်ရဲ့ ဩဇာလွှမ်းမိုးတာကို ခံခဲ့ရပါတယ်။ ဘိုင်ရွန်ဟာလည်း ဗေါ်လတဲယားရဲ့ ဩဇာလွှမ်းမိုးတာကို ခံခဲ့ရတာပါပဲ။ ဗေါ်လတဲယားဟာလည်း ဂျိုနသန်ဆွစ်ရဲ့ ကျေးဇူးတွေရှိခဲ့တာပါပဲ။ အရေးကြီးတာက စာရေးဆရာငယ်ဟာ ဆရာကြီးများရဲ့ ရေးဟန်ကို လေ့လာပြီး နောက်ဆုံးမှာ ကိုယ်ပိုင်ဟန်တစ်ခုကို ထူထောင်နိုင်ဖို့ပဲ အရေးကြီးပါတယ်။

ဒါဖြင့်ရင် ဟန်ဆိုတာကတော့ ဘာလဲ။ ဟန်ဆိုတာလူတစ်ယောက်ရဲ့ အမှတ်အသားပါပဲ။ ဟန်ဆိုတာဟာ စကားလုံးတွေကို ဘယ်လိုသုံးစွဲသလဲ။ ဘဝကို ဘယ်လိုမြင်သလဲဆိုတဲ့အထဲမှာ ဖော်ပြနေပါတယ်။ လူတိုင်း လူတိုင်းမှာ ကိုယ်ပိုင်ဖြစ်တဲ့ စိတ်နေစိတ်ထားတွေရှိပါတယ်။ ဒါပေမယ့် လူတော်တော်များများဟာ ကိုယ့်စိတ်နေစိတ်ထားကို ကိုယ်ရေးတဲ့စာထဲမှာ ထင်ဟပ်ဖော်ပြခြင်း မပြုနိုင်ကြပါဘူး။ ယေဘုယျပြောရရင် စာရေးတဲ့ အတတ်ပညာဆိုတာကို လူတော်တော်များများ မတတ်ကြပါဘူး။ ဒါကြောင့်မို့ သူတို့မှာ သူတို့ရဲ့ ပကတိစိတ်ဆန္ဒတွေ၊ သူတို့ရဲ့ ခံစားချက်တွေကို ရေလည်အောင်ဖော်ပြနိုင်တဲ့ ပျော့ပျောင်းမှုစွမ်းရည် မရှိကြပါဘူး။ ကလောင်တံကို ကောက်ကိုင်လိုက်တာနဲ့ တစ်ပြိုင်နက် သူတို့ခေါင်းထဲမှာ သုံးရိုးသုံးစဉ် ပြောရိုးပြောစဉ်စကားလုံးတွေပဲ ထွက်လာတတ်ကြပါတယ်။ သူတို့ဖတ်ခဲ့တာတွေက အညံ့စားစကားပြေတွေဆိုတော့ ဒီစကားပြေတွေရဲ့ ဩဇာက လွတ်အောင် မရုန်းနိုင်ကြတော့ဘူးပေါ့။ စာရေးကောင်းသူတစ်ယောက်ဖြစ်ပြီး သူတစ်ယောက်တည်းအတွက်သာ စာရေးတဲ့၊ အများပရိသတ်ရဲ့ ဩဘာလက်ခုပ်သံတွေကို လစ်လျူပြုထားတဲ့ စိန်ဆိုင်မွန်ဟာ သူ့အမှတ်တရ သတိရစရာတွေ၊ သူ့ဒေါသတွေကို အပြည့်အဝပေါ်အောင် ရေးနိုင်တဲ့သူပါ။ အတွေးတစ်ခုကို ဖော်ပြချင်တယ်ဆိုတာနဲ့ တစ်ပြိုင်နက် သူ့ခေါင်းထဲမှာ ကွက်တိဖြစ်နေတဲ့ နာမဝိသေသနတွေဟာ အလိုလိုရောက်လာတတ်ပါတယ်။ ဒါမှမဟုတ်ရင်လည်း အဲဒီအတွေးကို ဖော်ပြနိုင်တဲ့ နာမဝိသေသနပုဒ်တွေ တစ်သီကြီး ရောက်လာတတ်ပါတယ်။ သူ ခံစားချက်တွေကို အာရုံစူးစိုက်လိုက်တာနဲ့ တစ်ပြိုင်နက် ဒီအကြောင်းအရာကို ဘယ်ပုံဘယ်နည်း တင်ပြရမယ်ဆိုတာကို သူ အထူးစဉ်းစားစရာ မလိုတော့ဘူး။ ဘယ်လောက်ပဲ အသေးဖွဲသည်ဖြစ်စေ၊ ခေါင်းထဲမှာ ပေါ်လာတော့တာပါပဲ။ မြိုင်မြိုင်ရွှာချလိုက်သလို သူ့စကားပြေဟာ အားကောင်းလွန်းတဲ့အတွက် အဖြစ်

အပျက် အကြောင်းအရာတွေဟာ စာမျက်နှာတွေပေါ်မှာ ဒီရေကြီးများတက်သလို ချက်ချင်းပြည့်သွားတော့တာပါပဲ။ ဒီလို ရေးနေတုန်းမှာပဲ သူ့ခေါင်းထဲမှာ အခြေအနေတွေ၊ အဖြစ်အပျက်တွေ ပေါ်လာတာပါပဲ။ ဒီလို အစီအစဉ်မရှိ ပေါ်လာတာတွေကို ချရေးသွားတဲ့အတွက်ကြောင့်ပဲ သူ့စကားလုံးတွေဟာ သက်ဝင်လှုပ်ရှားနေခြင်းဖြစ်ပါတယ်။ စိတ်မြန်တဲ့ စိန်ဆိုင်မွန်ကို သူ့စာတွေထဲမှာ အတိုင်းသားမြင်နေရပါတယ်။ ဒါဟာ ဟန်ရဲ့ အနက်အဓိပ္ပါယ်ပါပဲ။

* * *

# စာရေးခြင်းအတတ်ပညာ

နာရီတစ်လုံးကို လုပ်တဲ့နေရာမှာ အတတ်ပညာရှိသလို စာအုပ် တစ်အုပ်ကို လုပ်တဲ့နေရာမှာလည်း အတတ်ပညာရှိတယ်လို့ လာဘရုယေးက ပြောခဲ့ဖူးတယ်။ ဒီအချက်ကိုတော့ ကာလအတန်ကြာကတည်းက သဘောတူခဲ့ကြပြီး ဖြစ်မှာပါပဲ။ စာအုပ်တစ်အုပ်လုပ်တယ်ဆိုတဲ့ နေရာမှာ အတတ်ပညာတစ်ခုကို လေ့လာသင်ကြားရခြင်း ဖြစ်တယ်ဆိုတာ ဘာမှ သံသယရှိစရာ မလိုဘူး။ အဲဒီအတတ်ပညာဟာလည်း စာရေးလေ့ကျင့်ခြင်းဖြင့်သာ ရနိုင်ဆို။ ပထမတစ်ပုဒ်၊ ပထမတစ်ခါရေးရုံနဲ့တော့ အောင်မြင်တဲ့ သူရယ်လို့ သိပ်မရှိလှပါဘူး။ တချို့စာရေးဆရာတွေရဲ့ ပထမဆုံး ပုံနှိပ်ထုတ်ဝေတဲ့ လက်ရာတွေဟာ သိပ်ကောင်းပြီး အတတ်ပညာ ကျွမ်းကျင်မှုရှိတယ် လို့ ထင်ရတယ်။ ဒါပေမယ့် တကယ်ကတော့ သူတို့ဟာ လက်သင်စာရေး ဆရာတွေ၊ ခုမှ စာစရေးတဲ့သူတွေ မဟုတ်ကြပါဘူး။ တချို့က သူတို့အခန်းကလေးထဲမှာ သူတို့ဘာသာ သူတို့စာတွေကို တကုတ်ကုတ်နဲ့ ရေးနေကြတယ်။ တချို့ကလည်း ရှေးခေတ်က စာရေးဆရာကြီးတွေရဲ့စာတွေကို လေ့လာဖတ်ရှုခဲ့ကြရတယ်။ ဒါပေမယ့် စာရေးဆရာအလုပ်ဟာ အတတ်ပညာတစ်ခုဖြစ်တယ်လို့ ဆိုခဲ့သည့်တိုင် နာရီပြင်ဆရာရဲ့ အတတ်ပညာနဲ့တော့ မတူဘူး။ နာရီပြင်ဆရာကတော့ အဆင်သင့်

ရှိတဲ့ ပစ္စည်းကိရိယာ အပိုင်းအစကလေးတွေကို သူ့နေရာနဲ့သူ အတိအကျ ကောက်ပြီး တပ်ဆင်သွားရုံပဲ။ စာရေးဆရာကတော့ ကလောင်တန်နဲ့ စက္ကူပေါ်မှာ ချရေးနေစဉ်အတွင်းမှာပဲ ကိုယ့်စာအုပ်ရဲ့ ဖွဲ့စည်းတည်ဆောက်မှုပုံစံတို့ကို ဖန်တီးယူရတယ်။ ဒါတင် မကဘူး။ စာအုပ်ထဲမှာ ထည့်ပြီးရေးမယ့် အကြောင်းအရာတွေကိုလည်း ဖန်တီးယူရတယ်။

ကောင်းပြီ။ ဒီလိုဆိုရင် စာရေးဆရာတစ်ယောက်ရဲ့ သင်ကြားမှုဟာ ဘယ်လိုသဘာဝမျိုးလဲ။

စာအုပ်တစ်အုပ်ဟာ စကားလုံးတွေနဲ့ ပြုလုပ်ထားတာဖြစ်တယ်။ စာရေးဆရာအလောင်းအလျာတစ်ယောက်ရဲ့အဖို့ အရေးကြီးအရာကတော့ ဝေါဟာရကြွယ်ဝဖို့နဲ့ သဒ္ဒါကို နိုင်နင်းဖို့ပါပဲ။ သူဟာ မိမိတိုင်းရင်းသား ဘာသာစကားအကြောင်းကို ကောင်းစွာနားလည်ပြီး ရေးထုံးကို နားလည်ရပေလိမ့်မည်။ ဒါမှသာလျှင် ကိုယ်ဆိုလိုချင်တဲ့ အဓိပ္ပါယ်ကို ဖော်ပြတဲ့ စကားလုံးကို ရွေးချယ်နိုင်လိမ့်မယ်။ ဒါမှသာလျှင် ရှုပ်ထွေးပြီး ခွန်းအားမဲ့တဲ့ ဝါကျတို့ကို မတည်ဆောက်မိဘဲ ရှောင်ကွင်းနိုင်လိမ့်မယ်။ တစ်ခါတလေမှာ စာရေးဆရာကြီးတွေကိုယ်တိုင် စကားလုံးအဟောင်းတစ်လုံးကို အဓိပ္ပါယ်သစ်တစ်မျိုးနဲ့ သုံးတာ၊ ဝါကျဖွဲ့ထုံးမှာ ကပြောင်းကပြန် လုပ်ပစ်တာတွေ မရှိဘူးလားလို့ မေးကောင်းမေးကြလိမ့်မယ်။ ရှိပါတယ်။ သူတို့လို ဆရာကြီးတွေကျတော့ ဒီလို လွတ်လပ်ခွင့်ယူပြီး သမရိုးကျအစဉ်လာတွေကို ဖောက်ပြီး ရေးတဲ့အတွက် တော်ပါပေတယ်လို့ ချီးကျူးကောင်း ချီးကျူးကြမယ်။ ဒါပေမယ့် ကလောင်သစ်ကလေးတွေက သွားရေးရင်တော့ လမ်းသစ်ထွင်တယ်လို့ ထင်မှာမဟုတ်ဘူး။ နားမလည်လို့ ရေးတယ်လို့ပဲ ထင်ကြမှာပဲ။ ဂီတစာဆို အကျော်အမော်တစ်ယောက်ဟာ သူ့သံစဉ်ထဲမှာ သံကြောင်ကလေးတွေကို ထည့်ပြီး သုံးနိုင်တဲ့ အခွင့်အရေးရှိတယ်။ ဒီနည်းအားဖြင့် မျှော်လင့်မထားတဲ့ အသံကလေးတွေကို နားထဲရောက်သွားအောင် လုပ်ပိုင်ခွင့်ရှိတယ်။ ထူးချွန်တဲ့ ပန်းချီဆရာတစ်ယောက်ဟာ သူ့ပုံတစ်ပုံကို ကို့ယို့ကားယား ဆွဲချင်ဆွဲမယ်။ ဒီလိုဆွဲတာဟာ ပန်းချီမဆွဲတတ်လို့ မဟုတ်ဘူး။ ပန်းချီကို သိပ်နိုင်နင်းနေတဲ့အခါကျတော့ ဆန်းသစ်တီထွင်မှုတွေကို လုပ်လို့ဖြစ်တယ်။ ဒီလိုလုပ်ပိုင်ခွင့်လည်း ရှိတယ်။

ဒါကြောင့်မို့ လူငယ်စာရေးဆရာတွေအတွက် ပထမဆုံး အရေးကြီးတဲ့အရာတော့ တိကျတဲ့စကားလုံးတွေ၊ ဝေါဟာရတွေကို စုဆောင်းဖို့ပဲ။ ဒါဖြင့်ရင် ဘယ်လောက်ထိအောင် စုဆောင်းရမှာလဲ။ အများကြီး စုဆောင်းရမှာလား။ ကျွန်တော့်အထင်ပြောရရင်တော့ ဘယ်ရွေ့ဘယ်မျှအထိ စုဆောင်းရမယ်။ ဝေါဟာရကို နိုင်နင်းရမယ်လို့တော့ ပုံသေကား မပြောနိုင်ဘူး။ ရှေးက ဂန္ထဝင်စာရေး

ဆရာကြီးတချို့ဆိုရင် သူတို့ပြောချင်တာ၊ ပြောလိုတာ မှန်သမျှကို စကားလုံး နည်းနည်းကလေး၊ ဝေါဟာရနည်းနည်းကလေးနဲ့ ပြောသွားကြတာပဲ။ ဒီနေရာမှာ ရေစင်းထက်ကောင်းတဲ့ ဥပမာတော့ရှိမယ် မထင်တော့ဘူး။ တချို့စာရေးဆရာကြီးတွေကျတော့လည်း ခိုင်မာတဲ့ ပညာရပ်ဆိုင်ရာ ဝေါဟာရတွေကို အများကြီးသိကြတယ်။ ရှာတိုဘရိုင်းယန်း ဆိုလို့ရှိရင် ရေးဟောင်းပေါ်ရာဏ စကားလုံးတွေကို အစားထိုးလေ့ရှိတယ်။ စုဆောင်းလေ့ရှိတယ်။ ဘားလ်ဇက်ကတော့ ဘဏ်လုပ်ငန်းရှင်တွေ၊ သတင်းစာဆရာတွေ၊ ရဲအရာရှိတွေ၊ ရှေ့နေရှေ့ရပ်တွေနဲ့ အခြားသော သက်မွေးမှုလုပ်ငန်းရှင်တွေ သုံးလေ့သုံးထရှိတဲ့ စကားတွေကို အများကြီးနားလည်တယ်၊ ဗာလေရီကတော့ စကားပြေရေးရင် သိပ္ပံပညာက စကားလုံးတွေကို သဘောကျလေ့ရှိတယ်။

စာစပြီးရေးတဲ့ ကလောင်သစ်တစ်ယောက်အဖို့ ဘယ်လို စကားလုံးတွေ၊ ဘယ်လိုဝေါဟာရတွေ လေ့လာရမလဲဆိုတာကတော့ သူ ဘယ်ဘာသာရပ်ကို ရေးဖို့ ရွေးချယ်သလဲဆိုတာပေါ်မှာ တည်တယ်။ ပညာရပ်ဆိုင်ရာ စကားလုံးများဟာ၊ စာပိုဒ်များဟာ ပညာရပ်ဆိုင်ရာ အကြောင်းအရာများအတွက် အကောင်းဆုံးဖြစ်ပေမယ့် ဝတ္ထုတို့ရေးတဲ့အခါမျိုးကတော့ ဟိတ်ဟန်များပြီး ဖောင်းပွနေတတ်တယ်။ အများသုံးတဲ့ ရှင်းလင်းလွယ်ကူတဲ့ စကားလုံးတွေဟာ ပညာရှိဆန်တဲ့ စကားလုံးတွေထက် အမြဲတန်းကောင်းတယ်။ ဒဿနဆရာတွေသုံးတဲ့ စကားကြီးစကားကျယ်တွေဟာ အတွေးအခေါ် ခေါင်းပါးတာကို အမြဲတန်း ဖုံးကွယ်မထားနိုင်ပါဘူး။

ကလောင်သစ်များအဖို့ အကောင်းဆုံးလေ့ကျင့်ခန်းကတော့ စာရေးဆရာကြီးတွေရဲ့ စာတွေကို ဖတ်တာဟာ အကောင်းဆုံးပဲ။ အဲဒီစာတွေကို ဖတ်လိုက်ရင် ဝတ္ထုကောင်းတစ်ပုဒ်၊ လက်ရာကောင်းတစ်ပုဒ်ဖြစ်အောင် ဘယ်လိုရေးရတယ်ဆိုတာကို သိလာနိုင်တယ်။ စာရေးဆရာကြီးတွေရဲ့ နည်းနာတွေကို ရင်းနှီးကျွမ်းဝင်လာရင် နမူနာကောင်းတွေကို ရလာလိမ့်မယ်။ အစမှာတော့ တခြား စာဖတ်ဝါသနာပါသူတစ်ဦးလို အပျင်းပြေ လျှောက်ဖတ်ကြည့်တာမျိုးပေါ့။ နောက်တော့ အဲဒီစာအုပ်နဲ့ တဖြည်းဖြည်း ရင်းနှီးကျွမ်းဝင်လာပြီး အဲဒီစာအုပ်ကို တစ်စစီ တစ်စစီ လေ့လာပုံမျိုးနဲ့ အထပ်ထပ်ဖတ်ဖြစ်သွားလိမ့်မယ်။ ဒီလိုနည်းနဲ့ သူတို့ ဒီလိုကောင်းအောင် ဘယ်လိုများရေးပါလိမ့်မလဲလို့ စူးစမ်းလာမိလိမ့်မယ်။ ဘားလ်ဇက်ရဲ့ ဝတ္ထုတစ်ပုဒ်၊ ချက်ကော့ရဲ့ ဝတ္ထုတစ်ပုဒ်၊ ရှိတ်စပီးယားရဲ့ ပြဇာတ်တစ်ပုဒ်ဟာ ဘယ်လိုများ ရေးပါလိမ့်လို့ စူးစမ်းလာမိလိမ့်မယ်။ ပါရမီရှင်တစ်ယောက် ဖြစ်ဖို့အတွက် ဆေးနည်းရယ်လို့တော့ ဘယ်ရှိမလဲ။ ဒါပေမယ့် အဲဒီစာအုပ်တွေကို ဖတ်ပြီး ဖွဲ့နွဲ့မှု အနုပညာ၊ တည်ဆောက်မှု

အနုပညာနဲ့ အချီအချ စကားပြောခန်းတွေကို အသုံးချပုံ စတာတွေကိုတော့ လေ့လာနိုင်မှာပဲ။ ကိုယ်ရေးထားတဲ့ ဇာတ်ဆောင်တွေကို တော်စတွိုင်းရဲ့ ဇာတ်ဆောင်တွေလို အသက်ဝင်နေအောင် လုပ်ချင်ရင် သူ့ရေးဟန်ကို လေ့လာရမယ်။ တော်စတွိုင်းဟာ သူ့ဇာတ်ဆောင်တွေကို အမူအရာတွေနဲ့ ဖော်ပြတာ၊ စိတ်အပြောင်းအလဲတွေနဲ့ ဖော်ပြတာ သူတို့ရဲ့ စကားအသုံးအနှုန်းတွေနဲ့ပြတာကို တွေ့ရလိမ့်မယ်။ ယေဘုယျ အတွေးအခေါ်တတွေကနေပြီး လူပုဂ္ဂိုလ်တစ်ယောက်ရဲ့ လုပ်ဆောင်မှုအဖြစ် ဘယ်လိုပြောင်းသွားတယ်ဆိုတာကို ပြတဲ့ ပရုစ်ရဲ့နည်းတွေကို ကျွန်တော်တို့ အထူးလေ့လာသင့်တယ်။ သူဟာ အဲဒီနည်းတွေကို ဂျော့အဲလိယော့၊ ဒစ်ကင်းစ်နဲ့ ရပ်စကင်း စတဲ့ စာရေးဆရာကြီးတွေဆီက ရခဲ့ခြင်းဖြစ်ပါတယ်။

ဘယ်လိုရခဲ့သလဲ။

သူတို့စာအုပ်တွေကို အမြဲတန်းဖတ်၊ သူတို့စာတွေကို ဘာသာပြန်၊ သူတို့စာတွေကို ကောက်နုတ်ကိုးကား၊ သူတို့စာတွေလို လိုက်ရေးကြည့်ခြင်းဖြင့် ရခဲ့တာဖြစ်ပါတယ်။

ဒါဖြင့်ရင် စာရေးဆရာကြီးတွေကို ပုံတူခိုးချနေတာမျိုး မဖြစ်ဘူးလား၊ အန္တရာယ်မရှိဘူးလားလို့ မေးစရာရှိတယ်။ ကျွန်တော်တို့ ပြောနေတာက ကလောင်သစ်ကလေးတွေကို ဒုတိယ ဘားလ်ဇက်ဖြစ်ဖို့၊ ဒုတိယဒစ်ကင်းဖြစ်ဖို့ ပြောနေတာမဟုတ်ဘူး။ သူ့ဟာသူ ဖြစ်ဖို့ပြောနေတာ။ အန္တရာယ်ရှိတယ်လို့ ထင်ရင် ဒါဟာ အထင်ပဲဖြစ်ပါလိမ့်မယ်။ ပထမအချက်အားဖြင့် ကလောင်သစ်ကလေးဟာ ကျွန်တော်တို့ရဲ့ ခေတ်ပြိုင်ဘဝကို ဒီနေ့အချိန်မှာ ဘားလ်ဇက်အသက်ရှင်နေလို့ ဘားလ်ဇက်ရေးသလို ရတ်တရက် ချက်ချင်း ကောက်ကာငင်ကာ ရေးနိုင်ခဲ့မယ်ဆိုရင် ဒါဟာ သိပ်ကို ဝမ်းသာစရာကောင်းတဲ့ အဖြစ်အပျက်ကြီး ဖြစ်မှာပဲ။ ဒါပေမယ့် တကယ်ကတော့ ကလောင်သစ်ကလေးဟာ ဘယ်လောက်ပဲ ပါရမီထူးချွန်သည်ဆိုစေ အဲဒီလို မရေးနိုင်ပါဘူး။ သူဟာ စာရေးဆရာကြီးတွေရဲ့ နည်းအချို့ကို ရကောင်းရမယ်။ ဒါပေမယ့် သူကလည်း သူ့နည်းနဲ့သူ သုံးမှာပေါ့။ စာရေးဆရာကြီးတွေကို အတုခိုးပြီး ရေးတယ်ပဲထားပါဦး။ တစ်ချိန်ချိန်ရောက်လာတဲ့အခါမှာ သူ့ရဲ့ ပါရမီဉာဏ်ဟာ ရှေ့ကိုရောက်လာပြီး အတုခိုးဖို့ ကိစ္စတွေ ဘာတွေကို အကုန်မေ့၊ အကြောင်းအရာကို သူကိုယ်တိုင်ခံစားပြီး သူ့နည်းနဲ့သူ ရေးသွားမှာပေါ့။ စာရေးဆရာ မော်ရီသေးဟာ တစ်ခါတုန်းက ဗိုဆွေးကို တသွေမတိမ်းလိုက် ပြီး အတုခိုးဖို့ ကြိုးစားခဲ့ဖူးတယ်။ ဒါပေမယ့် သိပ်မကြာပါဘူး။ ချက်ချင်း ဆိုသလိုပဲ ပထမတန်းစား မောရီယေး ပေါ်လာခဲ့တာပါပဲ။

ကျွန်တော်တို့ဟာ အရင်တုန်းက ဘယ်သူမှ မရေးခဲ့ဖူးတဲ့ စာမျိုး၊ ဘယ်သူနဲ့မှမတူတဲ့ စာမျိုးကို ရေးနိုင်လိမ့်မယ်လို့ ဘယ်သူကမှ မျှော်လင့်မထားပါဘူး။ စာပေမှာ စာရေးဆရာတိုင်း၊ လူတိုင်းဟာ တစ်ယောက်ယောက်ရဲ့ စိတ်ဓာတ်အမွေရတဲ့ သားသမီးတွေချည်းပါပဲ။ မူဆေးမှာ ဘိုင်ရွန်ရဲ့ ကျေးဇူးတွေရှိတယ်။ ဘိုင်ရွန်မှာ ဗေါလ်တဲယားရဲ့ ကျေးဇူးတွေရှိတယ်။ ဗေါလ်တဲယားမှာ ဂျိုနသန်ဆွစ်ဖ်ရဲ့ ကျေးဇူးတွေရှိတယ်။ အရေးကြီးတာက ကလောင်သစ်တစ်ယောက်ဟာ အခြားသူများရဲ့ ရေးဟန်ကို လေ့လာခြင်းဖြင့် အဆုံးမှာ ကိုယ်ပိုင်ဝန်တစ်ခုကို မွေးမြူနိုင်အောင် လုပ်ဖို့ပါပဲ။

* * *

# ဟန်

စာကို ဘယ်လိုရေးရမယ်ဆိုတာကို သိတဲ့ ပင်ကို အစွမ်းအစရှိတဲ့ စာရေးဆရာတွေထဲမှာ ဟန်အမျိုးမျိုး ကွဲပြားတာတွေ ရှိကြပါတယ်။ ရှာတို ဘရိုင်းယန်းဟာ ခံစားချက်ပြင်းထန်တဲ့နေရာမှာ စိန့်ဆိုင်မွန်ထက် မလျော့ သည့်တိုင် သူက ထိန်းထိန်းသိမ်းသိမ်း ရေးတတ်ပါတယ်။ သူရေးတာက လည်း သူ့စာကို သူတစ်ယောက်တည်း ဖတ်ဖို့မဟုတ်ဘဲ လူတွေဖတ်ဖို့ ရေး တာ ဖြစ်ပါတယ်။ သူ့ရဲ့ ရေးဟန်ဟာ ကြီးကျယ်တဲ့ ဂန္ထဝင်ခေတ်ကြီးရဲ့ အရိပ် အယောင်တွေ ယှက်သမ်းလို့နေပါတယ်။

ရှာတိုဘရိုင်းယန်းဟာ သူ ကွယ်လွန် ခါနီးအချိန်ကျမှာသာလျှင် သူ့ရဲ့ ထူးချွန်တဲ့ ပါရမီဉာဏ်ကို လွတ်လပ်စွာ လွှတ်ပေးလိုက်ပါတယ်။ လွတ် လပ်စွာလို့ ကျွန်တော် ပြောပါတယ်။ ဟုတ်ပါတယ်။ ဒါပေမယ့် ဒါတောင် ခြွင်းချက်နဲ့ လွှတ်ပေးတာပါ။ သူဟာ သူရေးချယ်ပြနေတဲ့ သူ့ဘဝ ရုပ်ပုံလွှာကို သိစိတ်ရှိရှိကြီးနဲ့ ရေးခြယ်ပြသွားတာပါ။ စိန့်ဆိုင်မွန်ကတော့ သိစိတ် မရှိဘဲ ဇက်ကုန်လွှတ်ရေးသွားပြီး ရှာတိုဘရိုင်းယန်းကတော့ သူ့ရင်ထဲက ခံစားချက် တွေ ပွင့်အန်လာတာကို စောင့်ကြည့်ပြီး ရေးသွားတာပါ။ တစ်ခါတစ်ရံမှာ သူဟာ သတိလက်လွတ်သွားလို့ ပမာဒလေခသွားလို့ ရေးလိုက်မိသည့်တိုင် အောင် သူ ဘာရေးနေတယ်ဆိုတာကို ကောင်းကောင်း သတိထားပါတယ်။

သူရေးနေတဲ့ အကြောင်းအရာကို ရှည်လျားပြီး ခွန်အားကောင်းတဲ့ ဝါကျတွေထဲမှာ သတိထားပြီး ရှင်းလင်းအောင် ရေးသွားခဲ့ပါတယ်။ ဒီလို အရေးအသားမျိုးမှာဖြင့် ရှာတိုဘရိုင်းယန်းဟာ ပါရဂူလို့ ဆိုလောက်ပါတယ်။ သူ့စာတွေ အသံချိုသာ ပြေပြစ်နေအောင် ဘယ်လို နိမိတ်ပုံတွေကို သုံးရမယ်။ သူရေးလေ့ရှိတဲ့ အကြောင်းအရာများကို ဘယ်လို အသံသာအောင် ရေးရမယ် ဆိုတာကို ကောင်းကောင်းသိပါတယ်။

သူရေးလေ့ရှိတဲ့ အကြောင်းအရာများကတော့ အတိတ်က အချစ်ဇာတ်လမ်းတွေကြောင့် နောင်တရပြီး ဝမ်းပန်းတနည်းဖြစ်နေရတဲ့ ဇရာ။ သေခြင်းတရားရဲ့ တဖြည်းဖြည်း နီးကပ်လာနေပုံ။ ကျော်ကြားမှုရဲ့ အချည်းနှီးဖြစ်မှု၊ ရွှန်ဘို့က တောအုပ်ညိုညိုတွေကို သတိရစေတဲ့ လရောင်တို့ အကြောင်းပဲ ဖြစ်ပါတယ်။ ဘုရားသခင်နဲ့ လက်ဝါးကပ်တိုင်သည်ပင်လျှင် သူ့ကိုယ်ရေးကိုယ်တာဘဝရဲ့ မြင့်မြတ်ကြီးကျယ်မှုထဲမှာ အစိတ်အပိုင်းအစလေးတွေ ဖြစ်နေပါတယ်။ ဒီအရာတွေ အားလုံးဟာ သူ့ရဲ့ ရေးဟန်ကို ပြဋ္ဌာန်းပါတယ်။ ဒီအရာတွေအားလုံးဟာ သူကိုယ်တိုင်ပဲဖြစ်ပါတယ်။

ရုဒ်ယက် ကစ်ပလင်းကို ကျွန် တော် ကောင်းကောင်းသိပါတယ်။ သူ့စကားပြောတာကို နားထောင်ကြည့် လိုက်ရင် သူ့ စာအရေးအသား၊ သူ့ အပြုအမူ သူ့ဟန်ပန်ကို ချက်ချင်း အကဲခတ်လို့ ရပါတယ်။

ကျွန်တော်ပြောမယ့်အကြောင်းက မဖြစ်နိုင်ဘူးလို့ ထင်စရာပါပဲ။ ဒါပေမယ့် လူဆိုတာ ဒီအတိုင်းပါပဲ။ လူတွေအကြောင်းကို ကျွန်တော် ကောင်းကောင်းသိတာပေါ့ ဆိုတာလောက်ကို ပြောလိုက်တာနဲ့ အဲဒီစကားရဲ့ နောက်မှာ လျှို့ဝှက်ဖုံးကွယ်တဲ့ သဘောတစ်ခုရှိနေတယ်ဆိုတာကို ပြနေတယ်။

ကစ်ပလင်းဟာ သူ့ရည်ရွယ်ချက်၊ သူ့ဦးတည်ချက်ကို ဘယ်တော့မှ တိုက်ရိုက်မပြောဘဲ အရိပ်ထဲမှာ ဝှက်ထားလေ့ရှိတယ်။ ဒီလို အတတ်ပညာမျိုးမှာ သူဟာ အင်မတန် တော်တယ်။ သူပြောချင်တာကို အရိပ်ထဲမှာ ဝှက်ထားပြီး တစ်ဖက်သားခန့်မှန်းလို့ရရုံ တစ်ပိုင်းတစ်စ ကလေးပဲ ဖော်ထားတတ်တယ်။

မြက်ခင်းပေါ်မှာလှဲရင်း ခေါင်းကို လက်မောင်းတစ်ဖက်နဲ့ ထောက်ထားပြီး ထူထဲထဲမျက်ခုံးတွေအောက်က စူးရှတောက်ပတဲ့ မျက်လုံးအစုံနဲ့ ကြည့်နေတဲ့ပုံဟာ ကစ်ပလင်းရဲ့ ဟန်ပါပဲ။ ၁၉၃၀ ခုနှစ် တစ်ဝိုက်လောက်မှာ ကျွန်တော်နဲ့တွေ့တုန်းက အဲဒီတုန်းက အန္တရာယ်ကြီးစွာ ပြောင်းလဲနေတဲ့ ဂျာမနီနိုင်ငံနဲ့ ပတ်သက်လို့ သူပြောတဲ့စကားတစ်ခွန်းကို ကျွန်တော် မှတ်မိနေသေးတယ်။

'လူမျိုးတစ်မျိုးဟာ သူ့အရိပ်နဲ့ တူလာတာနဲ့ အဲဒီလူမျိုးဟာလည်း အဆုံးသတ်သွားရတာပဲဗျ'။ ကျွန်တော့်ကို ပြောဖူးပါတယ်။ ဒီစကားမျိုးဟာ ကစ်ပလင်းပြောနေကျ စကားမျိုးပါ။ အနက်အဓိပ္ပါယ်ကို အကျယ်ချဲ့မပြောဘဲ ဖုံးဖုံးကွယ်ကွယ်နဲ့ပြောတဲ့ သတိပေးစကားမျိုးပါ။ သူအထင်ကြီးတဲ့ ရှေးခေတ်အိန္ဒိယပြည်က သူတော်စင်ကြီးတွေနဲ့ သမ္မာကျမ်းစာဟောင်းထဲက ပုရောဟိတ်တွေပြောတဲ့ လေသံမျိုးပါပဲ။

ဒါဟာ ကစ်ပလင်းရဲ့ တွေးပုံတွေးနည်းနဲ့ ရေးပုံရေးနည်းဖြစ်ပါတယ်။ ဟန်ဆိုတာ စိတ်နေစိတ်ထားကို ဖော်ပြတဲ့ အမှတ်အသားတစ်ခု ဖြစ်တယ်။ ဒီအမှတ်အသားဟာ စာပေထဲမှာလည်း ထင်ဟပ်နေတယ်ဆိုတဲ့ ကျွန်တော် ဖွင့်ဆိုချက်ကို တချို့က အတွေးခေါင်လွန်းတယ်။

လူပုဂ္ဂိုလ်တစ်ဦးချင်းကို အသားပေးပြောလွန်းတယ်လို့ ထင်ကောင်းထင်ကြပါလိမ့်မယ်။ ရှေးဂန္ထဝင်စာရေးဆရာကြီးများဟာ သူတို့ စာတွေထဲမှာ သူတို့ရဲ့ ကိုယ်ပွားရုပ်၊ သူတို့ရဲ့ စိတ်ကူးတွေ ဖော်ပြဖို့ထက် ကမ္ဘာလုံးဆိုင်ရာ အမှန်တရားကိုဖော်ပြဖို့ ကြိုးစားခဲ့ကြတယ်လို့ ပြောလေ့ရှိကြပါတယ်။ ဒါပေမယ့် အမြင်ဟာ အစစ်ဆေးခံနိုင်တဲ့ အမြင်မဟုတ်ပါဘူး။ ရေစင်းရဲ့ ဟန်နဲ့ ကော်နယ်လီရဲ့ဟန်ဟာ မတူနိုင်ပါဘူး။ ပါစကာရဲ့ စာတစ်ကြောင်းကို ဖတ်လိုက်ရုံနဲ့ ဒီစာဟာ ဘယ်သူရေးတဲ့ စာဆိုတာ ကျွန်တော်တို့ ကောင်းကောင်း မှတ်မိနိုင်ပါတယ်။

'မောလဲရဲ့ စကားပြောခန်းထဲ စာပုဒ်တစ်ပိုဒ်နဲ့ ဗျူမာခေး၊ မာရီဗျူတို့ရဲ့ စာတစ်ပိုဒ်တွေကို အလယ်တန်းကျောင်းသားကလေး တစ်ယောက်တောင် လွယ်လွယ်နဲ့ ခွဲခြားနိုင်ပါတယ်။ ဗိုဆွေးနဲ့ ဖော်လ်တဲယားတို့ နှစ်ယောက်စလုံးဟာ ဂန္ထဝင်စာရေးဆရာတွေချည်းပါပဲ။ ဒါပေမယ့် သူတို့နှစ်ယောက်ရဲ့ စကားအသုံးအနှုန်း တိကျတာကလွဲလို့ တခြားတူညီချက်ရယ်လို့ သိပ်မရှိပါဘူး။

မှန်ပါတယ်။ ဂန္ထဝင်ကျမ်းဂန်စာပေတွေထဲမှာ ခွဲခြားလို့မရတဲ့ အရေးအသားတွေ ရှိပါတယ်။ တစ်နည်းပြောရရင် အမည်နာမခွဲခြားလို့ မရတာတွေ ရှိပါတယ်။ ဒါပေမယ့် အဲဒီ အရေးအသားတွေဟာ ရသစာရေးဆရာတွေရဲ့ စာပေတွေမဟုတ်ပါဘူး။ တိတိကျကျ ပြောရရင် သူတို့ အရေးအသားတွေဟာ စာရေးဆရာလို့တောင် မခေါ်နိုင်ပါဘူး။

စာရေးဆရာရဲ့ ရေးဟန်ဆိုတဲ့အထဲမှာ အချက်နှစ်ချက်ပါရမယ်လို့ အာလိန်းက ပြောခဲ့ပါတယ်။ အဲဒီ အချက်နှစ်ခုကတော့ စကားပြေအရေးအသားကို ရေးသွားရာမှာ သိသာထင်ရှားတဲ့ နေရာတိုင်းမှာ ပြေပြစ်မှုနဲ့ ညက်

ညောမှုတို့ပါပဲ။ စကားပြေအရေးအသားပြေပြစ်မှုနှင့် ညက်ညောမှု ဟာအထက်မှာ ကျွန်တော်ပြောတဲ့ လေ့ကျင့်သင်ကြားမှု နှစ်ခုလို ဖြတ်သန်းခဲ့မှသာ ရနိုင်တဲ့ အရာများဖြစ်ပါတယ်။

အဲဒီလေ့ကျင့်မှုနှစ်ခုကတော့ အဖတ်နဲ့ အရေးတို့ ဖြစ်ပါတယ်။ ဒါပေမယ့် ဒီလေ့ကျင့်သင်ကြားမှုနှစ်ခုကို လုပ်ရာမှာလည်း မရွှေမပဋ္ဌိပဒါ ကျဖို့လိုပါတယ်။ စာရေးကောင်းအောင်ဆိုပြီး အရမ်းကာရော အလွန်အကျွံ အားထုတ်ကြိုးပမ်းပြန်ရင်လည်း အကောင်းဆုံး အဆင့်အတန်းကို မရောက်ဘဲ ဖြစ်တတ်တယ်။ အားထုတ်ခြင်းမပြုဘဲ အလိုအလျောက် ရေးလိုက်တဲ့ ဖလောဘေးရဲ့ ပေးစာများထဲက စကားပြေဟာ ကြိုးစားအားထုတ်ရေးတဲ့ သူ့ဝတ္ထုထဲက စကားပြေတွေထက် ကောင်းနေတာကို တွေ့ရပါတယ်။ သူ့ ဝတ္ထုထဲက စကားပြေကတော့ အားထုတ်ပြီးရေးရတဲ့အတွက် သူ့ရေးဟန်ဟာ သဘာဝမကျတော့ဘဲ ထောင့်ပြီး ပျော့တွဲနေပါတယ်။

အားလိန်းကိုပဲ ကိုးကားပြောရရင် 'ရေးဟန်သည် လူ၏ မွန်ရည်သော အပြုအမူ၊ အနေအထိုင်တို့ကဲ့သို့ ဘယ်တော့မှ အတင်းလုပ်ယူ၍ မရချေ။ အတင်းလုပ်ယူခြင်းမဟုတ်ဘဲ အလိုအလျောက် လွတ်လပ်စွာ စီးဆင်းမှုကိုသာ ဖော်ပြသင့်ပေသည်' လို့ သူက ပြောခဲ့ပါတယ်။

လက်နဲ့လုပ်တဲ့ သံထည်ပစ္စည်း ကျောက်ဆစ်ရုပ်များမှာ တွေ့ရတတ်သလို ကိုင်တွယ်တဲ့ ပစ္စည်းရဲ့ ခုခံမှု၊ အဲဒီပစ္စည်းရဲ့ အနေအထားအလိုက်သာ ဖန်တီးသင့်တယ်။

ဒါကြောင့်မို့ ကျွန်တော်တို့ ရေးခေတ်အလွမ်းဇာတ်တွေမှာ တွေ့ရသလိုပါပဲ။ ဟန်ဟာ ပင်ကိုကနေပြီး ပေါ်ထွက်လာခြင်းဖြစ်ပါတယ်။ ကိုယ့်ပင်ကိုကို ဖော်ပြဖို့ ကြိုးစားခြင်းမရှိဘဲ ကစ်ပလင်းနဲ့ တူအောင်၊ ရှာတိုဘရိုင်းယန်းနဲ့တူအောင်၊ ဖလောဘေးနဲ့တူအောင် ကြိုးစားနေတဲ့ စာရေးဆရာတစ်ယောက်ကို သူတို့နဲ့တူအောင် လုပ်မနေနဲ့ ကိုယ်နဲ့တူအောင် ကြိုးစားလို့ သွားပြီး အကြံပေးနေလို့ အချည်းနှီးပါပဲ။

အမှန်ကတော့ ကိုယ်နဲ့တူအောင် လုပ်တဲ့ကိစ္စဟာ သိပ်လွယ်တဲ့ကိစ္စတော့ မဟုတ်ပါဘူး။ ကိုယ့်ကိုယ်ကို ရှာဖွေမတွေ့ကြဘဲ သေသွားကြတဲ့ စာရေးဆရာတွေ အများကြီးပါပဲ။ ဒါမှ မဟုတ်ရင်လည်း ကိုယ့်ခံစားချက်ကို ကိုယ့်ရေးဟန်အဖြစ် ကူးပြောင်းမပေးနိုင်ဘဲ သေသွားတဲ့ စာရေးဆရာတွေ အများကြီးပါပဲ။ ဒီလိုဖြစ်ရတာဟာ တခြားကြောင့် မဟုတ်ပါဘူး။

အဲဒီ စာရေးဆရာတွေမှာ ပြုစုပျိုးထောင်မှုနည်းခြင်းနဲ့ စကားလုံးတွေကို ကိုင်တွယ်သုံးစွဲရာမှာ ကျွမ်းကျင်မှုနည်းခြင်းကြောင့် ဖြစ်ပါတယ်။ တစ်ခါ

တစ်လေမှာလည်း ပြုစုပျိုးထောင်မှုများသွားလို့ ဒီလိုဖြစ်တာမျိုးတွေ ရှိတတ်ပါသေးတယ်။ သူတို့ကျတော့ သူများတွေရဲ့ ရေးဟန်အမျိုးမျိုးကို သိပ်သဘောကျလွန်ပြီး ကိုယ်ပိုင်ဟန်ကို မထူထောင်နိုင်တော့ဘဲ ဖြစ်သွားတတ်ပါတယ်။

ဒီလိုဆိုရင် ရေးဟန်နဲ့ ပတ်သက်လို့ စာရေးဆရာငယ်တွေကို ဘယ်လို အကြံပေးမလဲ။ နဂိုပကတိအတိုင်း ရှိပေ့စေလို့ အကြံပေးမလား။

ဒီလိုတော့လည်း မဟုတ်ပါဘူး။ ကျောက်ရိုင်းဆိုတာ အရောင်မှ မထွက်တာပဲ။ အဲဒီကျောက်ရိုင်းဟာ အရောင်ရှိတာတော့ မှန်တယ်။ ဒါပေမယ့် မမြင်ရဘူး မဟုတ်လား။ ကျွန်တော်ပေးချင်တဲ့ အကြံဉာဏ်ကတော့ စာရေးဆရာငယ်ငယ်တွေနဲ့ သင့်တော်တဲ့ ဆရာကြီးတွေရဲ့ စာပေတွေကို များများဖတ်ရမယ်။ သူတို့ကိုယ်တိုင် ပင်ကိုအရ သဘောကျတဲ့ စာရေးဆရာကြီးတွေကို ရှာရမယ်။

တွေ့ပြီဆိုတာနဲ့ သူတို့ရဲ့စာပေတွေကို အပတ်တကုတ် ကြိုးစားလေ့လာရမယ်။ မောရီယေးဟာ ရှာတိုဘရိုင်းယန်းကို အမြဲတမ်း ဖတ်တယ်။ ပါစကာရဲ့ စာတွေကို အမြဲဖတ်လေ့ရှိတယ်။ ဒီတော့ တချို့လည်း ဗော်လီဗျူးယား၊ အနာတိုဖရန့်စ်တို့ရဲ့ စာပေတွေမှာ အာဟာရကို ရှာဖွေသင့်တယ်။ တချို့လည်း ဟင်းမင်းဂွေးတို့ စတင်ဒယ်တို့ရဲ့ စာပေတွေထဲမှာ အာဟာရကို ရှာဖွေသင့်တယ်လို့ ထင်တယ်။

စာရေးတဲ့ အခံပါရမီ ရှိသည်ဖြစ်စေ၊ မရှိသည်ဖြစ်စေ ကြိုးစားတဲ့ စာရေးဆရာဟာ နေ့တိုင်း စာနည်းနည်းတော့ ရေးသင့်တယ်။ စာရေးတဲ့ အလေ့အထဟာ ကောင်းတဲ့အလေ့အထတစ်ခုဖြစ်တယ်။

တစ်ခုတော့ရှိတယ်ပေါ့။ စာရွက်ပေါ်မှာ ရေးချလိုက်တဲ့စာဟာ ကိုယ့်ရင်ထဲက ပြောချင်နေတဲ့ စကားတွေ၊ ခံစားချက်တွေတော့ ဖြစ်ရလိမ့်မယ်။ လွယ်လွယ် ရေးရိုးရေးစဉ် ရေးတာမျိုးတွေတော့ မဖြစ်သင့်ဘူးပေါ့။ စိတ်အားထက်ထက်သန်သန်၊ ရိုးရိုးသားသားလုပ်တာမျိုး မဟုတ်ရင် သတင်းစာပညာဟာ စာရေးတဲ့ အတတ်ပညာကို အန္တရာယ်ပြုလာနိုင်တယ်။

ဘာဖြစ်လို့လဲဆိုတော့ သတင်းစာပညာဆိုတာ ရေးဟန်တို့ ဘာတို့ကို အရေးမထားဘဲ သတင်းတွေကိုချည်း လျှောက်ရေးရတဲ့ ပညာမျိုး မဟုတ်လား။

လူဝီကိုးရှူးယားတို့၊ ဒေဒိရော့ တို့ လုပ်သလို ဝါသနာပါလို့ လေ့လာလိုက်စားတယ်ဆိုရင်တော့ သတင်းစာပညာဟာ ရှင်းလင်းတိကျပြီး ကောင်းတဲ့အရေးအသားကို လေ့ကျင့်သင်ကြားရာမှာ အံ့ဩစရာကောင်းတဲ့ ကျောင်းတော်ကြီးပေါ့။ စာတိုကလေးတွေကို စပြီးရေးပါဆိုတဲ့ ဂါလားရဲ့

အကြံဉာဏ်ဟာ တော်တော်ကောင်းတဲ့ အကြံလို့ ကျွန်တော် ထင်တယ်။ စာတစ်ပုဒ်ကို အဆုံးတိုင်အောင် ရေးသွားနိုင်တယ်ဆိုတဲ့ အချက်သည်ပင်လျှင် လက်သင်စာရေးဆရာတစ်ယောက်အဖို့ အားတက်စရာကြီးပါပဲ။

အသက်နှစ်ဆယ်လောက်မှာ တကယ့် မော်ကွန်းဝတ္ထုရှည်ကြီးမျိုးတွေကို ရေးမယ်လို့ စိတ်ကူးတာမျိုးကတော့ နှစ်ထပ်ကွမ်း မိုက်မဲရာ ရောက်လှတယ်။ ဒီအရွယ်မှာ ဘယ်သူမဆို လိုအပ်တဲ့အတတ်ပညာဆိုင်ရာ ကျွမ်းကျင်မှုကလည်း မရှိသေးဘူးမဟုတ်လား။ ကိုယ်ရေးပြမယ့် ဘဝနဲ့ ပတ်သက်တဲ့အတွေ့အကြုံကလည်း လုံလောက်အောင် မရှိသေးဘူးမဟုတ်လား။ တခြားသော အသက်မွေးဝမ်းကျောင်း တစ်ခုမရှိတာနဲ့ စာရေးတာမျိုးကတော့ လုံးဝမဖြစ်သင့်ဘူး။ ဟန်ဆိုတာ လဟာပြင်ထဲမှာ အသက်ရှင်နိုင်တာ မဟုတ်ဘူး။ ဒစ်ကင်းဟာ တစ်ခါတုန်းက သတင်းထောက်လုပ်ခဲ့ဖူးတယ်။ ဘားလ်ဇက်ဟာ ရှေ့နေစာရေး လုပ်ခဲ့ဖူးတယ်။ ချက်ကော့ဟာ ကျေးလက် ဆရာဝန်လုပ်ခဲ့ဖူးတယ်။ ဒါတွေကို မမေ့သင့်ဘူး။ အနုပညာဆိုတာ ဘဝနဲ့မတူ ကွဲပြားခြားနားတယ်။ ဒါပေမယ့် ဘဝမရှိဘဲ အနုပညာမရှိနိုင်ဘူး။

'စိတ်ကူးနေတဲ့ အလုပ်ကို အတတ်နိုင်ဆုံး လျှော့သင့်တယ်' လို့ အာလိန်းက ရေးခဲ့ပါတယ်။ သူဆိုလိုတဲ့ သဘောက စာအုပ်တစ်အုပ်ကို ဘယ်လိုရေးမလဲဆိုတဲ့ကိစ္စကို နှစ်ရှည်လများ စဉ်းစားမနေနဲ့လို့ ဆိုလိုတဲ့ သဘောပါ။ ကျွန်တော်ဟာ ပထမဆုံး စာအုပ်တစ်အုပ်ကိုရေးဖို့ တစ်သက်လုံး အချိန်ကုန်ခံသွားကြတဲ့ စာရေးဆရာတွေ၊ ဒါမှမဟုတ် စာရေးဆရာဖြစ် ချင်တဲ့လူတွေ တွေ့ဖူးပါတယ်။ 'အရေးကြီးတဲ့ အချက်ကလေးတွေ လိုနေသေးလို့ ကျွန်တော့် ဝတ္ထု မစနိုင်သေးဘူး' လို့ ပြောတဲ့လူတွေ။

'ကျွန်တော် ဒီအတ္ထုပ္ပတ္တိ ရေးချင်နေတာ ကြာလှပြီ။ ဒါပေမယ့် အရေးကြီးတဲ့ အထောက်အထားကေတွေ ရှာလို့မရသေးလို့ မရေးနိုင်သေးဘူး' ဆိုတဲ့ လူတွေကို ကျွန်တော် တွေ့ဖူးတယ်။ ဒီလိုပြောရင်း အချိန်တွေပဲ ကုန်သွားတယ်။ ဘာမှ မလုပ်ဖြစ်ကြဘူး။ ဒီတော့ ကျွန်တော် အကြံပေးချင်တာက ကိုယ်ရေးမယ့်အကြောင်းအရာကို ရွေးပြီးပြီဆိုရင် ရေထဲကို ခုန်ဆင်း ကူးလိုက်သလို ချက်ချင်းကောက်ရေးပစ်လိုက်ဖို့ လိုတယ်။

ရေအေးသလား၊ ပူသလားသိအောင် ခြေထောက်ကလေးနဲ့ စမ်းစမ်းပြီးမှ ရေထဲဆင်းနေရင် ဒီလူဟာ ဘယ်တော့မှ ရေကူးတတ်မှာ မဟုတ်တော့ဘူး။ ရေထဲကို တစ်ခါတည်း ခုန်ဆင်းလိုက်ရင် ရေရဲ့ အပူချိန်၊ ရေစီးကြောင်းစသည်တို့နဲ့ တစ်ခဏအတွင်းမှာ နေသားကျသွားမှာပါပဲ။ ဒါကြောင့် ပထမဆုံး ဆုံးဖြတ်ချက်ဟာ သိပ်ကိုအရေးကြီးတယ်။ ဒီဆုံးဖြတ်ချက်ကို မလုပ်နိုင်ရင်

ဘာမှဖြစ်မှာမဟုတ်ဘူး။ တကယ်လို့ ရေးမိပြီဆိုရင်တော့ စာအုပ်က 'သူ့ဘာသာသူ ပုံစံပြသွား' ပါလိမ့်မည်။

ဒီထက် တိတိကျကျပြောရရင် မနက်ခင်း စားပွဲမှာထိုင်ပြီး မနေ့က ကိုယ်ရေးခဲ့တဲ့စာကို ပြန်ဖတ်နေတဲ့ စာရေးဆရာဟာ ဘယ်လိုဆက်ရေးရမယ်ဆိုတာကို အလိုလိုသိလာပြီး သူ့ကိုယ်သူတောင် အံ့ဩနေပါလိမ့်မယ်။

တက္ကသိုလ်တစ်ခုမှာ ကျောင်းသားတွေက သူတို့ကို အရေးခိုင်းထားတဲ့ စာစီစာကုံးတွေကို ပါမောက္ခကို သွားအပ်တော့ ပါမောက္ခ ပထမဆုံး ပြောတဲ့စကားက 'မင်းတို့ စာစီစာကုံးရေးတော့ ပထမဆုံး စာမျက်နှာကို ဆုတ်ပစ်ချင်တဲ့စိတ် မပေါ်ဘူးလား' လို့ မေးဖူးတယ်။ စာစီစာကုံးက ပထမ စာမျက်နှာဟာ ညံ့မှာပဲဆိုတာ မဖတ်ဘဲနဲ့ သူခန့်မှန်းလို့ရနေတယ်။ အစ ဆိုတာ သိပ်ခက်တတ်တာကိုး။

'ကျွန်တော်တို့ ကိုယ် ကျွန်တော်တို့ လိမ်တတ်တဲ့နေရာဟာ အဲဒီ အစမှာပဲ' လို့ ချက်ကော့က ပြောခဲ့ဖူးတယ်။

စာ စရေးစဆိုတော့ ကိုယ်ကလည်း နွေးမလာသေးဘူး။ ကျင့်သားရမလာသေးဘူး။ ဒီတွင် ဟိုလျှောက်ရေး သည်လျှောက်ရေး၊ စကားကြီးစကားကျယ်တွေ သုံးလိုသုံးနဲ့ ဖြစ်ကုန်ကြတော့တာပဲ။ ကျွန်တော့်ရဲ့ ကိုယ်ပိုင်အတွေ့အကြုံကို ပြောရမယ်ဆိုရင်တော့ စာတစ်ပုဒ်ကို ဘယ်လိုစရေးမယ်ဆိုတာ ဘာမှ ကြိုတင်ပြောလို့မရဘူး။ ဒါပေမယ့် အရှိန်ရသွားတာနဲ့ ပကတိစိတ်က အလိုလို ရှေ့ဆောင်ခေါ်သွားတာပဲ။ စာရေးဆရာ အကျော်ကြီးတွေ သူတို့ဝတ္ထုတွေအဖွင့်မှာ ဗြုန်းဆို ကောက်ဖွင့်လိုက်တာဟာ ဒါကြောင့်မို့ ထင်တာပဲ။ တချို့ဆိုရင် ဝတ္ထုစဖွင့်လိုက်တာနဲ့ တစ်ပြိုင်နက် အထဲမှာပါတဲ့ ဇာတ်ဆောင်တွေ ဘယ်သူတွေ ဘယ်ဝါတွေဆိုတာကို ပြောမနေတော့ဘဲ ဇာတ်ဆောင်တွေ ပြောတဲ့ စကားပြောခန်းတွေကို စာဖတ်သူကို တန်းပို့လိုက်တာပဲ။ အဲဒီမှာ စာဖတ်သူဟာ ကိုယ့်ဘာသာကိုယ် ရွေးဖတ်ပြီး ကိုယ့်လမ်းကို ရှာသွားပေတော့။ စောစောက ပါမောက္ခပြောတဲ့ စကားဟာ မှန်တယ်။ ပထမစာမျက်နှာဆိုတာ စမ်းတဝါးဝါး ဖြစ်နေတတ်တယ်။ အပိုဆာဒါတွေ များနေတတ်တယ်။ အထနှေးနေတတ်တယ်။ အဲဒီလိုဆိုရင် အဲဒီ ပထမ စာရွက်ကို ဆုတ်ဖြဲပစ်လိုက်တာက ကောင်းတယ်။

အသိဉာဏ်ရင့်တဲ့ စာဖတ်သူအတွက်ကတော့ ဒီလို ပထမစာမျက်နှာမျိုးဟာ လိုတောင် မလိုပါဘူး။

စာတစ်ပုဒ်ကို ဘယ်လို နိဂုံးချုပ်မလဲဆိုတဲ့ အတတ်ပညာနဲ့ ပတ်သက်လို့တော့ အကြောင်းအရာပေါ်မှာ တည်တယ်။ အဲဒီစာအုပ်ဟာ စစ်တမ်း

တစ်ခု၊ အဆိုတစ်ခုကို ချေပတဲ့ စာအုပ်မျိုး ဖြစ်တော့ နိဂုံးဟာ တေးဂီတ သီချင်းတစ်ပုဒ်ကို ဗီသိုဗင် အဆုံးသတ်သလို အဆုံးသတ်သင့်တယ်။ ဗီသိုဗင်ဟာ သူ့တေးဂီတတွေထဲမှာ တူရိယာတွေကို အသံအမျိုးမျိုးနဲ့ တီးလာရာက နောက်ဆုံးမှာ တူရိယာတွေအားလုံး တစ်သံတည်းစုပေါင်းပြီး အဆုံးသတ်လိုက်သလို စာရေးဆရာဟာလည်း နောက်ဆုံးမှာ သယ်ယူလာတာတွေကို စုပေါင်း ပြုသွင်းလိုက်တာမျိုး ဖြစ်သင့်တယ်။ သမိုင်းနဲ့ အတ္ထုပတ္တိမှာ ဆိုရင်တော့ ဝဂ်နာရဲ့ တေးတစ်ပုဒ်လို အဆုံးသတ်သင့်တယ်။

ရှေ့ပိုင်းက ဖော်ပြလာခဲ့တဲ့ ရည်ရွယ်ချက်တွေ၊ အာဘော်တွေကို နောက်ဆုံးစာမျက်နှာမှာ ပြုထည့်လိုက်တဲ့ နည်းပဲ။ ဝတ္ထု သို့မဟုတ် အခြားသော ရသစာပေ၊ အထူးသဖြင့် ကဗျာဆန်တဲ့ စာမျိုးဆိုရင်တော့ ကျွန်တော်သဘောကျတာ စာဖတ်သူကို တနုံ့နုံ့တွေးနေရစ်စေမယ့် နိမိတ်ပုံမျိုးနဲ့ အဆုံးသတ်တာမျိုးကို ကျွန်တော် သဘောကျတယ်။ ဝတ္ထုကောင်းကြီးတစ်ပုဒ်၊ ဒါမှမဟုတ် သေသေချာချာရေးထားတဲ့ ဝတ္ထုတစ်ပုဒ်ဟာ ဘာကိုမှ ဥပဒေသတွေ ထုတ်ပေးနေစရာ မလိုပါဘူး။ ဇာတ်ဆောင်တွေဟာ သူတို့အခန်းကို သူတို့ ကပြပြီးခဲ့ကြပြီ။ ဘဝကလည်း ဆက်လက်သွားမြဲ သွားနေပြီ။ ဒီတော့ နောက်ဆုံးစာပိုဒ်ကို လေထဲမှာ ခြေတစ်ဖက်မြှောက်ပြီး တန်းလန်းထားပစ်ခဲ့သင့်တယ်။ ရှူပင်က သူ့သီချင်းတွေကို အဆုံးသတ်ပုံမျိုးပေါ့။ ခက်တာက ဒီလိုကိစ္စမျိုးမှာ ပုံသေ သတ်မှတ်ထားလို့တော့ မရဘူးပေါ့။ ဒါပေမယ့် မော်ကွန်းဝတ္ထုရေးတဲ့ စာရေးဆရာများကတော့ သူ့ဝတ္ထုကို နောက်ဆုံးမှာ အလွန်မြည်ဟိန်းပြီး အလွန်မြိုင်တဲ့တက်သံစုံကြီးနဲ့ အဆုံးသတ်ချင်ကြတယ်။ ဘိုလီရိုသီချင်းခွံကြီးမှာ ကာဗယ် အဆုံးသတ်သလို နယူးဝါးစ်ဆင်ဖိုနီမှာ ဒိုးဗရပ် အဆုံးသတ်သလို ဆိုပါတော့။

ဖွဲ့စည်းမှုရဲ့ အသွင်လက္ခဏာ အချက်များဟာ ဘယ်အနုပညာရပ်မှာဖြစ်ဖြစ် အတူတူပါပဲ။ စာရေးဆရာဟာ သူ့ရဲ့ စာရေးတဲ့လုပ်ငန်းကို ပိဋကတ်တိုက်ထဲမှာ လေ့လာသလို ဂီတခန်းဆောင်ထဲမှာလည်း အများကြီး လေ့လာနိုင်ပါတယ်။

* * *

# ဝတ္ထုဘာယ်လိုရေးမလဲ

စာရေးဆရာဆိုတာ တခြားသူတွေနဲ့ မတူဘူး။ မိမိရဲ့ ခံစားချက်ကို ထုတ်ဖော်ပြောဆိုချင်တဲ့ သူ ဖြစ်တယ်လို့ ကျွန်တော် ပြောခဲ့ပြီးပြီ။ ဒါပေမယ့် ဒီခံစားချက်တွေကို ဖော်ပြတဲ့ ပုံသဏ္ဌာန်ကတော့ ခေတ်ကိုလိုက်ပြီး ကွဲလွဲလေ့ ရှိတယ်။ အကယ်၍သာ ဗာလေရီဟာ ဆယ့်ခြောက်ရာစုနှစ်မှာ မွေးခဲ့ရင် ဆော လက် ကဗျာတွေကို ရေးခဲ့မှာပဲ။ ဆယ့်သုံးရာစုနှစ်မှာ မွေးခဲ့လို့ရှိရင် သည်း ထိတ်ရင်ဖို ပြဇာတ်တွေကို ရေးခဲ့မှာပဲ။ မူလ ဇစ်မြစ်ကို ပြောရင် အနုပညာနဲ့ ဘာသာတရားဟာ ကျမ်းစာများနဲ့ ကဗျာမော်ကွန်းကြီးတွေဟာ နီးကပ်စွာ ဆက်သွယ်နေကြတယ်။ သမ္မာကျမ်းစာဟာ မော်ကွန်းကြီးတစ်စောင်ပဲ မဟုတ် လား။ ဟိုးမားဟာ ဂရိလူမျိုးတွေကို သူတို့ရဲ့ အရေးကြီးတဲ့ ဒဏ္ဍာရီတွေကို ပေးခဲ့တဲ့ ဓမ္မကြောင်းနွယ်တဲ့ ကဗျာစာဆိုတစ်ယောက်ဖြစ်တယ်။ ကဗျာစာဆို ဟာ ပဉ္စလက်ဆရာတစ်ဦးဖြစ်ပြီး သူ့မှာ ဂါထာတွေ ရှိတယ်။ မန္တန်တွေရှိတယ်။ ဆန်းသစ်လာပြီဆိုတာနဲ့ ကဗျာဟာ သူ့ရဲ့ မူလ ဇစ်မြစ်ဖြစ်တဲ့ စကားလုံးတွေရဲ့ ပဉ္စလက်အတတ်ဆီကို ပြန်သွားတာပဲ။

အားလုံးသိကြတဲ့အတိုင်း ဇာတ်သဘင်ဟာလည်း ဘာသာရေးနဲ့ နွယ်တဲ့ လျှို့ဝှက်ဆန်းကြယ်တဲ့အကြောင်းအရာများကို တင်ပြတဲ့ နေရာဖြစ်

တယ်။ ရှေးက ဂရိလူမျိုးတွေက ဇာတ်သဘင်ကို ဘာသာရေးနဲ့ ဆိုင်တဲ့ အခမ်းအနားတစ်ခု၊ နိုင်ငံတော် အခမ်းအနားတစ်ခုအဖြစ် သဘောထားခဲ့ကြတာကို ကြည့်ရင် ဒီအချက်ကို သိနိုင်တယ်။ ဘုရားရှိခိုးကျောင်းတွေရဲ့ ရှေ့ကွင်းပြင်မှာ ကရုဏာတော်တို့ကို ပြသတဲ့ အလယ်ခေတ်က ပြဇာတ်တွေဟာလည်း ဒီအတိုင်းပါပဲ။ ဆယ့်ခုနစ်ရာစုနှစ် ပြင်သစ် စာရေးဆရာတွေ ရေးတဲ့ အလွမ်းဇာတ်တွေမှာ ဂရိပြဇာတ်ရဲ့ ဩဇာနဲ့ အလယ်ခေတ် ပြဇာတ်တွေရဲ့ ဩဇာတွေ အများကြီးသက်ရောက်နေတာကို တွေ့နိုင်တယ်။ ဂရိပြဇာတ်တွေရဲ့ ဩဇာကတော့ ပိုကြီးတယ်လို့ ဆိုနိုင်တယ်။ ရေစင်းအပေါ်မှာ ပီရီကလီနဲ့ ယူရီပီဒီးတို့ရဲ့ ကျေးဇူးတွေ အများကြီးရှိတယ်။ ကျွန်တော်တို့အဖို့ အရေးကြီးတဲ့အချက်က ရေစင်းဟာ သူ့ခံစားချက်တွေကို ဖော်ပြဖို့ နဲ့ သူ့ခေတ်က လူတွေရဲ့ ခံစားချက်တွေကို ဖော်ပြဖို့အတွက် ဂရိတို့ရဲ့ အလွမ်းဇာတ် အစဉ်အလာသဘောတွေကို အသုံးပြုခဲ့တယ်ဆိုတဲ့ အချက်ပဲ။ အနုပညာရဲ့ ပုံသဏ္ဍာန်ကို ခေတ်က ပြဋ္ဌာန်းတယ်။ စာရေးဆရာဟာ ခေတ်ကို အသုံးချတယ်။

အလယ်ခေတ်လောက်တုန်းက နီတိ ဆရာဟာလည်း အလွန် မျက်နှာပွင့်တယ်။ နန်းတော်ထဲမှာဖြစ်စေ၊ ရွှေမြို့တော်ထဲမှာဖြစ်စေ စည်းစိမ်ရှင် လူတန်းစားဟာ လူတွေရဲ့ စိတ်နေစိတ်ထားအမျိုးမျိုးကို ခွဲခြမ်းစိတ်ဖြာ လေ့လာတဲ့ အထုံဝါသနာ ရှိကြတယ်။ သူတို့ရဲ့ ခွဲခြမ်းစိတ်ဖြာမှုတွေကို ဆောင်ပုဒ်များ၊ ပုံပြင်များအဖြစ် ဖော်ပြကြတယ်။ ကျွန်တော်တို့ခေတ်မှာ ဝတ္ထုထဲက ဇာတ်ဆောင်တစ်ယောက်ပြောတဲ့ စကားများကို လာရိချင်ဖိုကော ကတိကျတဲ့ စကားပုံကလေးတွေနဲ့ ကျစ်ကျစ်လျစ်လျစ် ဖော်ပြခဲ့သလိုပေ့ါ။ ဆယ့်ရှစ်ရာစုနှစ်ကျတော့ ကျွန်တော်တို့မှာ လွတ်လပ်စွာ တွေးခေါ်ခွင့်ရရှိလာတာနဲ့ အတူရရှိလာတဲ့ အတွေးအခေါ် လွတ်လပ်ခွင့်ဟာ နီတိဆရာကို ဒဿနဆရာအဖြစ် ပြောင်းပစ်လိုက်တယ်။ အလွမ်းဇာတ်ဟာ ရိုးသွားပြီး တဖြည်းဖြည်း မှေးမှိန်ပျောက်ကွယ်သွားခဲ့တယ်။ အဲဒီခေတ်က ပေါ်ခဲ့တဲ့ စာရေးဆရာတွေဟာ အတွေးအခေါ်တွေ၊ သိပ္ပံပညာတွေနဲ့ သမိုင်းတို့ကို ဋီကာဖွင့်တဲ့အလုပ်ကို ဦးစားပေးလုပ်ခဲ့ကြတယ်။ အဲဒီအချိန်လောက်မှာ ဝတ္ထုဟာ လူကြိုက်များတဲ့ အနုပညာ ပုံသဏ္ဍာန်တစ်ခု ဖြစ်လာခဲ့တယ်။ *(La Novelle Heloise, Les Liasons Dangercuses, La Payson Pervorti.)* အင်္ဂလန်မှာဆိုရင် တွမ်ဂျုန်းနဲ့ ကလာရစ်ဇာဟာလိုး ဝတ္ထုတို့ဟာ အဲဒီလမ်းကို လျှောက်နေကြပြီ။

သို့တိုင်အောင် ဆယ့်ရှစ်ရာစုနှစ် စာရေးဆရာများဟာ ဝတ္ထုကို အနိမ့်စားစာပေ ပုံသဏ္ဍာန်တစ်ခုအဖြစ် သဘောထားနေကြတုန်းပဲ။ ဖော်လဲတဲယားဟာ သူ့ရဲ့ ‘ကင်းဒိ’ ဝတ္ထုထက် သူ့ရဲ့ အလွမ်းပြဇာတ်တွေကို ဂုဏ်ယူနေတုန်းပဲ။

ဆယ့်ကိုးရာစုနှစ် အရဏ်ဦးကို ရောက်တဲ့အခါ ကျမှသာလျှင် ဝတ္ထုအဖွဲ့ဟာ ခိုင်မာတဲ့ ပုံသဏ္ဌာန်တစ်ရပ်ကို ဆောင်လာခဲ့ခြင်းဖြစ်တယ်။ ဘားလ်ဇက်၊ ဖလောဘေး၊ မောပတ်ဆွန်းနဲ့ အခြားသော အင်္ဂလိပ်၊ ရုရှား၊ စပိန်နဲ့ အီတလီ ဝတ္ထုရေးဆရာတွေ ပေါ်ပေါက်လာတာနဲ့အတူ ဝတ္ထုဆိုတဲ့ အနုပညာ ပုံသဏ္ဌာန်ဟာ ထိပ်တန်းကို ရောက်လာခဲ့တယ်။ စာဖတ်ပရိသတ်တွေကြားထဲမှာ အတွေးအခေါ်ကို ဖြန့်ဖြူးဖို့ ကိရိယာတစ်ခု ဖြစ်လာခဲ့တယ်။ အခု နှစ်ဆယ်ရာစုနှစ်ထဲမှာတော့ နောက်ထပ် အနုပညာ ပုံသဏ္ဌာန်သစ်တစ်ခု ပေါ်မလာသေးမချင်း ဝတ္ထုရဲ့ ဩဇာကို တုပြိုင်စိန်ခေါ်စရာအကြောင်း မရှိသေးဘူးလို့ ထင်တယ်။

ဒီတော့ စာပေရဲ့ ထူးခြားတဲ့ အကိုင်းအခက်နှစ်ခုဖြစ်တဲ့ ဝတ္ထုနဲ့ အတ္ထုပတ္တိနဲ့ ပတ်သက်တဲ့ အတတ်ပညာကို ကျွန်တော်တို့ အကျဉ်းချုပ် လေ့လာကြည့်ချင်တယ်။

ဒီနေ့ နိုင်ငံအားလုံးမှာ ဝတ္ထုရေးသားထုတ်ဝေခြင်းလုပ်ငန်းဟာ ကြီးမားတဲ့ အတိုင်းအတာကို ရောက်နေတယ်။ ဝတ္ထုက ပရိသတ်ရဲ့အာရုံကို ဆွဲဆောင်ထိန်းသိမ်းထားနိုင်ပေတာကိုး။ ကြီးကျယ်တဲ့ ဝတ္ထုရေးဆရာတစ်ယောက်ရဲ့ ဂုဏ်သတင်းဟာ သမိုင်းဆရာ၊ ဒါမှမဟုတ် အက်ဆေးဆရာရဲ့ ဂုဏ်သတင်းကို အသာကလေးနဲ့ လွှမ်းမိုးသွားတတ်တယ်။ ပြဇာတ်ရေးဆရာရဲ့ ဂုဏ်သတင်းကိုတော့ ကျော်ချင်မှ ကျော်နိုင်မယ်ပေါ့။

နိဗ္ဗယ်ဆုရသူတွေထဲမှာ ကြည့်လိုက်ရင် ဝတ္ထုရေးဆရာ ဆယ်ယောက်ဆုမှာ ဒဿနဆရာတစ်ယောက်လောက်ကိုပဲ တွေ့ရတယ်။ ဟုတ်ပါတယ်။ အနုပညာပုံသဏ္ဌာန်တစ်ရပ်အနေနဲ့ ဝတ္ထုဟာ ပျောက်ကွယ်သေဆုံးတော့မယ်ဆိုတဲ့ အသံတွေကို ကျွန်တော်တို့ နားနဲ့မဆံ့အောင် ကြားနေရတာကို ကျွန်တော်သိပါတယ်။ အဲဒီ စိတ်မချမ်းသာစရာသတင်းကို ယူဆောင်လာသူများက ဝတ္ထုရဲ့စွမ်းအားတွေဟာ ကုန်ခမ်းသွားပြီ။ ဝတ္ထုဆိုတာ ဘူဇွာလူ့အဖွဲ့အစည်းတစ်ခုပေါ်မှာသာ မှီခိုနေတယ်။ ဒီလို လူ့အဖွဲ့အစည်းတစ်ခု ရှိမှသာလျှင် ဝတ္ထုမှာ ဖွဲ့စရာအကြောင်းအရာတွေ ရနိုင်တယ်။ ဝတ္ထုရဲ့ အမာခံအင်အားဖြစ်တဲ့ တစ်သီးပုဂ္ဂလ လူသားဟာလည်း တစ်စထက်တစ်စ ချုပ်ကိုင်မှုတွေ များလာပြီး စုပေါင်းသဘောဆောင်တဲ့ ကမ္ဘာကြီးထဲမှာ အရေးမကြီးတော့ဘဲ ဖြစ်လာပြီလို့ ပြောကြတယ်။

တချို့ကလည်း ဝတ္ထုအဖွဲ့ ပုံသဏ္ဌာန်ဟာ ဒီနေ့အထိ အသက်ရှင်နေသေးတယ်။ ကန်ကျောက်လူးပ်ရှားနေသေးတယ်။ ဒါပေမယ့် ရုပ်ရှင် ပိတ်ကားပေါ်မှာလောက်၊ ရုပ်မြင်သံကြား ဖန်သားပြင်ပေါ်မှာလောက်နဲ့ပဲ အာသာ

ဖြေရတော့တယ်။ ဖတ်ဖို့ရေးတဲ့ ဝတ္ထုပုံသဏ္ဍာန်ကတော့ သေမိန့်ကျနေပြီလို့ ဆိုကြတယ်။

ဝတ္ထုရေးတဲ့ အတတ်ပညာအကြောင်းကို မပြောမီ ခု ခေတ်စားနေတဲ့ အဲဒီအယူအဆနဲ့ ပတ်သက်လို့ နည်းနည်းတော့ ပြောချင်တယ်။ မကြာမီ ပျောက်ကွယ်တော့မယ် စာပေပုံသဏ္ဍာန်တစ်ခုအကြောင်း ဆွေးနွေးနေလို့ ဘာမှ အကြောင်းထူးတော့မှာ မဟုတ်ပါဘူး။ ဒါပေမယ့် ဝတ္ထုဟာ မကြာခင် သေဆုံးတော့မယ်ဆိုတဲ့ စကားကို ကျွန်တော် လက်မခံဘူးဆိုတာကိုတော့ မဆိုင်းမတွ ချက်ချင်း ပြောထားလိုက်ချင်ပါတယ်။

ဝတ္ထုဟာ ဘာဖြစ်လို့ ဘူဇွာ လူ့အဖွဲ့အစည်းကြီးအပေါ်မှာ တည်မှီနေရတာလဲ။ (ကြုံကြိုက်လို့ ပြောရရင် သူ့ကျန်းမာရေးအတွက် စိုးရိမ်စရာ လက္ခဏာချက်တွေကို တွေ့နေရသည့်တိုင် ဘူဇွာ လူ့အဖွဲ့အစည်းကြီးဟာလည်း ခုထက်ထိ အသက်ရှင်နေတုန်းပါပဲ။) စုပေါင်းထားတဲ့ ဘုံယဉ်ကျေးမှု တစ်ခုမှာပင်လျှင် ဘုံတွေးခေါ်မှုဟာ ပုဂ္ဂလိက တွေးခေါ်ခံစားချက်တွေကို ပပျောက်အောင် မလုပ်နိုင်သေးပါဘူး။

ဆိုဗီယက် ယူနီယံမှာပင်လျှင် ခုထိ ဝတ္ထုတွေ ရေးနေကြပြီး တချို့ဆိုရင် ဝတ္ထုကောင်းတွေဖြစ်တယ်။ ရုရှားမှာ ပြင်သစ်ဝတ္ထုတွေကို လူကြိုက်များနေတာ အထင်အရှားတွေ့နေရတာပဲ။ (Le Rouge et le Noir) ဆိုရင် ရုရှားမှာ အုပ်ရေ ခုနစ်သန်းအထိတောင် ရိုက်ပြီး ရောင်းခဲ့ရတယ်လို့ သိရတယ်။ အခြားဝတ္ထုကောင်းတွေလည်း ဒီအတိုင်းပဲဆိုတာ သိရတယ်။ ပြီးတော့ ရုပ်ရှင်ပိတ်ကားနဲ့ ရုပ်မြင်သံကြား ဖန်သားပေါ်က ဝတ္ထုတို့ ပြဇာတ် တို့ဆိုတာဟာလည်း ထက်သန်ပြီး စူးစမ်းရှာဖွေနေတဲ့ ပရိသတ်အဖို့ ဝတ္ထုနေရာကို အစားမထိုးနိုင်ဘူးလို့ ကျွန်တော်ယူဆတယ်။

နှစ်နာရီလောက်သာကြာလိုက်တဲ့ ဇာတ်လမ်းတစ်ခုကို တိုးဝှေ့ကြည့်ရှုနေကြတာတွေ ရှိပါတယ်။ တကယ်ကတော့ ရုပ်ရှင်ဟာ စာပေကို အန္တရာယ်ပြုလာတာထက် ဇာတ်သဘင်ကို ပိုပြီး အန္တရာယ်ပြုလာနိုင်တယ်။ ရုပ်ရှင်မှာ သူကိုယ်ပိုင်အလှ ရှိကောင်းရှိနိုင်တယ်။ ဒါပေမယ့် ခဏခဏပြန်ဖတ်လို့ မရနိုင်ဘူး။ ဖတ်ပြီး သဘောကျတဲ့ နေရာကလေးကို ရပ်ပြီး ပြန်လှန်စဉ်းစားတွေးတောခြင်း မပြုနိုင်ဘူး။ အဓိပ္ပါယ်တွေ ပြည့်နေတဲ့ စာပိုဒ် တစ်ပိုဒ်ကို ပြန်လှန်ဖတ်လို့မရဘူး။ ဒါတွေဟာ ဝတ္ထုဖတ်သူတို့သာ ရနိုင်တဲ့ သီးခြားအရသာတွေ ဖြစ်တယ်။

ပြီးတော့ ပြောကြသေးတယ်။ ဝတ္ထုဟာ ဆက်လက်အသက်ရှင်နေသည့်တိုင်အောင် အသစ်အသစ်ဖြစ်အောင် ပြန်လည်မွမ်းမံခြင်း မပြုနိုင်တော့

ဘူးတဲ့။ ဘားလ်ဇက်တို့ ပရစ်တို့က အသုံးပြုခဲ့ပြီး ဖြစ်တယ်တဲ့။ လက်ရာကောင်းတွေကို ဖန်တီးနိုင်ခဲ့တဲ့ ဝတ္ထုရေးနည်း အဟောင်းတွေဟာ ခုအချိန်မှာ ညှစ်ထုတ်ယူလို့ ခန်းခြောက်သွားပြီတဲ့။ 'မြို့စားကတော်ကြီးသည် ကုလားထိုင်တစ်လုံးကို ယူ၍ ထိုင်လိုက်ပြီး ပြောလိုက်၏ . . .' ဆိုတဲ့ အရေးအသားမျိုးကို ခုခေတ်မျိုးဆက် ပရိသတ်တွေက လက်မခံကြတော့ဘူးတဲ့။ ခံစားမှုတွေကို ရေးပြနေမယ့်အစား အရာဝတ္ထုတွေအကြောင်းကို ရေးရမယ်တဲ့။

ကျွန်တော်ကတော့ ဒီစာပေနယ်က တော်လှန်ရေးကို လက်မခံဘူး။ မှန်ပါတယ်။ ပါရမီရှိတဲ့ ဝတ္ထုရေးဆရာတစ်ယောက် ပေါ်လာတိုင်း ဝတ္ထုရဲ့ ပုံသဏ္ဌာန်ဟာ ပြောင်းလဲသွားတတ်ပါတယ်။ ပရစ်ဟာ ဘားလ်ဇက်နဲ့ နည်းနည်းကလေးမှ မတူပါဘူး။ ဒါပေမယ့် ကျော့အဲလီယက်တို့၊ ဒစ်ကင်းတို့နဲ့ တူနေတာကိုတော့ ဘာပြောမလဲ၊ ကျွန်တော့်အထင်ကတော့ ဝတ္ထုဟာ ရုပ်ရှင်ပိတ်ကားရဲ့ နည်းနာတွေပေါ်ကနေပြီး ကွန့်မြူးမှုအသစ် ရနေတယ်။ စကားပြောခန်းဟာ ဝတ္ထုအကြောင်းကို စာရေးဆရာက ဝင်ပြောတဲ့နည်းကို အစားထိုးနေတယ်။ (ဥပမာ – Lompton Burnett, Claude Mauriae စသည်) ဇာတ်ဆောင်တွေရဲ့ ပါးစပ်က ထုတ်ဖော်ပြောဆိုတာ မဟုတ်ဘဲ စိတ်ထဲက တွေးနေတဲ့ 'စိတ်သန္တာန် အတွင်းစကားပြောနည်း' ဟာ ဝတ္ထုအတတ်ပညာမှာ ခိုင်မာတဲ့နေရာကို ရနေတယ်။

ဗဟိဒ္ဓ ရုပ်ဝတ္ထုများကို အာရုံစူးစိုက်ဖော်ပြခြင်းဟာ အဇ္ဈတ္တသန္တာန်ကို ခေါ်ပြတဲ့ အဓိကနည်းလမ်းဖြစ်နေတယ်လို့ ယူဆတယ်။ ဒါပေမယ့် ဒီပြောင်းလဲမှုတွေဟာ ဝတ္ထုရဲ့ အခြေခံကျတဲ့ သဘာဝကိုတော့ ပြောင်းလဲနိုင်မှာ မဟုတ်ပါဘူး။

ကြီးကျယ်ခမ်းနားတဲ့ ဝတ္ထုကြီးတွေရဲ့ အဓိက အကြောင်းအရာဟာ 'လူမမယ် အရွယ်ကနေပြီး ရင့်ကျက်တဲ့ အရွယ်ကို သွားတဲ့လမ်း' ကို ရေးခြယ်ပြတာ၊ တထိတ်ထိတ်နဲ့ဖြစ်နေရတဲ့ မျှော်လင့်ချက်နဲ့ နောက်ဆုံးမှာ အမှန်တရားကို သိမြင်သွားပြီး တရားရသွားတာတို့ရဲ့ ဝိရောဓိကို ဖော်ပြတာဖြစ်တယ်။

ပရစ်ရေးတဲ့ ဝတ္ထုတစ်ပုဒ်ထဲမှာ လူငယ်ကလေးတစ်ယောက် လောကကြီးထဲမှာ အရာဝတ္ထုတွေကို တွေ့တယ်။ အဲဒီအရာဝတ္ထုတွေရဲ့ နာမည်ပညတ်တွေရဲ့ နောက်မှာ ဘယ်လို အဓိပ္ပါယ်တွေရှိသလဲဆိုတာ စဉ်းစားတယ်။ သူတို့အရာဝတ္ထုတွေရဲ့ နာမည် ပညတ်တွေနဲ့ အဓိပ္ပါယ်တွေဟာ ကိုက်ရဲ့လားလို့ သူတွေးတယ်။ ဒီလိုနဲ့ ပညတ်နဲ့ အဓိပ္ပါယ်နဲ့ ကိုက်ညီခြင်းမရှိတဲ့ အရာဝတ္ထုတွေကို သူ တစ်ခုပြီးတစ်ခု စွန့်ပယ်လာခဲ့တယ်။

စောစောက ကျွန်တော် ပြောခဲ့တဲ့ 'လူမမယ်ကနေပြီး ရင့်ကျက်တဲ့ အရွယ်ကို ရောက်လာတဲ့ဖြစ်စဉ်' ကို ဒီနည်းနဲ့ပြသွားတယ်။ ဆွန်းဟာ သူ့ စိတ်ကူးထဲမှာ ရှိနေတဲ့ အိုဒက်တေး ဆိုတဲ့ မိန်းမပျိုတစ်ယောက်ကို ချစ်နေခဲ့ တယ်။ စိတ်ကူးထဲမှာရှိခဲ့တဲ့ အိုဒက်တေးကို အသွေးအသားနဲ့ ဖွဲ့စည်းထားတဲ့ အိုဒက်တေးဖြစ်လာအောင် ပြောင်းလဲခြင်းဟာ ဝတ္ထုတစ်ပုဒ်ရဲ့ အကြောင်းအရာ ဖြစ်လာပါတယ်။

'စစ်နှင့်ငြိမ်းချမ်းရေး' ထဲက နာတာရှာဟာ အမှားတွေ တစ်ခုပြီး တစ်ခု ကျူးလွန်ပြီး ရင့်ကျက်သွားရတယ်။ ကျွန်တော်တို့ လူငယ်စာရေးဆရာ တစ်ယောက်ဖြစ်တဲ့ မစ်ရှ်ဘူတားဟာ အင်္ဂလိပ်မြို့တစ်မြို့ကို ရောက်သွားတဲ့ ပြင်သစ်လူငယ်ကလေး တစ်ယောက်အကြောင်းကို စရေးတယ်။ အဲဒီ မြို့ ကလေးကို ရောက်တော့ မြို့ကလေးရဲ့ စရိုက်တွေကို သူ နားမလည်နိုင်ဘူး။ သူ့စိတ်ထဲမှာ မြို့ကလေးဟာ ကြောက်စရာကောင်းနေတယ်။ နောက်တော့ တဖြည်းဖြည်းနဲ့ မြို့ကလေးအကြောင်းကို နားလည်သွားတယ်။

အဲဒီ ဝတ္ထုရဲ့ အကြောင်းအရာဟာ အဲဒီ မြို့ကလေးရဲ့ အကြောင်းကို သူ နားလည်သဘောပေါက်သွားတဲ့ အကြောင်းပဲ။ ဘယ်ဝတ္ထုပဲဖြစ်ဖြစ် ဝတ္ထု တိုင်းရဲ့ အမည်မဖော်တဲ့နာမည်ဟာ 'လွင့်ပြယ်သွားသော စိတ်ကူးယဉ်မှု' များ ဖြစ်ပါတယ်။ ဒီလိုပြောလိုက်တဲ့အတွက် ဇာတ်ဆောင်ရဲ့ စိတ်ဓာတ်ဖွံ့ဖြိုးမှုဟာ စိတ်ကူးယဉ်မှုကနေပြီး လောကကြီးအကြောင်းကိုသိနေတဲ့လှောင်ပြောင်သရော် မှုအဖြစ်ကို ရောက်သွားတယ်လို့ ကျွန်တော် ပြောလိုတာမဟုတ်ပါဘူး။ စိတ် ကူးထဲက မိန်းမတစ်ယောက်ကို ချစ်မိတာမျိုး တွေ့ရှိနိုင်ပါတယ်။ အလျင်တုန်း က ကိုယ်အထင်သေးခဲ့တဲ့ အသိုက်အဝန်းတစ်ခုကို နားလည်သဘောပေါက် သွားပြီး အဲဒီအသိုက်အဝန်းမှာ ပျော်မွေ့သွားတာမျိုးတွေလည်း ရှိနိုင်ပါတယ်။

ဒါပေမယ့် ဝတ္ထုရဲ့ အဓိက အကြောင်းအရာဟာ အမြဲတန်းလိုလို ဒါမျိုးပဲဖြစ်နေခဲ့ရင် ပါရမီရှိတဲ့ စာရေးဆရာဟာ သူ့ခံစားချက်ကို ဖော်ပြမယ့် အခြားသော အနုပညာပုံသဏ္ဍာန်မျိုးကိုလည်း ရွေးတတ်ပါသေးတယ်။ ဥပမာ အားဖြင့် ကိုယ်တိုင်ရေး အတ္ထုပ္ပတ္တိ ဝတ္ထုမျိုးတွေ ဆိုပါတော့။ ဒါပေမယ့် တကယ်ခမ်းနားကြီးကျယ်တဲ့ ဝတ္ထုကြီးတွေဟာ စာရေးဆရာရဲ့ ဘဝနဲ့ လုံးဝ ပြောင်းပြန်ဖြစ်နေတတ်တာတွေ များပါတယ်။

'ဇာတ်ဆောင်တွေ စာမျက်နှာပေါ်ကို ရောက်လာတာဟာ စာရေး ဆရာရဲ့ ကိုယ်ပိုင်ဘဝမှာ မလုပ်နိုင်ခဲ့တဲ့ အရာတွေကို၊ မစွမ်းဆောင်နိုင်ခဲ့တဲ့ အရာတွေကို လုပ်ကိုင် စွမ်းဆောင်ပေးဖို့ဖြစ်တယ်။ သွေးဆောင်ဖြားယောင်း မှုတွေအားလုံးကို ကျော်လွှားခဲ့ရတာတွေ၊ အချစ်ရေးမှာ အဆင်မပြေ အရေး

နိမ့်ခဲ့ရတာတွေ၊ ဒါတွေ အားလုံးကို ဖြတ်သန်းပြီးတဲ့နောက် ဇာတ်ဆောင်ဟာ တဖြည်းဖြည်းနဲ့ သရုပ်သကန် ပေါ်လာပြီး လူသစ်တစ်ယောက် ဖြစ်လာခဲ့တယ်။ နေ့အလင်းရောင်ထဲကို ပေါ်လာပြီး ငိုကြွေးသံအသစ်နဲ့ ငိုကြွေးလာခဲ့တယ်။ အဖေက ဘယ်တုန်းကမှ မလျှောက်လှမ်းနိုင်ခဲ့တဲ့ လမ်းကို သားလက်ထက်မှာ လျှောက်လှမ်းနိုင်လာတယ်လို့ မောရီယေးက ပြောခဲ့ဖူးပါတယ်။

ဟုတ်ပါတယ်။ ဝတ္ထုတိုင်းမှာလိုလို ဒီအတိုင်းပဲ တွေ့ရတာပါပဲ။ ဒါပေမယ့် ဝတ္ထုတစ်ပုဒ်မှာ ဘယ်အကြောင်းအရာကို ရွေးချယ်ရေးမလဲဆိုတဲ့ ကိစ္စဟာ စာရေးဆရာရဲ့ လျှို့ဝှက်တဲ့ဆန္ဒနဲ့ ဆက်စပ်နေပါတယ်။ ကြီးကျယ်တဲ့ စာရေးဆရာကြီးတွေဟာ ဘယ်လိုမျက်နှာဖုံးပဲ တပ်ထားထား သူတို့ရေးလိုက်တဲ့ ဝတ္ထုတွေဟာ တစ်မျိုးတည်းဖြစ်နေကြတာဟာ ဒီအကြောင်းကြောင့်ပဲ ဖြစ်ပါတယ်။

သူ့ဝတ္ထုနှစ်ပုဒ်ထဲက ဇာတ်ဆောင်နှစ်ဦးဖြစ်တဲ့ ဖေးဗရစ်နဲ့ ဂျူလီယန်ဆိုရဲယ် တို့ဟာ စတင်ဒယ်ဖြစ်ချင်တဲ့ လူနှစ်ယောက်ရဲ့ ပုံသဏ္ဌာန်ဖြစ်ပါတယ်။ မဒမ်ရီနဲနဲ့ ကယ်လီလီယာတို့ဟာ စတင်ဒယ် သဘောကျတဲ့ မိန်းမနှစ်မျိုးရဲ့ ပုံသဏ္ဌာန်ဖြစ်ပါတယ်။ မောရီယေးရဲ့ ဝတ္ထုကို ကြည့်ရင် သူ့ဝတ္ထုထဲမှာ တင်ပြထားတဲ့ ဝိရောဓိဟာ အမြဲလိုလို ယုံကြည်ခြင်းတရားနဲ့ အသွေးအသားတို့ရဲ့ ဝိရောဓိဖြစ်ပါတယ်။ ဒီလိုဖြစ်ရတဲ့အကြောင်းကတော့ ဝတ္ထုရေးဆရာဟာ လောကရဲ့ ကျယ်ပြန့်တဲ့ ရှုခင်းကြီးကနေပြီး သူ့ရဲ့ အတ္တကို ဖော်ပြတဲ့အဖြစ်အပျက်ကို ရေးထုတ်ယူလို့ပါ။ ပန်းချီဆရာဟာ သဘာဝ ရှုခင်းကြီးထဲကနေပြီး သူ့ကိုယ်ပိုင်ဟန်နဲ့ ရေးဆွဲထားတဲ့ ပန်းချီကားကိုပဲ မြင်နေသလိုပေါ့။

အကြောင်းအရာကိုတော့ ရွေးပြီးပြီ။ ဒါဖြင့် ဒီအကြောင်းအရာကို ရေးရာမှာ စာရေးဆရာရဲ့ မြင်တတ်တဲ့ မျက်စိ၊ တီထွင်တတ်တဲ့ စိတ်ကူးဟာ ဘယ်အခန်းက ပါသလဲ။

ဝတ္ထုရေးဆရာအများစုဟာ သူ့ဝတ္ထုကို ကောင်းကောင်းသိတဲ့ ကမ္ဘာလောက၊ သူကောင်းကောင်းသိတဲ့ ပတ်ဝန်းကျင်မှာ အခြေခံပြီး တည်ဆောက်လေ့ရှိတယ်။ ဘားလ်ဇက်ဟာ လူအမျိုးမျိုးနဲ့ ဆက်ဆံခဲ့ရလေတော့ သူ့ကမ္ဘာလောကဟာ အလွန် ကျယ်ဝန်းပါတယ်။ ဝတ္ထုထဲက ဇာတ်ဆောင်များဟာ ပုံတူဆွဲထားတဲ့ ရုပ်ပုံလွှာတွေ မဟုတ်ဘူး။ တကယ့် သက်ရှိလူတွေကို နေရာပြောင်းပေးထားခြင်း ဖြစ်တယ်။ ရာစတီညက်ဟာ သိုင်းယားစ် ဖြစ်တယ်။ မီကောဘာဟာ ဒစ်ကင်းရဲ့ အဖေဖြစ်တယ်လို့ ပြောကြတယ်။ ဒါပေမယ့် ရာစတီညက်နဲ့ မီကောဘာတို့ဟာ အခြားသောသူများရဲ့ ပုံစံတွေကိုလည်း ငှါးယူထားတယ်ဆိုတာ သေချာတယ်။ ဂါမာန်တီမြို့စားကတော်ကြီးဟာ မဒမ်

စထရောက်စ်ဖြစ်ပြီး တစ်ပြိုင်နက် မဒမ်စထရောက်စ်ဟာ တခြားသော ဝတ္ထု ထဲမှာ မဒမ်ရှဲဗ်ညီ ဖြစ်နေတယ်။

တကယ်ကောင်းတဲ့ ဝတ္ထုတစ်ပုဒ်ဟာ စိတ်ကူးယဉ်မှုနဲ့ ဘယ်တော့မှ မကင်းနိုင်ဘူး။ ဒါပေမယ့် အဲဒီ စိတ်ကူးယဉ်မှုဟာ အမှန်ဘဝရဲ့ ထောက်ပံ့မှု ရှိရတယ်။ တကယ်တည်ရှိနေတဲ့ လူ့အဖွဲ့အစည်းရဲ့ နောက်ခံရှိရမယ်။ ဒါတွေ မရှိရင် ဒီဝတ္ထုဟာ ခိုင်ခိုင်မာမာ မရပ်တည်နိုင်ဘူး။ ဝတ္ထုတစ်ပုဒ်ဟာ အသက်ဝင်လှုပ်ရှားစေချင်ရင်၊ ဘဝနဲ့ နီးကပ်စေချင်ရင် လူ့အဖွဲ့အစည်းရဲ့ တကယ့်အဖြစ်အပျက်များနဲ့ ဆက်စပ်ရလိမ့်မယ်။ လှုပ်ရှားနေတဲ့ ပတ်ဝန်းကျင်နဲ့ ဆက်စပ်နေရလိမ့်မယ်။ တကယ်ရှိနေတဲ့ ပြင်ပလောကကြီးနဲ့ ဆက်စပ်နေရလိမ့်မယ်။

အဲဒီ လူ့အဖွဲ့အစည်းရဲ့ တကယ်ရှိနေတဲ့ ပြင်ပဆက်သွယ်မှုများနဲ့ ဆက်စပ်နေရလိမ့်မယ်။ အဲဒီ လူ့အဖွဲ့အစည်းရဲ့ နိုင်ငံရေး၊ ထုံးတမ်း အစဉ်အလာ စသည်တို့နဲ့ ဆက်စပ်နေရလိမ့်မယ်။ ရှေးခေတ်က ကျေးလက် အလွမ်းဝတ္ထုပုံပြင်တွေဟာ အင်္ဂါမပြည့်စုံတဲ့ ဝတ္ထုများသာဖြစ်တယ်။ ဘာဖြစ်လို့လဲဆိုတော့ အဲဒီပုံပြင်တွေထဲက ချစ်သူတွေဟာ ပဉ္စလက်နည်းနဲ့ ဖန်တီးထားတဲ့ ပူဖောင်းထဲမှာနေသလို လူ့လောကကြီးနဲ့ ကင်းကွာပြီး သူတို့ချည်း အထီးတည်း နေကြလို့ဖြစ်တယ်။

ဝတ္ထုမှာတော့ ဒီလိုမဟုတ်ဘူး။ ဝတ္ထုတစ်ပုဒ်ထဲက ပြင်ပကမ္ဘာလောကကြီးဟာ အဲဒီထဲက ဇာတ်ဆောင်ရဲ့ အမြင်နဲ့ မြင်နေရတဲ့ ကမ္ဘာလောကကြီးဖြစ်ရမယ်။ ဘဝလို့ခေါ်တဲ့ ဝတ္ထုကြီးထဲမှာ ကျွန်တော်တို့ဟာ လူအမျိုးမျိုးကို တွေ့နေရတယ်။ အမျိုးမျိုးပြောင်းလဲနေတဲ့ အလင်းရောင်ထဲမှာ သူတို့ကို မြင်နေရတယ်။ သူတို့ဘဝက အပြောင်းအလဲတွေမှာ ကျွန်တော်တို့တစ်တွေဟာ သက်သေတွေ ဖြစ်နေကြတယ်။ ဒီနည်းအားဖြင့် သူတို့ဟာ ကျွန် တော်တို့ရဲ့ အာရုံကို ဖမ်းစားနေကြတယ်။ အလားတူပဲ။ ကောင်းစွာရေးထားပြီး ကောင်းစွာ ဖွဲ့စည်းထားတဲ့ ဝတ္ထုတစ်ပုဒ်ဟာ (စာရေးဆရာရဲ့ ပတ်ဝန်းကျင်တွင် မက) စာဖတ်သူတို့ရဲ့ ပတ်ဝန်းကျင်၊ ဇာတ်ဆောင်ရဲ့ ပတ်ဝန်းကျင်တို့ပါ ပါဝင်မှ အဲဒီဝတ္ထုဟာ ဘက်သုံးဘက်နဲ့ ပြည့်စုံလိမ့်မယ်။

ဝတ္ထုရေးနည်းအမျိုးမျိုးရှိကြတယ်။ မျက်မြင်သက်သေတစ်ယောက်အနေနဲ့ စာရေးဆရာက ဇာတ်လမ်းကို တိုက်ရိုက်ပြောသွားတာရှိတယ်။ ဒီလိုဝတ္ထုမျိုးမှာ စာရေးဆရာရဲ့ အံ့ဩမှုတွေဟာ ကျွန်တော်တို့ရဲ့ အံ့ဩမှုတွေ ဖြစ်နေရမယ်။ နောက်တစ်ခါ ဇာတ်ဆောင်က ပထမနာမ်စားနဲ့ ဇာတ်လမ်းကို ပြော သွားတာရှိတယ်။ အဲဒီနည်းကတော့ အလွယ်ဆုံးပဲ။ ဘာဖြစ်လို့လဲဆိုတော့ ရင်းရင်းနှီးနှီးပြောတဲ့ လေသံနဲ့ လွယ်လွယ်ပြောလို့ ရတာကိုး။ နောက်

တစ်နည်းကတော့ 'ဘုရားသခင် ရှုထောင့်' ကနေ ရေးတဲ့နည်း ဖြစ်တယ်။ ဒီနည်းမှာ **'စစ်နှင့်ငြိမ်းချမ်းရေး'** ဝတ္ထုဟာ အကောင်းဆုံးနမူနာပဲ။ အဲဒီဝတ္ထုထဲမှာ ကမ္ဘာလောကကြီးဟာ လူအမျိုးမျိုးရဲ့ ပတ်ဝန်းကျင်မှာ လှုပ်ရှားနေတယ်။ ဒါကြောင့်မို့ စာဖတ်တဲ့သူကလည်း ကမ္ဘာကြီးကိုမြင်ရာမှာ မင်းသား အန်ဒရေလို မြင်သလို တစ်မျိုး၊ ပီယာမြင်သလို တစ်မျိုး၊ နာတာရှာ မြင်သလို တစ်မျိုး အမျိုးမျိုးမြင်လို့ရတယ်။

ပိုပြီး တိကျအောင် ပြောရရင် ကမ္ဘာမှာရှိတဲ့ ကြီးကျယ်ခမ်းနားတဲ့ ဝတ္ထုကြီးတွေမှာ ဇာတ်ဆောင်နှစ်မျိုးပဲ ရှိတယ်။ အဲဒီနှစ်မျိုးကတော့ ပြုလုပ်သူနဲ့ ပြုလုပ်ခြင်းခံရသူတို့ဖြစ်တယ်။ ဝတ္ထုတစ်ပုဒ်ဟာ လူတစ်ယောက်ရဲ့ ဘဝကို ရေးခြယ်ပြရာမှာ ကျွန်တော်တို့ဘဝကို သိသလို အဲဒီလူရဲ့ ဘဝကို သိတယ်လို့ ထင်လာအောင် ရေးခြယ်ပြနိုင်တယ် ဆိုပါစို့။ ဒီလိုရေးခြယ်ပြနိုင်တယ်ဆိုရင် အဲဒီလူရဲ့ ဘဝဟာ 'ပြုလုပ်သူ' ရဲ့ ဘဝဖြစ်တယ်။ ဇာတ်လမ်းထဲမှာ ပေါ်လာတဲ့ အခြားသော ဇာတ်ဆောင်တို့ဟာ 'ပြုလုပ်ခံရသူများ' သာ ဖြစ်တယ်။ အဘိုးအို ဂရန်ဒေးဟာ သူ့သမီးအဖို့ 'ပြုလုပ်ခံရသူ' တစ်ဦးသာ ဖြစ်တယ်။ ဒါပေမယ့် သူ့သမီးကတော့ 'ပြုလုပ်သူ' ဖြစ်တယ်။ ဒါကြောင့်မို့ ဘားလ်ဇက်ဟာ သူ့ဝတ္ထုကို 'ယူဂျင်းဂရန့်ဒေး' လို့ သူ့သမီးရဲ့ နာမည်ပေးခဲ့တာဖြစ်တယ်။ တချို့ ဝေဖန်ရေးဆရာတွေက ရှည်လျားတယ်လို့ ဝေဖန်ကြတဲ့ ဘားလ်ဇက်ရဲ့ အဖွဲ့အနွဲ့ဟာ ပြုလုပ်သူဇာတ်ဆောင်တစ်ယောက်ရဲ့ အမြင်ဖြစ်တယ်။ ဒါကြောင့်မို့ ပီပြင်နေခြင်းဖြစ်တယ်။ သူ ရေးခြယ်ပြတဲ့ အိမ်ဟာ ဂရန်ဒေးရဲ့ အိမ်မဟုတ်ဘဲ သူ့သမီး ယူလှင်းနဲ့ သူ့ ဝမ်းကွဲမောင် ချားလ်စ်တို့ရဲ့ မြင်တဲ့ ဂရန်ဒေးရဲ့အိမ်ဖြစ်တယ်။

တချို့ဝတ္ထုတွေဟာ စိတ်ကူးယဉ်သက်သက် ဝတ္ထုတွေဖြစ်တယ်လို့ တချို့က ဆိုကောင်း ဆိုကြမယ်။ (ဥပမာ ဒဏ္ဍာရီပုံပြင်တွေ၊ ဒဿန ဆန်တဲ့ ပုံပြင်တွေ၊ အတိတ်နိမိတ်ဟောတဲ့ စိတ်ကူးတွေ၊ သိပ္ပံဝတ္ထုတွေ) ဒီအမြင်ဟာ မှားယွင်းတဲ့ အမြင်ဖြစ်တယ်။ ကျွန်တော်တို့ရဲ့ နေ့စဉ်ဘဝ၊ စာဖတ်သူတွေရဲ့ အတွေ့အကြုံနဲ့ ကွဲပြားခြားနားနေတဲ့ ကမ္ဘာလောကကြီး အကြောင်းကို ဖော်ပြလေလေ အချက်အလက် တိကျမှုနဲ့ အစစ်အမှန် ဖြစ်သယောင် ရေးဖွဲ့မှုများ လိုအပ်လေလေဖြစ်တယ်။ ဂါလီဗာရဲ့ ခရီးစဉ်ဟာ အစစ်အမှန်မဟုတ်တာကို အစစ်အမှန်လို့ထင်အောင် လုပ်နိုင်ခဲ့တယ် မဟုတ်လား။ ဗော်လဲတဲယားရဲ့ (Micromegas) ဝတ္ထုမှာ ဖွန်တီနယ်လီဟာ အစစ်အမှန်လို့ ထင်ရတယ် မဟုတ်လား။ 'ကင်းဒီ' ဝတ္ထုမှာ လိုက်ဗနစ်ကို အစစ်အမှန်လို့ ထင်ရတယ် မဟုတ်လား။

စိတ်ကူးထဲက တီထွင်မှုတွေအပေါ်မှာ လုံးဝမှီခိုနေတဲ့ ဝတ္ထုရေးဆရာဟာ သရုပ်ဖော် စာရေးဆရာမဟုတ်ဘူး။ သရုပ်ဖော်စာရေးဆရာဟာ သူ့စိတ်ကူးကို သရုပ်အမှန်ဆိုတဲ့ အုတ်မြစ်ခံပြီး တည်ဆောက်ရလိမ့်မယ်။

*  *  *

# အတ္ထုပ္ပတ္တိ ဘယ်လိုရေးမလဲ

အတ္ထုပ္ပတ္တိရေး ဆရာမှာ တာဝန်နှစ်ခုရှိတယ်။ သူဟာ ပုံတူရေးတဲ့ ပန်းချီဆရာနဲ့ သမိုင်းဆရာဖြစ်ရမယ်။ ပုံတူရေးဆရာ တစ်ယောက်အနေနဲ့ သူဟာ အစစ်အမှန်ဖြစ်တဲ့ အချက်အလက်တွေကို စုဆောင်းရမယ်။ အဲဒီ အချက်အလက်တွေကို အဓိပ္ပါယ်ရှိရှိ ရှေ့နောက် စီစဉ်နေရာချလိမ့်မယ်။ ပြီးတော့ အနုပညာရှင် တစ်ယောက်အနေနဲ့ အနုပညာပုံသဏ္ဌာန်ပေါ်အောင် လုပ်ရမယ်။ အတ္ထုပ္ပတ္တိ စာအုပ်တစ်အုပ်ဟာ 'လူ့ဘဝကို ဖြတ်သန်းနေတဲ့ လူတစ်ယောက်ရဲ့ သစ္စာရှိတဲ့ ရုပ်ပုံလွှာတစ်ချပ်' ဖြစ်သင့်တယ်။ သစ္စာရှိတဲ့ ဆိုတဲ့ စကားရဲ့အဓိပ္ပါယ်ကတော့ အတ္ထုပ္ပတ္တိ ဆရာအနေနဲ့ သူ့စာအုပ်ကို ခိုင်မာတဲ့ အထောက်အထားမှတ်တမ်းတွေအပေါ်မှာ အခြေပြုဖို့၊ သူ့တွေ့ရှိချက်တွေကို စာအုပ်ကောင်းတစ်အုပ် ဖြစ်လာအောင် ဖွဲ့စည်းဖို့ ဆိုလိုတာ ဖြစ်တယ်။

ဒါဖြင့်ရင် အဲဒီ အချက်အလက်တွေကို ဘယ်လိုစုဆောင်းမလဲ။ ဘယ်လို စီစဉ်နေရာချမလဲ။ ပထမအားဖြင့် သူ့ဇာတ်လိုက်၊ သူ့ဇာတ်လိုက်ရဲ့ မိတ်ဆွေ ရန်သူတွေနဲ့ ပတ်သက်လို့ ရေးသားပြီးသမျှသော စာအုပ်စာတမ်းတွေကို ဖတ်ရမယ်။ သူတို့ နေထိုင်ဖြတ်သန်းခဲ့ရတဲ့ ခေတ်ကြီးနဲ့ပတ်သက်တဲ့ စာအုပ်စာတမ်းတွေကို ဖတ်ရမယ်။ နောက်တစ်ချက်ကတော့ တစ်ခါမျှ အများသိအောင် မလုပ်ရသေးတဲ့အချက်အလက်၊ အကြောင်းအရာတွေကို ရှာဖွေရ

မယ်။ အများပြည်သူ့ စာကြည့်တိုက်ကြီးတွေနဲ့ ကိုယ်ပိုင်စာကြည့်တိုက်တွေ ဟာ ဖတ်လို့မကုန်၊ ရှာလို့မကုန် ရှိနေကြတဲ့အတွက် အချက်အလက်တွေကို လည်း အမြဲတွေ့နေရတာပဲ။ ပြီးတော့ သူ့ဇာတ်လိုက်ရဲ့ ဘဝနဲ့ ပတ်သက်တဲ့ နေရာတွေကိုလည်း သွားကြည့်သင့်တယ်။

သူ့ဇာတ်လိုက်ဟာ မကြာခင်ကမှ ကွယ်လွန်သွားခဲ့တယ်ဆိုရင် သူ့အကြောင်းသိတဲ့ လူတွေကို လိုက်ရှာပြီး မေးမြန်းစုံစမ်းသင့်တယ်။ နောက်ဆုံးမှာ သူ့ဇာတ်လိုက်နဲ့ ပတ်သက်လို့ ရေးထားပြီးသမျှတွေနဲ့ သူကြားခဲ့ရသမျှတွေကို ချိန်ဆပြီး ဝေဖန်တဲ့မျက်စိနဲ့ နှိုင်းယှဉ်စဉ်းစားသင့်တယ်။ လိုအပ်ရင် သူ့ဇာတ်လိုက်နဲ့ ပတ်သက်တဲ့ အကြောင်းအရာတွေကို ချရေးတဲ့အခါမှာ နောက်ထပ် ရည်ညွှန်းစရာ မလိုတော့ဘဲ တန်းပြီး တောက်လျှောက် ရေးနိုင်သွားအောင် ဒီအကြောင်းတွေကို ကျေညက်နေသင့်တယ်။

ဒီလို အချက်အလက်တွေကို စုဆောင်းပြီးတဲ့နောက် အဲဒီ အချက်အလက်တွေကို သက္ကရာဇ်စဉ်အလိုက် နေရာချရမယ်။ ဒီလိုနေရာချတဲ့ နေရာမှာ အောက်ပါအချက်တွေနဲ့ ညီညွှတ်အောင် သတိပြုသင့်တယ်။

(၁) စာဖတ်တဲ့သူကို မှတ်တမ်း အထောက်အထားတွေထဲ မှာ နစ်နေအောင် မလုပ်ရဘူး။ မလိုတဲ့အရာတွေကို ဖယ်ပစ်ရမယ်။ ဖြစ်နိုင်ရင် အချို့သော မှတ်တမ်း အထောက်အထားများထဲက အကြောင်းအရာများကို သေချာစွာ အကျဉ်းချုပ် ဖော်ပြပေးရမယ်။ အလွန်ကို အရေးကြီးတဲ့ ပေးစာမျိုးမှာအပ ကျန်တဲ့ပေးစာတွေကို အဓိပ္ပါယ်ပေါ်ရုံ အကျဉ်းချုပ်သာ ဖော်ပြပေးသင့်တယ်။

(၂) ဇာတ်ဆောင်တွေရဲ့ စရိုက်ကို ပေါ်လွင်ထင်ရှားစေမယ့် အသေးစိတ်ကလေးတွေကို အထူးသတိပြုသင့်တယ်။ ဒီအထဲမှာ အရေးကြီးတာကတော့ သူတို့ရဲ့ အလေ့အထကလေးတွေ၊ အမူအရာတွေ၊ စကားအပြောအဆိုတွေ စသည်တို့ဖြစ်တယ်။

(၃) အတည်ပြုပြီးဖြစ်တဲ့ အချက်အလက်တစ်ခုကို ဘယ်တော့မှ ချန်လှပ်ခြင်း မပြုသင့်ဘူး။ ဒီလိုချန်လှပ်ခြင်းဟာ ကိုယ့်ဇာတ်လိုက်နဲ့ ပတ်သက်တဲ့ စာရေးဆရာရဲ့ ကြိုတင်စိတ်ကူးထားတဲ့ အတွေးတွေကို တလွဲဖော်ပြရာရောက်တယ်။ ဖြစ်သင့်တာကတော့ စာရေးဆရာဟာ သူ့ဇာတ်ဆောင်ရဲ့ ရုပ်ပုံလွှာကို ထပ်ပြီး ဖြည့်တာ၊ အသေးစိတ် ခြယ်မှုန်းထားတာမျိုးကို လုပ်သင့်တယ်။ ပုံတူရေးတဲ့ ပန်းချီဆရာဟာ သူဆွဲပြီးသားပုံကို ဟိုနေရာ နည်းနည်းဖြည့်လိုက် လုပ်တာမျိုးပေါ့။ ဒီနည်းအားဖြင့် ပိုပြီး အမှန်နဲ့ နီးစပ်လာအောင် လုပ်သလိုပေါ့။

(၄) တစ်ခါတစ်လေမှာ ဇာတ်ဆောင်ရဲ့ ရင်းနှီးတဲ့ ဆွေမျိုးတွေ၊ သို့မဟုတ် ရင်းနှီးတဲ့မိတ်ဆွေတွေကို ငဲ့ပြီး အချို့ အချက်အလက်တွေကို ချန်လှပ်ပစ်ခဲ့ရတာတွေ ရှိတယ်။ လူတစ်ယောက်ရဲ့ဘ၀ကို အမှန်အတိုင်း အကုန်လုံး မပြောဘဲ ချန်လှပ်နိုင်တယ်။ ဒါပေမယ့် ထုတ်ဖော်ပြောသမျှ၊ ရေးသမျှဟာက တော့ အမှန်တွေဖြစ်ဖို့ လိုတယ်။

မှတ်တမ်းအထောက်အထား၊ ဒါမှမဟုတ် သက်ရှိထင်ရှား ရှိနေတဲ့ သက်သေများက မှန်ကန်ကြောင်း ထောက်ခံခြင်းမပြုတဲ့ အချက်အလက်များ တီတွင်ဖန်တီးရေးတာမျိုးကို လုံး၀ တားမြစ်တယ်။ အတည်ပြုလို့ မရနိုင်တဲ့ အတွေးတွေကို ကိုယ့်ဇာတ်ဆောင်က တွေးသလို ရေးပြတာ၊ ကိုယ့်စိတ်ကူးနဲ့ ကိုယ် ဇာတ်ဆောင်နဲ့ စကားပြောခန်းတွေ ထည့်ရေးတာမျိုးဟာ အတ္ထုပ္ပတ္တိ ကျမ်းပြုရာမှာ လိုက်နာရမယ့် စည်းမျဉ်းတွေကို ဖောက်ဖျက်တာဖြစ်မယ်။ အတ္ထုပ္ပတ္တိ ကျမ်းပြုရာမှာ လိုက်နာရမယ့် စည်းမျဉ်းတွေဟာ သမိုင်းပြုစုရာမှာ လိုက်နာရမယ့် စည်းမျဉ်းတွေနဲ့အတူတူ ဖြစ်တယ်။

၀တ္ထုဟာ အတ္ထုပ္ပတ္တိ ဟာ အဖေ မပေါ်တဲ့ စာပေပုံသဏ္ဍာန်တစ်ခု ဖြစ်တယ်။ ဒါပေမယ့် စနစ်တကျပြုစုထားတဲ့ အတ္ထုပ္ပတ္တိ စာတစ်စောင်မှာ ဇာတ်ဆောင်ဟာ လောကကြီးနဲ့ ပတ်သက်လို့ တဖြည်းဖြည်းအမြင် တိုးတက်လာပုံကို စာဖတ်သူတွေ သိမြင်အောင် ရေးသင့်တယ်။ ဒီအတိုင်းအတာအထိ အတ္ထုပ္ပတ္တိဟာ ၀တ္ထုနဲ့တူတယ်။ အတ္ထုပ္ပတ္တိဟာ လေးနက်တဲ့သမိုင်းကျမ်းရဲ့ အဆင့်အတန်းတွေ စံတွေနဲ့ ကိုက်ညီရုံမျှသာမက ဒီလိုဖြစ်ဖို့ လုံး၀ လိုအပ်တယ်။ ဥပမာအားဖြင့် လူငယ်တစ်ယောက်အနေနဲ့ ဒစ္စရေယ်လီရဲ့ အင်္ဂလိပ်လူ့ အဖွဲ့အစည်းကို မြင်တဲ့အမြင်ဟာ ဇရာအရွယ်ရောက်နေတဲ့ ၀န်ကြီးချုပ် ဒစ္စရေယ်လီရဲ့ အမြင်နဲ့မတူကြောင်းကို ထင်ရှားအောင် ပြဖို့လိုတယ်။ ကိုယ့်ဇာတ်ဆောင်ရဲ့ အရေးအသားတွေထဲမှာ သူနဲ့ ခေတ်ပြိုင်ပုဂ္ဂိုလ်တွေရဲ့ ပြောဆိုချက်တွေထဲမှာ သူ့ခေတ်ရဲ့ သတိရမှတ်တမ်းတွေထဲမှာ ဇာတ်ဆောင်ရဲ့ ဒီလို ဖွံ့ဖြိုးတိုးတက်မှုကို လိုက်လံရှာဖွေရမယ်။

ရနိုင်သမျှသော အချက်အလက်တွေကို အဓိပ္ပါယ် ဖွင့်ဆိုရာမှာ အတတ်နိုင်ဆုံး သတိထားရမယ်။ ခိုင်မာတဲ့ အထောက်အထားရှိရမယ်။ ဒီနှစ်ခုဟာ ခွဲလို့မရဘူး။ ဥပမာအားဖြင့် ဘားလ်ဇက်ဟာ မဒမ်ဟန်စကာနဲ့ တကယ်ပဲ ချစ်ကြိုက်ခဲ့ကြသလား။ ဒါမှမဟုတ် မဒမ်ဟန်စကာဟာ ဘားလ်ဇက်အပေါ်မှာ တကယ်ပဲ ဆိုးခဲ့သလား။ စာရေးဆရာမ ဂျော့ဆင်းဟာ ပန်းချီဆရာ မူဆေးနဲ့ ဂီတဆရာရှိုပင်တို့အပေါ်မှာ မကောင်းတဲ့ဩဇာ လွှမ်းခဲ့ သလား။ ဒါမှမဟုတ် သူတို့ရဲ့ ပါရမီကို ပိုမိုထူးချွန် ရင့်ကျက်လာအောင် အထောက်အကူပေးခဲ့

သလား။ ကွန်ဆိုဆာလိတ်အဖွဲ့နဲ့ အုပ်ချုပ်တဲ့ ခေတ်တုန်းက ဘိုနာပတ်ဟာ တကယ်ပဲ မင်းဆိုးမင်းညစ်တစ်ပါးလို ပြုမူခဲ့သလား။ ဒါမှမဟုတ် စစ်မှန်တဲ့ လွတ်လပ်ခွင့်ရဲ့ ဘက်တော်သားလား။

သူတို့ အတ္ထုပ္ပတ္တိတွေကို ဖတ်တဲ့ စာဖတ်ပရိသတ်ဟာ ဒီအချက်တွေကို သိချင်ကြတယ်။ စာရေးဆရာဟာ သူတတ်နိုင်သမျှ အချက်အလက်တွေကို စုဆောင်းပေးပြီးတဲ့နောက် ကောက်ချက်ချဖို့ ကိစ္စကို စာဖတ်သူအတွက် ချန် ပစ်ခဲ့ရမယ်။ အဖြစ်အပျက်တစ်ခုနဲ့ ပတ်သက်ပြီး အမှားအမှန် သံသယဖြစ်လာ ဖို့ သူ ဝင်ရောက်ပြောဆိုသင့်တယ်လို့ ထင်ရင် စာရေးဆရာဟာ ဖြစ်နိုင်တဲ့ မှန်းဆချက်အားလုံးကို တင်ပြရမယ်။

ဒီလိုဖြစ်လာရင် မှန်းဆချက်ပေးရာမှာ လစ်တန်စထရက်ချီဟာ ပါရဂူပဲ။ အမှန်ဟာ ဒီနေရာမှာ ရှိလောက်တယ်။ ဒါမှမဟုတ် ဟိုနေရာမှာ ရှိလောက်တယ်လို့ ခန့်မှန်းရာမှာ တော်တယ်။ လူတိုင်းရဲ့ဘဝမှာ တွေ့ရတတ်တဲ့ ဝိုးတိုးဝါးတား အချက်တွေကို တောက်ပတဲ့ နှင်းထုနဲ့ ဖုံးအုပ်ပေးရာမှာ လစ်တန်စထရက်ချီဟာ ကျွမ်းကျင်တယ်။ တကယ့်ဘဝမှာလိုပဲ အနုပညာမှာလည်း တချို့နေရာတွေမှာ ဒီလို ဝိုးတိုးဝါးတား လုပ်ပစ်ရတာတွေ ရှိတယ်။

အတ္ထုပ္ပတ္တိကျမ်းတစ်စောင်မှာ စာရိတ္တတန်ဖိုး နီတိတန်ဖိုး ရှိသင့်သလား။ ကြီးကျယ်တဲ့ အနုပညာတိုင်းမှာ သင်ခန်းစာ တန်ဖိုးရှိတဲ့ အတိုင်း အတာလောက်တော့ သူ့မှာလည်း သင်ခန်းစာ တန်ဖိုးရှိသင့်တယ်။ ဒီလို ပြောတဲ့အတွက် ကောင်းတာနဲ့မကောင်းတာဆိုပြီး သိသိသာသာကြီး သင်ခန်းစာ ထုတ်ပေးရမယ်၊ နီတိတွေ ထုတ်ပေးရမယ်လို့ ကျွန်တော်ပြောလိုတာ မဟုတ်ပါဘူး။ ဒါပေမယ့် အတ္ထုပ္ပတ္တိကျမ်းတစ်စောင်ဟာ စာဖတ်သူတွေအပေါ်မှာ ကောင်းတဲ့ အကျိုးသက်ရောက်မှုကိုတော့ ပေးသင့်တယ်။ အတ္ထုပ္ပတ္တိကျမ်းကို ဖတ်ပြီး 'သြော် . . . ဒီအထဲက အမျိုးသား၊ သို့မဟုတ် အမျိုးသမီးဟာ ငါနဲ့ တော်တော်တူပါ့ကလား၊ ငါ့လိုပဲ မျှော်လင့်ချက်တွေ ထားခဲ့ပြီး ငါ့လိုပဲ ဘဝမှာ စိတ်ပျက်စရာတွေ တွေ့ခဲ့ရပါကလား။ ဒါပေမယ့် ကြီးကျယ်တဲ့ အောင်မြင်မှုကြီးတွေကိုတော့ လုပ်နိုင်ခဲ့သားပဲ။ ဘဝကို ပျော်စရာကောင်းအောင် နေပျော်အောင် ဖန်တီးနိုင်ခဲ့သားပဲ' ဆိုတဲ့ အတွေးမျိုးကို ပေးနိုင်ရမယ်။

စစ်မှန်တဲ့ ပုံတူပန်းချီကားတစ်ချပ်ဟာ ထိုင်ပြီး ပုံဆွဲခံသူနဲ့ ပြန်လည်သင့်မြတ်တဲ့ ကြေအေးသွားတဲ့အရာ ဖြစ်သင့်တယ်။ ကြီးကျယ်ခမ်းနားတဲ့ အတ္ထုပ္ပတ္တိကျမ်းတစ်စောင်ဟာလည်း ခမ်းနားတဲ့ ပြဇာတ်ကြီးတစ်ခု အဆုံးသတ်သွားသလို လေးနက်တည်ငြိမ်တဲ့ ခံစားမှုတစ်ခုကို ပေးထားခဲ့သင့်တယ်။ ကျွန်တော်တို့ဟာ လောကမှာ သင်းထုံစေတဲ့ ပန်းကလေးတွေကို ကောက်ပြီး

ပန်းကုံးကလေး တစ်ကုံးအဖြစ် သီကုံးကာ ပြီးမြောက်ကုန်ဆုံးသွားတဲ့ ကံကြမ္မာ တစ်ခုကို ချီးမြှောက်ပူဇော်ကြတယ်။ အတ္ထုပ္ပတ္တိတစ်ခုဟာ ပြီးဆုံးသွားတဲ့ တေးသီချင်းတစ်ပုဒ်ရဲ့ မေးမှိန်ပျောက်ကွယ်သွားနေတဲ့ အချပိုဒ်တစ်ပိုဒ်ပါပဲ။ ပြီးဆုံးသွားတဲ့ ကဗျာတစ်ပိုဒ်ရဲ့ နောက်ဆုံး ပါဒ တစ်ခုပါပဲ။

လစ်တန်စထရက်ချီလို အတ္ထုပ္ပတ္တိဆရာမျိုးဟာ ကြီးကျယ်တဲ့ ဂီတဆရာကြီးတစ်ဦး၊ ကြီးကျယ်တဲ့ ကဗျာစာဆိုကြီး တစ်ဦးနဲ့ အတူတူ ဖြစ်တယ်ဆိုတာ သူ့ကိုယ်သူ သက်သေထူလိုက်တာပါပဲ။ အတ္ထုပ္ပတ္တိတစ်စောင်ရေးတဲ့ နည်းနာဟာ ဒီအချက်ပေါ်မှာ တည်နေပါတယ်။ အနုပညာအားလုံးဟာလည်း ဒီအချက်ပေါ်မှာ တည်နေတာပါပဲ။

*　*　*

# ဇာတ်သမားအို နဲ့
# စာရေးဆရာအို

ဒဿနဝတ္ထုဟာ 'ကပြား' အမျိုးအစားဖြစ်ပါတယ်။ ဒါကြောင့် တော်တော်ခက်တဲ့ စာပေပုံသဏ္ဌာန်တစ်ခု ဖြစ်ပါတယ်။ စာရေးဆရာက အချို့သော အတွေးအခေါ် အယူအဆများကို ဖြန့်ဖြူးဖို့၊ ဒါမှမဟုတ် ဝေဖန်တိုက်ခိုက်ဖို့အတွက် ဒဿနဝတ္ထုကို အသုံးပြုလာတာ ဖြစ်လေတော့ ဒဿနဝတ္ထုဟာ ရသစာတမ်းလိုလို၊ ဝါဒဖြန့်စာတမ်းလိုလို ဖြစ်နေတယ်။ ခက်တာက အဲဒီထဲမှာ စိတ်ကူးနဲ့ ရေးထားတဲ့အဖြစ်အပျက်စဉ်တွေ ပါနေပြန်တော့ ဝတ္ထုလို့လည်း ခေါ်နိုင်နေပြန်တယ်။ ဒါပေမယ့် ဒဿနဝတ္ထု စာတမ်းရဲ့ လေးနက်မှုမျိုးနဲ့ ဝတ္ထုရဲ့ အသင့်ယုတ္တိမျိုးတော့ မရှိနိုင်ဘူး။ အသင့်ယုတ္တိရှိတယ်လို့လည်း အာမ မခံဘူး။ ဒါတင်မကဘူး။ ဒဿနဝတ္ထုဟာ အသိပညာဆိုင်ရာ ကျွမ်းကျင်မှုအတွက် လေ့ကျင့်ခန်းတစ်ခုသာဖြစ်တယ် ဆိုတဲ့အချက်ကို အဓိကထားပြီး ဖော်ပြလေ့ရှိတယ်။

ဖော်လ်တဲယားဟာ **'အကောင်းမြင်သမား'** ဝတ္ထုကို ရေးခဲ့တယ်။ အနားတိုးလ်ဖရန့်စ်ဟာ **'ရေခဲငှက်များ'** ဝတ္ထုကို ရေးခဲ့တယ်။ အိတ်၊ ဂျီ၊ ဝဲလ်စ်ဟာ **'ဒေါက်တာမိုးရိုး၏ ကျွန်း'** ဆိုတဲ့ ဝတ္ထုကို ရေးခဲ့တယ်။ သူတို့ရေးတဲ့

ဝတ္ထုတွေကို တကယ်အစစ်အမှန်တွေလိုအဖြစ် စာဖတ်သူတွေက လက်ခံကြမှာ ပဲလို့ သူတို့အားလုံးက မမျှော်လင့်ခဲ့ကြပါဘူး။ သူတို့ကိုယ်တိုင်က သူတို့ပြော ချင်တဲ့ ဒဿနအကြောင်းအရာတွေကို ဝတ္ထုဇာတ်လမ်း ဆင်ပြီး ပြောရင် ကောင်းမှာပဲဆိုတဲ့ ရည်ရွယ်ချက်နဲ့ ရေးခဲ့ကြတာပါ။

ဒါဖြင့်ရင် စာရေးဆရာဟာ ဘာဖြစ်လို့ မဖြစ်နိုင်တာ၊ အသင့် ယုတ္တိ မရှိတာတွေကို ရေးပြီး ဒဿနတွေကို ထုတ်နေရတာလဲလို့ စာဖတ်သူတွေက မေးကောင်းမေးမယ်။ အဲဒါကတော့ တခြားကြောင့် မဟုတ်ပါဘူး။ သူပြောချင် တဲ့ အယူအဆကို စာတမ်းအနေနဲ့ရေးရင် စာဖတ်ပရိသတ်အနေနဲ့ အလန့် တကြားဖြစ်သွားမှာစိုးလို့၊ လက်မခံနိုင်မှာစိုးလို့၊ အများသူငါ လက်ခံထားတဲ့ အယူအဆတွေနဲ့ကို သွားပြီးထိပ်တိုက်ဖြစ်မှာစိုးလို့တဲ့။ ပိုပြီး လွတ်လွတ် လပ်လပ် ဖော်ပြနိုင်အောင် ဒဿနဝတ္ထုကို အသုံးပြုလာခြင်း ဖြစ်ပါတယ်။

စာရေးသူဟာ စာဖတ်သူကို ဘာရယ်လို့ ရေရေရာရာ မရှိတဲ့အရာ တွေ ကြီးစိုးနေတဲ့ ဘုံတစ်ခုကို ရောက်နေတယ်လို့ ခံစားလာအောင် လုပ်နိုင် သည်နှင့်အမျှ စာဖတ်သူကလည်း နားလည်မှုနဲ့ လက်ခံသွားပြီး စာရေးဆရာ ပြောလိုတဲ့ အကြောင်းအရာနောက်ကို ဟုတ်သည် မဟုတ်သည်အပ ထားပြီး မျောပါသွားတတ်လို့ပါပဲ။

ဂျိုနသစ်ဆွစ်ဟာ **'ဂါလီဗာ၏ ခရီးစဉ်'** ဝတ္ထုမှာ လူသေးသေး ညှက်ညှက်ကလေးတွေရဲ့ တိုင်းပြည်တစ်ပြည်ကို ဖန်ဆင်းပြခဲ့တယ်။ နောက် ဘီလူးသဘက်ကြီးတွေရဲ့ တိုင်းပြည်တစ်ပြည်ကို ဖန်ဆင်းပြခဲ့တယ်။ ဒီလို ရေး ပြခြင်းဖြင့် စိတ်ပျက်စရာကောင်းတဲ့ သူ့ခေတ် အင်္ဂလန်ပြည်နဲ့ လူတွေရဲ့ သဘာဝအကြောင်းကို ပြောပြနိုင်ခဲ့တယ်။

မွန်တက်စကျူးဟာ သူ့ဇာတိနဲ့ ဂုဏ်အဆင့်အတန်းအရ သူ လေး စားတန်ဖိုးထားနေရတဲ့ အရာတွေကို လှောင်ချင်၊ ပြောချင်တဲ့အခါမှာ ပါသျှန်း လူမျိုးတစ်ယောက်ကို ဖန်တီးပြီး သူ့ပါးစပ်နဲ့ အပြောခိုင်းခဲ့ရတယ်။

ဒါကြောင့်မို့ ဒဿနဝတ္ထုဟာ အဆောက်အအုံတွေ၊ ထုံးတမ်းစဉ် လာတွေထက် အယူအဆက ပိုပြီး လျင်မြန်စွာ ပြောင်းလဲနေတဲ့ ခေတ်ကြီးနဲ့ တော်တော်သင့်လျော်တဲ့ ပုံသဏ္ဌာန်ဖြစ်ပါတယ်။ စာရေးဆရာတွေမှာ သူတို့ တွေးထားတာ မှန်တယ်လို့ ထင်ထားတာတွေကို ပြောလည်း ပြောချင်တယ်။ ဒါပေမယ့် စည်းမျဉ်းဥပဒေတွေ၊ ဆင်ဆာတွေ၊ ဘာသာရေး ကွပ်ညှပ်မှုတွေ ကြောင့် ပြောလို့လည်း မရဘူးဖြစ်နေတယ် ဆိုတဲ့အခါမျိုးမှာ ကျိုးကြောင်းညီ ညွတ်မှု ကင်းမဲ့တဲ့အရာတွေထဲမှာ ခိုလှုံရာရှာပြီး အသင့်ယုတ္တိ မရှိတဲ့ စာအုပ်တွေ ကို ရေးခြင်းဖြင့် ဝိနည်းလွတ်အောင်လုပ်ဖို့ ကြိုးစားလာ ကြတော့တာပါပဲ။

၁၈ ရာစုနှစ်က ပြင်သစ်ပြည်ရဲ့ အခြေအနေဟာ ဒီအတိုင်းပါပဲ။

အဲဒီတုန်းက ဘယ်ဘက်ကကြည့်ကြည့် ပြင်သစ်ဘုရင် ဧကရာဇ်စနစ်ဟာ သိပ်ပြီးအားကောင်းနေတယ်။ ပြင်သစ်ဘုရင်စနစ်ဟာ ဘရင်ဂျီဘာသာတရားနဲ့ ရှေးဟောင်းဒဿန အစွဲအလမ်းတွေကို ကာကွယ်ပေးသူဖြစ်နေတယ်။ တရားသူကြီးများကလည်း တရားဥပဒေကို အကွပ်အညှပ်ကြီးစွာ စီရင်ပြဋ္ဌာန်းနေကြတယ်။ အဲဒီအချိန်မှာ ပြင်သစ်စာရေးဆရာများနဲ့ ပညာတတ်လူတန်းစားများဟာ အတွေးအခေါ်သစ်တွေကို လက်ခံနေကြပြီ။ အဲဒီအတွေးအခေါ်သစ်တွေကို ထုတ်ဖော်ပြောဆိုချင်နေကြပြီ။

ဒါပေမယ့် ပြောင်ပြောင်တင်းတင်း ထုတ်ဖော်ခွင့်မရကြသေးဘူး။ အတွေးအခေါ်သစ်တွေကို တစ်ဖက်လှည့်နဲ့ ဖော်ပြရသတဲ့။ 'ဒဿန အဘိဓာန်ကျမ်း' တို့၊ 'စွယ်စုံကျမ်း' တို့ ဆိုတဲ့စာအုပ်တွေ ထွက်ခဲ့တာကို ကြည့်ရင် သိနိုင်တယ်။ ဒါပေမယ့် ပြောစရာ အကြောင်းအရာတွေက မကုန်သေးဘူး။ အကိုင်ရ အတွယ်ရခက်တဲ့အကြောင်းတွေ ကျန်နေသေးတယ်။ ဒီမှာတင် နည်းလမ်းတစ်ခု ရှာလာကြတယ်။

စိတ်ကူးယဉ် ဝတ္ထုဆန်ဆန်ရေးရင်တော့ ပိုမိုကျယ်ပြန့်တဲ့ စာဖတ်ပရိသတ်က အထိတ်ထိတ်အလန့်လန့်နဲ့ သတိထားမိလာကြမှာပဲ။ ဘာဖြစ်လို့လဲဆိုတော့ အဲဒီလို အထိတ်ထိတ်အလန့်လန့်နဲ့ ဖတ်ရတဲ့စာမျိုးကိုမှ လူတွေက ဖတ်ချင်တတ်ကြတယ် မဟုတ်လား။ ပြင်သစ်ပြည်မှာ **'တစ်ထောင့်တစ်ညပုံပြင်များ'**(၁၇၀၄ – ၁၇၁၁ ခုနှစ်)၊ **'ကိုယ်ရေးမှတ်တမ်းများ'**(၁၇၂၁) တို့ကို ဘာသာပြန်ပြီးကတည်းက ကိုယ်ပြောချင်တာကို တစ်နည်းတစ်ဖုံ သွယ်ဝိုက်ပြောတတ်တဲ့ အရှေ့တိုင်းကနည်းကို ပြင်သစ် စာရေးဆရာတွေ သဘောကျလာခဲ့ကြတယ်။

ဒီနည်းကို အသုံးပြုရာမှာ ဗော်လ်တဲယားကတော့ အများဆုံးပါပဲ။

*

ဗော်လ်တဲယားဟာ အဲဒီလို ရှင်သန်တက်ကြွပြီး လွတ်လပ်တဲ့ စာပေပုံသဏ္ဌာန်ကို တော်တော်အသက်ကြီးမှ အသုံးပြုလာတာဖြစ်ပါတယ်။ ဒါဟာလည်း တော်တော်တော့ အံ့ဩစရာကောင်းပါတယ်။ ဗော်လ်တဲယားဟာ **'အမတ်ကြီး ဒီဂန်ဝွန်၏ စွန့်စားခန်းများ'** ဆိုတဲ့ ဝတ္ထုကို ရေးခဲ့ပါသေးတယ်။ ဒါပေမယ့် ပုံနှိပ်စာအုပ်အဖြစ် ပေါ်ထွက်မလာခဲ့ပါဘူး။

အဲဒီနောက်မှာ ဗော်လ်တဲယားဟာ **'ကမ္ဘာမြေဝယ်'** ဆိုတဲ့ စာအုပ်ကို ရေးခဲ့ပါသေးတယ်။ အဲဒီအချိန်တုန်းက ကံမကောင်းတဲ့ အဖြစ်အပျက် တစ်ခု

ကြောင့် သူနဲ့ မဒန်ဒူရှာကလေးတို့ဟာ မိန်းနယ်စားကတော်ကြီးထံမှာ ပြေးဝင် ခိုလှုံနေရချိန် ဖြစ်ပါတယ်။ အဲဒီမှာ နေရင်း **'အမှတ်တရ မှတ်တမ်းများ'**၊ **'စကာမင်တာဒို'**နဲ့ **'ဇာဒိ'** ဆိုတဲ့ ဝတ္ထုတွေကို ရေးခဲ့တာပါ။ ဗော်လ်တဲယားဟာ အဲဒီဝတ္ထုကို တစ်နေ့မှာ တစ်ခန်း တစ်ခန်းရေးပြီး ညနေပိုင်းကျတော့ နယ်စား ကတော်ကြီးကို ဖတ်ပြပါတယ်။

အဲဒီဝတ္ထုများဟာ ဒဿနဝတ္ထုများဖြစ်ပါတယ်။ စာရိတ္တဆိုင်ရာ အမှန်တရားတွေကို ရေးသားထားပြီး အာဝဇ္ဇန်းရွှင်ရွှင်၊ စကားပြောကောင်း ကောင်းနဲ့ ရေးထားပါတယ်။ နယ်စားကတော်ကြီးက အဲဒီဝတ္ထုတွေကို သဘောကျလွန်းလို့ တခြားသူတွေကိုပါ ဖိတ်ပြီး သူတို့ရှေ့မှာ အဖတ်ခိုင်းပါ တယ်။ ဗော်လ်တဲယားဟာ တကယ့်ဝါရင့် သဘင်သည်ကြီးတစ်ယောက်လို အဲဒီစာတွေကို ပရိသတ်ရှေ့မှာ ဖတ်ပြပါတယ်။ သူ့ရဲ့ပုံဝတ္ထုတွေကို နားထောင် သူတွေ သဘောကျလွန်းလို့ စာအုပ်အဖြစ် ပုံနှိပ်ထုတ်ဝေဖို့ တိုက်တွန်းကြပါ တယ်။ သူက ဒီစာတွေဟာ ရင်းနှီးတဲ့ မိတ်ဆွေအသိုင်းအဝိုင်းမှာ အပျော်ဖတ်ဖို့ ရေးထားတဲ့ စာပေါ့ စာလွှင်တွေဖြစ်တဲ့အတွက် ပုံမနှိပ်ချင် ဘူး။ ဒါမျိုးတွေကို ပုံနှိပ်ဖို့ မကောင်းဘူးဆိုပြီး ငြင်းခဲ့ပါတယ်။

စာရေးဆရာတွေဟာ သူတို့စာတွေနဲ့ ပတ်သက်လာရင် တော်တော် ညံ့ဖျင်းတဲ့ တရားသူကြီးတွေလို့ ဆိုရမှာပါပဲ။ အသက် ၁၈ နှစ်လောက်တုန်းက ဗော်လ်တဲယား ရည်ရွယ်တာကတော့ သူဟာ ပြင်သစ်စာပေသမိုင်းမှာ အလွမ်း ပြဇာတ်တွေကို ရေးတဲ့ ပြဇာတ်ဆရာကြီးတစ်ယောက် ဖြစ်ရမယ်ဆိုတဲ့ ရည် ရွယ်ချက်ရှိခဲ့ပါတယ်။ အသက် ၃၀ လောက်ရောက်တဲ့အခါမှာ သူဟာ ကျော် ကြားတဲ့ သမိုင်းဆရာကြီးတစ်ဦးဖြစ်ဖို့ မျှော်မှန်းခဲ့ပါတယ်။ အသက် ၄၀ မှာ ထင်ရှားတဲ့ မော်ကွန်းလင်္ကာဆရာကြီးတစ်ဦး ဖြစ်ချင်ခဲ့ပါ တယ်။

၁၇၄၈ ခုနှစ် 'ဇာဒိ'ဝတ္ထုတိုနဲ့ အခြားဝတ္ထုတိုကလေးတွေကို ရေးတဲ့ အခါမှာ အဲဒီဝတ္ထုတွေဟာ လူကြိုက်များမယ့် ဝတ္ထုတွေလို့ မထင်ခဲ့ပါဘူး။ ၁၉၅၈ ခုနှစ်အထိလည်း လူကြိုက်များပြီး ဖတ်ကောင်းမယ့် ဝတ္ထုတွေလို့ သူ မထင်ခဲ့ပါဘူး။

သူ့ရဲ့ အခြားသော ဝတ္ထုများဖြစ်တဲ့ **'ဇိုင်ယာ'**တို့၊ **'လာဟင်ရီယတ်'** တို့၊ **'တန်းဂရိဒ်'**တို့လို စာကြည့်ပိဋကတ်တိုက်က စင်တွေပေါ်မှာ ထာဝရ အိပ်ပျော်ခြင်းကို ရောက်သွားမှာပဲလို့ ထင်ခဲ့ပါတယ်။

ဒီနေရာမှာ ဗော်လ်တဲယားနဲ့ ခေတ်ပြိုင်စာရေးဆရာများဟာလည်း သူ့လိုပဲ အတွက်မှားခဲ့ကြပါတယ်။ သူတို့ဟာ ဒီလို အပေါ့ အလွှင်စာပေတွေကို ခပ်ပေါ့ပေါ့ပဲ သဘောထားခဲ့ကြပါတယ်။

အဲဒီဝတ္ထုတွေထဲမှာ သူတို့ သတိထားမိတာရှိတယ်။ အဲဒါဟာ စာရေးဆရာက သူ့ကိုယ်ရေးကိုယ်တာ ရန်သူတွေကို စောင်းမြောင်း တိုက်ခိုက်ထားတာတွေလောက်ပဲ ရှိပါတယ်။

ဖော်လ်တဲယားဟာ 'ဇာဒီ' ဝတ္ထုထဲမှာ သူ့ကိုယ်သူ ဉာဏ်အမြော်အမြင်ရှိတဲ့ ဇာဒီ ယောင်ဆောင်ပြီး သူ့ရန်သူတွေကို စောင်းမြောင်းတိုက်ခိုက်ထားတယ်။ နန်းတွင်းသူ၊ နန်းတွင်းသားတွေ ရန်ညှိုးဖွဲ့တတ်ပုံတွေ၊ မဟုတ်မမှန်သတင်းတွေကို လွှင့်ကြပုံတွေ၊ ဇာတ်လိုက်ဖြစ်တဲ့ ဇာဒီအပေါ်မှာ အသရေဖျက်ကြပုံတွေဟာ ဘယ်သူတွေကို ရည်ရွယ်ပြီး ရေးတယ်ဆိုတာ အဲဒီခေတ်တုန်းက စာဖတ်သူ တော်တော်များများ သိခဲ့ကြပါတယ်။

အမှန်ကတော့ ဖော်လ်တဲယားဟာ အဲဒီခေတ်တုန်းက မင်းနဲ့ပေါင်းပြီး တွင်ကျယ်ခဲ့ကြတဲ့ ဘုရင်ဂျီဘုန်းကြီး အတုအယောင်တွေကို တိုက်ခိုက်ထားတာပါ။ နောက်တော့ ဖော်လ်တဲယားဟာ အဲဒီဟာအုပ်ကို အမွေခန်းဖြတ်လိုက်ပါတယ်။ အဲဒီစာအုပ်ဟာ မြင့်မြတ်သော ဘုရင်ဂျီသာသနာတော်ကို ရဲတင်းစွာ တိုက်ခိုက်ထားသည့် ဝတ္ထုဖြစ်တယ်လို့ အများက ယူဆကြသည့်အတွက် စွန့်ပစ်လိုက်ပါတယ်လို့ သူက ကြေညာခဲ့ပါတယ်။ ဒါပေမယ့် တကယ်တော့ 'ဇာဒီ' ရဲ့ တိုက်ခိုက်ဝေဖန်မှုဟာ ဒီလောက် ပြင်းထန်တာမဟုတ်ပါဘူး။ နေရာအသီးသီး၊ ခေတ်အသီးသီးမှာ လူတွေဟာ မတူကွဲပြားခြားနားတဲ့ ယုံကြည်မှုတွေရှိကြတယ်။

ဒါပေမယ့် ယုံကြည်မှုတွေ ဘယ်လောက်ပဲကွဲကွဲ၊ ဘာသာတရားရဲ့ ခိုင်မာတဲ့ အခြေခံကတော့ အတူတူပါပဲဆိုတဲ့ သဘောကို ပြောတာပါပဲ။ ဒီအဆိုဟာ သာမန် စဉ်းစားဉာဏ်ကိစ္စသာ ဖြစ်ပါတယ်။ ဒါပေမယ့် သာမန်လူတွေဟာ သာမန် စဉ်းစားဉာဏ် ဆိုတာကိုလည်း သိပ်အလေးမထားကြသေးဘူးလေ။ ဖော်လ်တဲယား အယူအဆကို ပြောင်ပြောင်တင်းတင်း မတိုက်ရဲသူတွေကတော့ ဒီအယူအဆဟာ ဖော်လ်တဲယားရဲ့ ကိုင်ပိုင် အယူအဆ မဟုတ်ဘူး။ သူများစာကို ခိုးချတာပဲဆိုပြီး သူ့ကို စာသူခိုးလို့ စွပ်စွဲလာခဲ့ကြပါတယ်။ ကြီးကျယ်ထင်ရှားတဲ့ စာရေးဆရာ တစ်ယောက်ကို သေးသိမ်အောင်လုပ်ရာမှာ ဒီနည်းဟာ အလွယ်ဆုံးနည်းပါ။ အရင်ကတည်းက ဒီအတိုင်း လုပ်ခဲ့ကြတာပါပဲ။ အရင်တုန်းကလည်း ဒီလို ရေးခဲ့ပါပြီလို့ သူတို့ ပြောလေ့ရှိပါတယ်။ (ဒီနေရာမှာ အရင်တုန်းကလည်း ဒီလို ပြောခဲ့ပြီးပါပြီဆိုတဲ့ စကားပိုဒ်ဟာလည်း ချွင်းချက်မဟုတ်ပါဘူး။)

စာရေးဆရာ နှစ်ယောက်ရေးတဲ့ စာပိုဒ်တွေမှာ တူတာမျိုးတွေကို ထောက်ပြရတာဟာ အလွန်လွယ်ပါတယ်။ မောလျဲဟာ ပလောတပ်စ်ကို

အတု ခိုးခဲ့တာပါပဲ။ ပလောတပ်စ်ဟာလည်း မီနန်ဒါကို အတုခိုးခဲ့တာပါပဲ။ မီနန်ဒါ ဟာလည်း ကျွန်တော်တို့မသိတဲ့ နမူနာတစ်ခုကို အတုခိုးခဲ့မှာပါပဲ။

နောင် အနှစ်နှစ်ဆယ်အကြာမှာ ဝေဖန်ဆရာ ဖရေရွန်က ဇော်တဲယားဟာ 'ဇာဒိ' ဝတ္ထုထဲက အကောင်းဆုံးအခန်းတွေကို 'အဲဒီကူးချ စာရေးဆရာ ကြိုးစားဖုံးကွယ်တဲ့' ရင်းမြစ်များဆီက ခိုးချခဲ့တယ်လို့ စွပ်စွဲခဲ့ပါတယ်။ ဥပမာအားဖြင့် အခန်းတစ်ခန်းကို ပါနဲ့ရဲ့ ကဗျာတစ်ပုဒ်က ကူးချပြီးနောက် အခန်းတစ်ခန်းကို (အဲဒီအခန်းဟာ ရှားလော့ဟုမ်း ဝတ္ထုတွေရဲ့ ရှေ့ပြေးလို့တောင် ဆိုနိုင်ပါတယ်။) 'ထရိုင်မင်းသား၏ ပင်လယ်ခရီး' ဆိုတဲ့ မထင်မရှား ဝတ္ထုတစ်ပုဒ်ထဲက ခိုးချခဲ့တာလို့ ဆိုပါတယ်။ 'မွန်စီယာ ဇော်လ်တဲယားသည် လူအများမေ့လောက်ပြီဟု ထင်ရသော စာအုပ်များကို ရှာကြံဖတ်ရှုပြီး သူ့အကျိုးအတွက် အသုံးပြုတတ်ပေသည်။ သူသည် ထိုလူသိနည်းသော သတ္တုငင်းများကို ရှာဖွေပြီးနောက် ရတနာများကို တူးဖော်လာတတ်ပေသည်' လို့ သစ္စာမဲ့တဲ့ ဝေဖန်ရေးဆရာ ဖရေရွန်က ရေးခဲ့ပါတယ်။

ဒါဟာ ဒီလောက်ကြောက်စရာကောင်းတဲ့ ရာဇဝတ်မှုကြီးလား။ စာရေးဆရာတစ်ယောက်ဟာ အပြီးမသတ်ချုပ်ထားတဲ့ ချုပ်ရိုးကို ကောက်မကိုင်ရတော့ဘူးလား။

စာရေးဆရာတစ်ယောက်ဟာ ဘာမှမရှိတဲ့ လေဟာထဲကနေပြီး စာပေတစ်ခုကို ပြုစုဖန်တီးရနိုင်တယ်လို့ ဘယ်ရိုးသားတဲ့ ဝေဖန်ရေးဆရာများက ပြောခဲ့ဖူးလို့လဲ။ တကယ်ကတော့ ဝေဖန်ရေးဆရာပြောသွားတဲ့ ပါနဲ့ရဲ့ကဗျာနဲ့ 'မင်းသား၏ ပင်လယ်ခရီး' ဆိုတဲ့ စာတွေကတော့ သူတို့ကိုယ်ပိုင် စစ်စစ်တွေ မဟုတ်ပါဘူး။ ဂတ်စတန်ပဲရစ်ပြောသလို 'ဒီအကြောင်းတွေဟာ ခုမှသာ ပြင်သစ်ဘာသာနဲ့ အသစ်အဆန်းဖြစ်နေတာပါ။ ပဝေသဏီကတည်းက ဘာသာစကားများစွာနဲ့ ပြောခဲ့ပြီးပါပြီ' လို့ ပြောရမလို ဖြစ်နေပြီ။

ဇော်လ်တဲယားရဲ့ ပုံပြင်တွေ ထူးခြားတယ်၊ ကောင်းတယ် ဆိုတာ အဲဒီလို ပုံပြင်တွေကို သူကိုယ်ပိုင် ဖန်တီးမှုရှိလို့ ကောင်းတယ်လို့ပြောတာ မဟုတ်ဘူး။ အဲဒီလို ဝိရောဓိဖြစ်သလို ထင်ရတဲ့ အရည်အသွေးတွေကို ညီညွတ်အောင် ပေါင်းစည်းပေးနိုင်တဲ့အတွက် ကောင်းတယ်လို့ ပြောခြင်းဖြစ်တယ်။ အဲဒါဟာ ဇော်လ်တဲယားရဲ့ ကိုယ်ပိုင်အရည်အချင်းပါပဲ။ မတုပနိုင်တဲ့ အရည်အချင်းပါပဲ။

ဇော်လ်တဲယားဟာ ဂျေဆုဘုန်းတော်ကြီးတွေဆီမှာ စာပေသင်အံခဲ့ပြီး သူတို့ဆီက အသိပညာဆိုင်ရာ စည်းကမ်းများနဲ့ စာရေးဟန်ကို ရခဲ့တယ်။ အင်္ဂလန်မှာ ပြည်နှင်ဒဏ်ခံရတုန်းက ဂျိုနသန်ဆွစ်ရဲ့ စာတွေကိုဖတ်ပြီး သူ့ဆီက

နည်းနာတွေကို လေ့လာခဲ့ရတယ်။ ဆွစ်ရဲ့ ဩဇာကြောင့် ထူးထူးဆန်းဆန်း စိတ်ကူးတွေ၊ ခရီးသွားပုံပြင်တွေကို သဘောကျလာခဲ့ပါတယ်။ အမှန်ကတော့ သူ ဒါမျိုးတွေကို သဘောကျလာတာဟာ သရော်စာတွေကို ရေးဖို့အတွက် သဘောကျလာခဲ့ခြင်းဖြစ်ပါတယ်။ ဗော်လ်တဲယားရဲ့ပုံပြင်တွေထဲက အကြောင်း အရာများဟာ လူ့မျိုး နွယ်ကြီးလို ဟောင်းနွမ်းတဲ့ အကြောင်းအရာတွေပါပဲ။ နည်းနာကတော့ ဂျိုနသစ်ဆွစ်ရဲ့ နည်းနာ အရှေ့တိုင်းပုံပြင်များ (တစ်ထောင့် တစ်ညတို့ စသည်)ရဲ့ နည်းနာနဲ့ ဂျေဆုပညာသင်ကြားရေးရဲ့ အသီးအပွင့်တွေ ပါပဲ။ ကာလကြာမြင့်စွာ စိတ်ကူးခဲ့တဲ့ ပုံပြင်များကို အဲဒီနည်းနာတွေနဲ့ ပေါင်း စပ်ပေးလိုက်တာဟာ ဗော်လ်တဲယားရဲ့ နည်းနာဖြစ်ပါတယ်။

ဗော်လ်တဲယားဟာ ဒီနည်းနာကို ၁၇၄၇ ခုနှစ်ကတည်းက စမ်းသပ် ကြည့်ခဲ့တာပါ။ အဲဒီတော့ သူ့အသက် ၅၃ နှစ်ရှိပါပြီ။ သူ့ရဲ့ အကောင်းဆုံး ဝတ္ထုလို့ ဆိုနိုင်တဲ့ **'အကောင်းမြင်သမား'** ကို အဲဒီနည်းနဲ့ ရေးခဲ့ခြင်းဖြစ်ပါ တယ်။ သူ့ရဲ့ အောင်မြင်တဲ့ နောက်ဝတ္ထုတစ်ပုဒ်ဖြစ်တဲ့ 'လာလင်ဂျီနာ' ကို အသက် ၇၄ နှစ်မှာ ရေးခဲ့တာပါ။ သူ့ရဲ့ ဝတ္ထုလေးတွေဖြစ်တဲ့ **'ဂျင်နီ၏ အတ္ထုပ္ပတ္တိ'** စတဲ့ စာအုပ်များကို အသက် ၈၀ ကျော်မှ ရေးတာပါ။ ပြင်သစ် စာရေးဆရာတွေဟာ အသက်ခြောက်ဆယ်ကျော်မှ ပိုနုပျိုလာကြပြီး အချုပ် အချယ်မရှိ ပိုလွတ်လပ်လာကြတယ်လို့ ပေါမိုရန်းက ပြောခဲ့ဖူးပါတယ်။

ဖြစ်နိုင်ပါတယ်။ အဲဒီအရွယ်ရောက်တဲ့အခါကျတော့ သူတို့မှာ လူ ငယ်ဘဝ စိတ်ကူးယဉ် ဝေဒနာတွေကလည်း တော်တော်ပျောက်ကင်းကုန်ကြ ပြီ။ ဂုဏ်သတင်းတို့၊ ကျော်စောမှုတို့ဆိုတာတွေကိုလည်း ကျောခိုင်းလိုက်ကြ ပြီ။ ရာဘိုဘရိုင်းယန်းဟာ သူ နောက်ဆုံးရေးတဲ့ စာအုပ်လောက် 'မော်ဒန်' ဖြစ်တာရယ်လို့ တစ်အုပ်မှ မရှိသလောက်ပါပဲ။

ဗော်လ်တဲယားဟာ သူ့ရဲ့ အကောင်းဆုံးစာအုပ်ကို အသက် ၆၅ နှစ်မှာ ရေးတယ်။ အနားတိုးလ်ဖရန့်စ်ဟာ သူ့ရဲ့ အကောင်းဆုံးစာအုပ်ကို ၆၈ နှစ်မှာ ရေးပါတယ်။

ဇာတ်သမားအိုလိုပဲ စာရေးဆရာ အိုဟာလည်း သူ့အတတ်ပညာရဲ့ အရှင်သခင်တစ်ယောက်ဖြစ်ပါတယ်။ တကယ်တော့ ရေးဟန်နုပျိုသစ်လွင်ခြင်း ဆိုတာဟာလည်း အတတ်ပညာ ကိစ္စတစ်ခုထက် ဘာမှ မပိုဘူး မဟုတ်လား။

*      *      *

## စာထဲက
## အကောင်းမြင်ဝါဒနဲ့
## အဆိုးမြင်ဝါဒ

ဗော်လ်တဲယား ရေးတဲ့စာတွေဟာ အမျိုးအစားလည်း ကွာခြားကြပါတယ်။ တန်ဖိုးလည်း ကွာခြားကြပါတယ်။ ဒါတွေအားလုံးကို စိတ်ကူးယဉ်ပုံပြင်ဝတ္ထုများဆိုပြီး ခေါင်းစဉ်တပ်လေ့ရှိကြပါတယ်။ အဲဒီအထဲမှာ သူ့ရဲ့အကောင်းဆုံးလက်ရာများဖြစ်တဲ့ *Zading, Candide* နဲ့ *L' Ingenue* တို့ပါပါတယ်။ ပြီးတော့ ဒီလောက် အရေးမကြီးတဲ့ လက်ရာတွေဖြစ်တဲ့ *Prinnsse de Babelone Le Taureau blane* တို့လည်း ပါပါတယ်။ ဆယ်မျက်နှာလောက်သာ ရှိတဲ့ *Cosi - Saneta* နဲ့ *Le Crochetueur Borgne* စတဲ့ ဝတ္ထုတိုကလေးတွေလည်း ပါပါတယ်။ ဝတ္ထုရှည်ကြီးတွေ တစ်ရာလောက်လည်း ပါပါတယ်။ *Candide, Le Letters Persanes* စတဲ့ ဝတ္ထုရှည်ကြီးတွေရဲ့ ရှေ့ပြေးဖြစ်ပြီး အမျိုးအစားတွေရောနေတဲ့ စာတိုပေစတွေလည်း ပါပါတယ်။ ဝတ္ထုရဲ့ အငွေ့အသက်လို့ လုံးဝမပါတဲ့ *L' Homme aux Quarrante* တို့လို ဆွေးနွေးဟောပြောချက်တွေလည်း ပါပါ တယ်။

ဒီစာတွေအားလုံးထဲမှာ တူညီတဲ့အချက်ဟာ ဘာလဲ။

ပထမအားဖြင့်တော့ သူ့ရဲ့ 'လေသံ' ပဲ။ သူ့လေသံက လှောင်ပြောင်သရော်တဲ့ လေသံ။ နောက်ရွှတ်ရွှတ်လေသံ။ အပေါ်ယံကျတဲ့ လေသံ ဖြစ်ပါ

တယ်။ အဲဒီဝတ္ထုတွေအားလုံးက ဇာတ်ဆောင်တွေအားလုံးလောက်ထဲမှာ လေးလေးနက်နက် ရေးဖွဲ့ထားတဲ့ ဇာတ်ဆောင်ဆိုလို့ တစ်ယောက်မှ မတွေ့ရဘူး။ အဲဒီဇာတ်ဆောင်တွေအားလုံးဟာ အတွေးအခေါ်တစ်ခု၊ ဒါမှ မဟုတ် အယူအဆတစ်ခုကို ကိုယ်စားပြု ဖော်ပြထားတာချည်းပဲ။ (ဥပမာ ပန်းကလေ့ာစ်ဆိုလို့ရှိရင် အကောင်းမြင်ဝါဒကို ကိုယ်စားပြုထားတာ။ မာတင်ဆိုလို့ရှိရင် အဆိုးမြင်ဝါဒကို ကိုယ်စားပြုထားတာ) ဒါမှမဟုတ်ရင်လည်း သူ့ဇာတ်ဆောင်တွေဟာ ယွန်းလိုက်ကာတစ်ချပ်ပေါ်မှာ ရေးထားတဲ့ နတ်သမီးပုံပြင်ထဲက ဇာတ်ဆောင်မျိုးတွေ၊ ဒါမှမဟုတ် တရုတ်ပိုးချည်ထိုး ပန်းချီကားထဲက ဇာတ်ဆောင်မျိုးတွေ ဖြစ်နေတယ်။

သူတို့ နှိပ်စက်ညှဉ်းပန်းခံရလို့၊ ဒါမှမဟုတ် မီးရှို့အသတ်ခံရလို့ရှိရင်လည်း စာရေးဆရာကရော၊ စာဖတ်သူကရော ဘာမျှ မဖြစ်လိုက်ဘူး။ ဘာမှ မခံစားလိုက်ရဘူး။ တခြားကို မကြည့်နဲ့၊ ကိုယ့်ချစ်သူကို ကယ်တင်ဖို့ ကိုယ့်ဂုဏ်သိက္ခာကို စွန့်လွှတ်လိုက်ရတဲ့အတွက် စိတ်ပျက်အားငယ်ပြီး သေကောင်ပေါင်းလဲ ဖြစ်နေတဲ့ လှပတဲ့ စိန့်အက်ဖ်တစ်ယောက် ဆွေးပြီး မျက်ရည်ဖြိုင်ဖြိုင်ကျနေတာကို ရေးတာတောင်မှ ဖတ်ရသူမှ မျက်ရည်ကလေးတစ်ချက် လည်မလာဘူး။

သူ့ဝတ္ထုတွေဟာ တစ်ခါတစ်ရံမှာ ရင်ထဲမှာ နင့်လောက်တဲ့ ဇာတ်လမ်းတွေဖြစ်ပေမယ့် စာရေးဆရာရဲ့ ဇဝနဉာဏ်က လွှမ်းမိုးသွားတယ်။ ဝတ္ထုရဲ့ နရီကလည်း သိပ်မြန်လွန်းတော့ စာဖတ်သူဟာ ဆွေးနေဖို့တောင် အချိန်မရလိုက်ဘူး။ အသုဘရှု ဘာဝနာတေးနဲ့ အသုဘဝတ်ပြုဆုတောင်းဖွယ်ဓမ္မတေးတို့မှာ 'စည်းသုတ်' ဟာ နေရာမရှိဘူး။ 'စည်းသုတ်' နဲ့ 'ဝါးလတ်စည်း' တို့ဟာ ဗော်လ်တဲယား တော်တော်သဘောကျတဲ့ 'တီးကွက်' တွေဖြစ်တယ်။ နာမည်အမျိုးမျိုးပေးထားတဲ့ သူ့ရုပ်သေးရုပ်များဟာ နတ်ဆိုးရဲ့ဗုံတီးသံအတိုင်း စည်းချက်မြန်မြန်နဲ့ က,ကြရတယ်။ ဗော်လ်တဲယားဟာ သူ့ဇာတ်ခုံပေါ်ကို တရားသူကြီးတွေ၊ ဘုန်းကြီးတွေ၊ ကလေးတွေ၊ ဘာသာရေးအရ ညှဉ်းပန်းသူတွေ၊ ရေဝတီတွေ၊ အပြစ်မရှိသူတွေ၊ ဒဿနဆရာတွေကို တင်ရတာကို တော်တော်သဘောကျတယ်။ ပုံဝတ္ထုတိုင်းမှာလိုလိုပဲ တစ်မျိုးမဟုတ်ရင် တစ်မျိုးနဲ့ သမားရိုးကျ လူကြမ်းတွေ ပေါ်လာတတ်တယ်။

အမျိုးသမီးတွေဆိုတော့ သူ သိပ်အထင်ကြီးပုံမရဘူး။ သူရေးပြတဲ့ အမျိုးသမီးတွေကို ကြည့်လိုက်ရင် သူတို့ဟာ ကိုယ်လုံးကိုယ်ပေါက် တောင့်တဲ့ယောကျ်ားကလေး ပျိုပျိုရွှယ်ရွှယ် ချောချောတွေကို ကြိုက်ဖို့လောက်၊ ကိုယ့်အသက်ဘေးအတွက်ဖြစ်စေ၊ စည်းစိမ်ချမ်းသာအတွက် ဖြစ်စေ ကိုယ့် ခန္ဓာ

ကိုယ်ကို ယောက်ျားတွေကို ငှါးဖို့လောက်ပဲ သိတဲ့ သတ္တဝါတွေလို့ သူသဘော ထားတယ်။ မိန်းမတွေဟာ အပြောင်းအလဲမြန်တယ်။ မျောက်မ ထားဖို့ အတွက် ကိုယ့်လင်ရဲ့ နှာခေါင်းကို ဖြတ်ရရင်လည်း ဝန်မလေးဘူး။ ဒါပေမယ့် ဒီလိုအပြု အမူအတွက် မိန်းမတွေကို သူ အပြစ်မတင်ဘူး။

ဒီသဘောကို သူ့ဇာတ်ဆောင်တစ်ယောက် ဖြစ်တဲ့ စကာရီမင်တာဒို ပြောတဲ့စကားထဲမှာ တွေ့နိုင်တယ်။ 'လောကကြီးမှာရှိတဲ့ လှတဲ့ ချောတဲ့အရာ တွေ၊ ကောင်းတဲ့အရာတွေ၊ မြတ်နိုးစရာကောင်းတဲ့အရာတွေ အားလုံးကို ကျွန် တော် တွေ့ခဲ့မြင်ခဲ့ပြီးပြီ။ ဒါကြောင့်မို့ နောင်မှာဆိုရင် ကျွန်တော်တော့ အိမ်တွင်း မှာရှိတဲ့ အိမ်တွင်းနတ်တွေကိုပဲ ကိုးကွယ်နေတော့မယ်။ ကျွန်တော့်တိုင်းပြည်မှာ ကျွန်တော် မိန်းမတစ်ယောက် ရခဲ့ပြီးပြီ။ မိန်းမ သစ္စာဖောက်တာကိုလည်း တွေ့ခဲ့ရပြီးပြီ။ ဒါကြောင့်မို့ ကျွန်တော့်ဘဝဟာ ပျော်စရာအကောင်းဆုံးလို့ ကျွန်တော် ယူဆလိုက်ပြီ' လို့ ပြောခဲ့ပါတယ်။

ဒီစကားတွေဟာ ဖော်လ်တဲယားရဲ့ ဒဿနမှာ အခြေခံပြီး ထွက်ပေါ် လာတဲ့ စကားတွေ ဖြစ်ပါတယ်။ သူ့အတွေးအခေါ်ဟာ 'တည်ငြိမ်တဲ့ အတွေး တွေရဲ့ ဖရိုဖရဲဖြစ်မှု' လို့ ဝေဖန်ရေးဆရာတွေက ဆိုကြပါတယ်။ 'ဖော်လ်တဲယား ဟာ အရာအားလုံးကို စဉ်းစားခဲ့ပြီးပြီ။ စစ်ဆေးခဲ့ပြီးပြီ။ ဒီနောက်မှာ သူဟာ ဘာကိုမှ လေးလေးနက်နက် မစဉ်းစားတော့ဘူး' လို့ ဝေဖန်ရေးဆရာ ဖိုဂျေးက ရေးခဲ့ဖူးပါတယ်။

'ဖော်လ်တဲယားဟာ အကောင်းမြင်ဝါဒသမား တစ်ယောက်လား၊ ဒါမှမဟုတ် အဆိုးမြင်ဝါဒသမားတစ်ယောက်လား။ စိတ်ဆန္ဒရဲ့ လွတ်လပ်မှုကို ယုံကြည်သူလား၊ ဒါမှမဟုတ် ဘုရားသခင်က ပြဋ္ဌာန်းတယ်ဆိုတာကို ယုံ ကြည်သူလား။ ပရမတ္ထ ဝိညာဉ်တော်ရဲ့ မသေနိုင်တဲ့ သဘော (အမတ) ကို ယုံကြည်သူလား။ ဘုရားသခင်ကို ယုံကြည်သူလား။ တက္ကဗေဒ (ရုပ်လွန်ဓမ္မ) ကို ယုံကြည်သူလား။ သူဟာ လောက၌ လူတို့ သိနိုင်သိအပ်သော အရာဟူ သည် မရှိ ဆိုတဲ့တရား ယုံကြည်သူလား။ တစ်နည်းပြောရရင် တက္ကဗေဒကို ယုံတဲ့လူလား။ ဒီအမေးတွေကို တိတိကျကျ ဖြေနိုင်တဲ့သူရှိရင် ဖြေစေချင်ပါ တယ်' လို့ သူက ရေးခဲ့ပါတယ်။

သူ ရေးတာဟာ အမှန်ပါပဲ။ ဖော်လ်တဲယားရဲ့ စာတွေကို ဖတ်ကြည့် ရင် အားလုံး ဟုတ်တယ်ဆိုတဲ့ သဘောကိုလည်း တွေ့နိုင်တယ်။ တစ်ပြိုင်နက် အတွင်းမှာ အားလုံး မဟုတ်ဘူးဆိုတဲ့ သဘောကိုလည်း တွေ့နိုင်ပါတယ်။ သူ့ခေတ်ရဲ့ နောက်ခံမှာ ပေါ်ပေါက်တဲ့ ဝိရောဓိတွေနဲ့ ကြည့်လိုက်ရင် သူ့စာထဲ မှာ ပေါ်နေတဲ့ ဝိရောဓိတွေ၊ ရှေ့နောက် မညီမညွတ်ဖြစ်နေမှုတွေ၊ ဖရိုဖရဲဖြစ်နေမှု

တွေကိုလည်း နားလည်နိုင်ပါလိမ့်မယ်။ တခြားသူများရဲ့ ကိစ္စမှာလို သူ့ကိစ္စမှာလည်း သူ့ရဲ့ ဒဿနာဟာ သူ့ဘဝကိုလိုက်ပြီး အဆင်သင့်ပြောင်းလဲ ဖြစ်ပေါ်နေတာကို တွေ့ရပါလိမ့်မယ်။

La Vision de Babouc နဲ့ Zading တို့ကို ရေးခဲ့တဲ့ အချိန်ဟာ ကံကြမ္မာက သူ့ကို ပြုံးကြည့်ပြီး မျက်နှာသာပေးနေတဲ့အချိန်ဖြစ်ပါတယ်။ အဲဒီတုန်းက သူဟာ မဒမ်ဒီပွန်ပီဒေါ်ရဲ့ ကာကွယ်မှုနဲ့ မျက်နှာသာပေးမှုအောက်မှာ ရှိနေပြီး ရွှေနန်းတော်ကြီးထဲမှာ ဝင်နိုင်ထွက်နိုင်တဲ့သူ ဖြစ်ပါတယ်။ ဥရောပမှာရှိတဲ့ ဘုရင်ဧကရာဇ်တွေ အားလုံးက သူ့ကို ဖိတ်ခေါ်နေတဲ့အချိန် ဖြစ်ပါတယ်။ မဒမ်ဒီရှာတလီးယားက သူ့ကို ဖျော်ဖြေမှုပေးနေပြီး သူ့ကို ချစ်ခင်စုံမက်နေချိန် ဖြစ်ပါတယ်။ အဲဒီအချိန်တုန်းက သူ့ဘဝဟာ အဆင်ပြေပြီး မကျေနပ်စရာရယ်လို့ ဘာမှမရှိသလောက်ပါပဲ။ ဒါကြောင့်မို့ Babouc ဝတ္ထုထဲမှာ ရေးခဲ့တဲ့ သူ့အမြင်များ၊ သူ့အတွေးများဟာ ချိုသာပျော့ပျောင်းနေပါတယ်။

ဒီဝတ္ထုထဲမှာ အီကျူရီယယ်က ပါစီပိုလစ် မြို့ကို ငါ ဒဏ်ခတ်ရမလား။ ဖျက်ဆီးရမလားလို့ ဘာဗျူကို မေးတယ်။ ဘာဗျူဟာ စူးရှထက်မြက်ပြီး ဘက်မလိုက်တဲ့ အမြင်ရှိတယ်။ သူဟာ သွေးထက်သံယို စစ်မြေပြင်တွေကို ရောက်ခဲ့တယ်။ နှစ်ဘက်လုံးက စစ်သားတွေဟာ သူများကို ဘာဖြစ်လို့သတ်ပြီး ကိုယ်ရော ဘာဖြစ်လို့ အသေခံကြသလဲဆိုတာကို နားမလည်ကြဘူး။ ဒါပေမယ့် အဲဒီစစ်မြေပြင်ဟာ သူရသတ္တိနဲ့ လူ့အကြင်နာတရားကို ပြသရာနေရာဖြစ်နေတယ်။ ပါစီပိုလစ်မြို့ကြီးထဲကို ဝင်လာတဲ့အခါမှာ ညစ်ပတ်ပြီး မျက်နှာသာပေးခြင်း မခံရတဲ့ မြို့သူမြို့သားတွေကို တွေ့ရတယ်။

ပြင်းထန်စူးရှပြီး ပြေပြစ်ခြင်းမရှိတဲ့ အသံတွေ ကြားမှာ လူသေတွေကို ဘုရားဝတ်ကျောင်းတွေထဲမှာ မြှုပ်နှံနေကြတယ်။ မြို့ထဲ တရားသူကြီးတွေဟာ မြို့ထဲက အမျိုးသမီးတွေရဲ့ လှုပ်ရှားမှုတွေကို တပ်မက်အလိုလိုက်တဲ့ မျက်လုံးတွေနဲ့ ကြည့်နေကြတယ်။ ဒီလိုနဲ့ မြို့ထဲကို ဆက်ဝင်လာတဲ့အခါမှာ ပိုမိုကောင်းမွန်တဲ့ ဘုရားဝတ်ကျောင်းတွေ၊ ဉာဏ်အမြော်အမြင်ရှိပြီး ယဉ်ကျေးတဲ့ မြို့သူမြို့သားတွေကို တွေ့ရတယ်။ သူတို့ဘုရင်အပေါ်မှာ လေးနက်စွာတွယ်တာမြတ်နိုးကြတဲ့ မြို့သားတွေနဲ့ ရိုးဖြောင့်တဲ့ ကုန်သည်တစ်ဦးကို တွေ့ရတယ်။ မကြာခင်မှာပဲ သူဟာ ပါစီပိုလစ်မြို့ကြီးကို သဘော ကျလာတယ်။ မြို့ကြီးဟာ တစ်မုဟုတ်ချင်း ဆိုသလို လှပလာတယ်။ ပျော်စရာကောင်းလာတယ်။ ကောလာဟလသတင်းတွေ ပြည့်လာတယ်။ အမြော်အမြင် ရှိလာတယ်။ သာယာလာတယ်။ ဒါနဲ့ ဘာဗျူက သူ့တွေ့ရှိချက်တွေကို စစ်သူကြီး

အီကျူရီယယ်ဆီကို သတင်းပို့တယ်။ စစ်သူကြီးက မြို့ကြီးကို ဒီအတိုင်းထားဖို့၊ သူ့ရဲ့ ချွတ်ယွင်းချက်တွေကိုတောင် ပြင်ဆင်ခြင်းမရှိဘဲ 'လောကကြီးမှာ အစစအရာရာ စင်းလုံးချောမနေသည့်တိုင် အစစအရာရာဟာလည်း ဆိုးနေတာ မဟုတ်ဘူး၊ ဒါကြောင့် လောကကြီးကို ဒီအတိုင်းရှိနေပေ့စေ' လို့ စစ်သူကြီးက ပြောတယ်။

Zading ဝတ္ထုကတော့ ဒီထက်လေးနက်တဲ့ သဘောကို ဆောင်တယ်။ အဲဒီဝတ္ထုထဲမှာ ဗော်လ်တဲယားက သူ ကိုယ်ပိုင်စိတ်ကူးနဲ့ ဖန်တီးထားတဲ့ ပုံပြင်သာဓကကလေးတွေကို ရေးပြပြီး လောကကြီးမှာ အဆိုး တချို့ကို တွေ့ရုံနဲ့ လောကကြီးဟာ မကောင်းဘူးလို့ ထင်တဲ့လူတစ်ယောက်ဟာ ရှေ့လောတကြီး ဆုံးဖြတ်တဲ့သူသာ ဖြစ်လိမ့်မယ် ပြောခဲ့တယ်။ သူက အနာဂတ်ကို ကျွန်တော်တို့ ကြိုမမြင်နိုင်ဘူး။ ဖန်ဆင်းရှင်က ဖန်တီးထားတဲ့ အမှားလို့ ထင်ရတဲ့ အရာတွေကြားထဲက ကယ်တင်လွတ်မြောက်ခြင်း ပေါ်မလာဘူးဆိုတာ ဘယ်သူမှ မပြောနိုင်ဘူးလို့ ပြောခဲ့တယ်။

'အချင်း ဇာဒိ . . .၊ ကောင်းမြတ်ခြင်းကို မွေးဖွားပေးခြင်းမရှိသော ဆိုးယုတ်ခြင်းဟူသည် မရှိ' လို့ အဲဒီထဲမှာ နတ်တမန်က ဇာဒိကို ပြောခဲ့တယ်။

'သို့ဖြစ်လျှင် ဆိုးယုတ်ခြင်းဆို၍ လုံးဝမရှိဘဲ အကောင်းအမွန်တွေချည်းရှိလျှင် မကောင်းပါသလော' လို့ ဇာဒိက မေးတယ်။

'အချင်း ဇာဒိ၊ သို့ဆိုလျှင် လောကကြီးသည် တစ်မျိုး ဖြစ်သွားလိမ့်မည်။ လောက၌ရှိသော အဖြစ်တို့သည် အားလုံးကောင်းနေကြသည်ဆိုလျှင် ထိုနေရာသည် အားလုံး ပြီးပြည့်စုံနေပေလိမ့်မည်။ ထိုပြီးပြည့်စုံသောနေရာသည် ပရမတ္တဝိညာဉ်တော်၏ ဘုံဗိမာန်၌သာ တည်ရှိနိုင်ပေလိမ့်မည်' လို့ နတ်တမန်က ပြန်ပြောခဲ့တယ်။

ဗော်လ်တဲယားရဲ့ စဉ်းစားတွေးခေါ်နည်းဟာ ငြင်းလို့၊ ထုချေလို့ မရတဲ့ တွေးခေါ်နည်းဖြစ်ပါတယ်။ ဘုရားသခင်ဟာ ကောင်းမြတ်တယ်ဆိုလို့ရှိရင် ဘာဖြစ်လို့ လူ့လောကကြီးကို ပြီးပြည့်စုံတဲ့ သူ့ ဘုံဗိမာန်ရဲ့ နယ်နိမိတ်ထဲမှာ မထားခဲ့သလဲ။ ဘုရားသခင်ဟာ အလုံးစုံသော တန်ခိုးတော်ကို ပိုင်ဆိုင်တယ်ဆိုလို့ရှိရင် ကမ္ဘာကြီးကို ဖန်ဆင်းရာမှာ ဒုက္ခဆင်းရဲတွေက လွတ်ကင်းအောင် ဘာဖြစ်လို့ မဖန်ဆင်းခဲ့သလဲ။

ဇာဒိဝတ္ထုမှာ သူမေးချင်တဲ့ မေးခွန်းက ဒီမေးခွန်းပါ။ ဒါပေမယ့် ဗော်လ်တဲယားဟာ ပညာဉာဏ်ကြီးသူဖြစ်လေတော့ ဒီမေးခွန်းကို တိုက်ရိုက်မမေးခဲ့ဘဲ သွယ်ဝိုက်ပြီးပဲ မေးခဲ့တယ်။ Micromegas ဝတ္ထုထဲမှာကျတော့

စောစောကမေးခဲ့တဲ့ အမေးတွေကို ဉာဏ်အလင်းဆောင်တဲ့ အဖြေနဲ့ ဖြေခဲ့တယ်။ အဲဒီဝတ္ထုမှာ မိုက်ခရိုမီဂါ ဆိုတဲ့ ဂြိုဟ်သားတစ်ဦးဟာ စနေဂြိုဟ်သားတစ်ဦးနဲ့ အတူ ဂြိုဟ်တွေကို လျှောက်လည်ပါတယ်။ တစ်နေ့ကျတော့ သူဟာ ကမ္ဘာမြေကြီးကို တွေ့သွားပြီး အဲဒီကမ္ဘာမြေကြီးပေါ်မှာ မှီတင်းနေထိုင်တဲ့ သေးသေးမှုန်မှုန် သတ္တဝါကလေးတွေကို တွေ့သွားတယ်။ ဒီသတ္တဝါလေးတွေက စကားပြောတတ်တာကိုကြည့်ပြီး အံ့အားသင့်နေတယ်။ ပြီးတော့ သူတို့တတွေ ဟိတ်ဟန်များတာကိုလည်း စိတ်ဆိုးနေတယ်။ အဲဒီထဲမှာ ဆရာဝန်ဦးထုပ်ကို ဆောင်းထားတဲ့ သတ္တဝါလေးတစ်ကောင်က သူဟာ ဘဝရဲ့လျှို့ဝှက်ချက်ကြီး တစ်ခုလုံးကို သိတဲ့အကြောင်း၊ အဲဒီအကြောင်းဟာ စိန့်တော့မတ်ရဲ့ ဒေသနာတစ်ခုထဲမှာ ပါတဲ့အကြောင်းကို ပြောပြတယ်။ 'သူသည် အခြားကမ္ဘာမှလာသော ဂြိုဟ်သားနှစ်ဦးကို ခြေဆုံးခေါင်းဆုံးကြည့်ပြီးနောက် သူတို့ကိုယ်ခန္ဓာ၊ သူတို့ကမ္ဘာများ၊ သူတို့နေများ၊ သူတို့ ကြယ်တာရာများသည် လူသား၏ အကျိုးအတွက် ဖန်ဆင်းထားခြင်းဖြစ်ကြောင်းကို ပြောပြလေ၏' လို့ ရေးထားတယ်။

သူ့စကားကို ကြားတဲ့အခါမှာ ဂြိုဟ်သားက အားရပါးရ ရယ်တယ်။

ဒီရယ်သံဟာ ဗော်လ်တဲယားရဲ့ ရယ်သံဖြစ်ပါတယ်။ လူတွေက သူတို့လောကကြီးဟာ မကောင်းဘူး၊ ဆင်းရဲဒုက္ခများတယ်လို့ ညည်းကြတယ်။ အဲဒါ တကယ်ပဲ ဟုတ်သလားတဲ့။ ဆိုးတယ်ဆိုရင် ဘယ်သူ့အတွက် ဆိုးတာလဲတဲ့။ စကြဝဠာကြီးရဲ့ ပုံစံဇယားထဲမှာ လူဆိုတဲ့ သတ္တဝါဟာ ဘာမှ အရေးမကြီးတဲ့ သတ္တဝါကလေး မဟုတ်လားတဲ့။ ဖြစ်နိုင်တာကတော့ ကျွန်တော်တို့ မကောင်းဘူးလို့ထင်နေတဲ့ လူ့လောကကြီးဟာ ကျွန်တော်တို့နဲ့ လုံးဝခြားနားသော အခြားသော ဘုံတစ်ခုခုကနေ ဖန်ဆင်းပေးလိုက်တာ ဖြစ်မယ်ထင်တယ်တဲ့။ ပီဘိ သေးသေးကလေးသာဖြစ်တဲ့ လူဆိုတဲ့ သတ္တဝါကလေးဟာ ဒုက္ခဆင်းရဲ အနည်းငယ်လောက်ကိုတော့ တွေ့ရမှာပဲတဲ့။ ဒါပေမယ့် အလုံးအထည်အားဖြင့်လည်း ကြီး၊ စိတ်သဘောထားလည်း ကြီးတဲ့ အခြားကမ္ဘာက ဂြိုဟ်သားကြီးများကတော့ မယုတ်လွန်း မမြင့်လွန်းတဲ့ အလယ်အလတ်ဘုံတစ်ခုမှာ သုခချမ်းသာတွေကို ခံစားနေကြရမှာပဲတဲ့။

ဒါကတော့ ဆိုးယုတ်ခြင်းနဲ့ ပတ်သက်တဲ့ ဗော်လ်တဲယားရဲ့ အမြင်ဖြစ်ပါတယ်။

* * *

## အကောင်းမြင်သမား

ဒါပေမယ့် အဲဒီဝတ္ထုဟာ အခြားသောဝတ္ထုများနဲ့ နှိုင်းယှဉ်ရင် အကောင်းအမြင် ရှိသင့်သလောက် ရှိတယ်လို့ဆိုနိုင်တယ်။ ဒီ လူဆိုတဲ့ သတ္တဝါသေးသေးကလေးတွေဟာ ဒဿနတွေကို ပြောနေတဲ့အတွက် ဂြိုဟ်သားတွေအမြင်မှာ ရယ်စရာကောင်းချင် ကောင်းနေလိမ့်မယ်တဲ့။ ဒါပေမယ့် သူတို့ရဲ့ သိပ္ပံပညာ ဥပဒေသတွေ၊ ဂြိုဟ်သားတွေရဲ့ အလုံးအထည်ပမာဏကို တိတိကျကျ တွက်ပြနိုင်တာတွေ၊ သင်္ဘောပဲ့တာရာနဲ့ ကမ္ဘာမြေကြီးတို့ရဲ့ အကွာအဝေးကို တိတိကျကျ တွက်ပြနိုင်တာတွေ၊ သူတို့ ကိုယ်တိုင် ပါဝင်ဖွဲ့စည်းထားတဲ့ စကြဝဠာကြီးရဲ့ လျှို့ဝှက်ဆန်းကျယ်မှုတွေကို ထုတ်ဖော်ပြောဆိုနိုင်တာတွေကို တွေ့တဲ့အခါမှာ ဂြိုဟ်သားတွေဟာ အကြီးအကျယ် အံ့အားသင့်သွားကြတယ်။

ဒါတွေဟာ ဗော်လ်တဲယားရဲ့ ခေတ်မှာ အံ့သြစရာတွေပါပဲ။ ဒီနေ့ခေတ်မှာ ကျွန်တော်တို့ဆီကို ဂြိုဟ်သားတွေရောက်လာရင် သူတို့အဖို့လည်း အံ့သြစရာ ဖြစ်နေဦးမှာပါပဲ။ ဒီအကြောင်းတွေကို ပါစကာလည်း ရေးခဲ့ပြီးပါပြီ။ ဘေကွန်လည်း ရေးခဲ့ပြီးပါပြီ။ လူသားဟာ ဒီလိုပဲ ပီပီသေးသေးကလေး ဖြစ်နေဦးမှာပဲ။ အသေးအမွှားကလေးတွေဟာ စကြဝဠာကြီးရဲ့ နိယာမတွေကို လိုက်နာခြင်းဖြင့် စကြဝဠာကြီးကို စိုးမိုးနေဦးမှာပဲ။ သူတို့ရဲ့ အမြီးအမောက်

မတွဲမှုတွေကို သူတို့ရဲ့ အသိဉာဏ်က ချိန်ခွင်လျှာညီအောင် လုပ်ထားတယ်လို့ ယူဆပါတယ်။

ဒါဟာ ဗော်လ်တဲယားရဲ့အမြင် ဖြစ်ပါတယ်။

Macromegas ဝတ္ထုမှာ ကျွန်တော်တို့ဟာ ပုံဝတ္ထုပြောတဲ့ ဒုတိယ ဗော်လ်တဲယားကို တွေ့ပါတယ်။

တတိယဗော်လ်တဲယားကတော့ ဝမ်းနည်းနေတဲ့ ဗော်လ်တဲယားပါ။ လူဟာ အဓိပ္ပါယ်ကင်းမဲ့ရုံသာမက ကောက်ကျစ်စဉ်းလဲတယ်ဆိုတာကိုလည်း သူ နားလည်လာပါတယ်။ အဲဒီအချိန်တုန်းက သူ့ကိုယ်ရေးကိုယ်တာ ကိစ္စတွေမှာလည်း ကံဆိုးမိုးမှောင်ကျနေတဲ့ အချိန်ပါ။ မဒမ်ရှက်တလားဟာ သူ့မိတ်ဆွေတစ်ယောက်နဲ့ လိုက်ပြေးပြီး သူ့ကို စွန့်ခွာသွားခဲ့ပါတယ်။ လင်းဗတ်ဆိုတဲ့လူနဲ့ ကလေးရပြီး မီးတွင်းမှာပဲ ကွယ်လွန်သွားခဲ့ပါတယ်။ ပြင်သစ်ဘုရင်နဲ့ ပရပ်ရှားဘုရင်တို့ကလည်း သူ့ကို မျက်နှာသာမပေးကြတော့တဲ့အတွက် သူဟာ တစ်နိုင်ငံမှာ သွားပြီး ခိုလှုံနေရပါတယ်။ သူ့ရဲ့ ပြည်ပြေးဘဝဟာ တော်တော်ဆင်းဆင်းရဲရဲနဲ့ နေခဲ့ရတာပါ။ ဒီလစ်တို့၊ ဖာနေတို့ ဆိုတဲ့အရပ်တွေဟာ သူ့အဖို့ သိပ်မွေ့လျော်စရာကောင်းတဲ့ နေရာတွေ မဟုတ်ပါဘူး။

သို့သော်လည်း အဲဒီလို ပြည်ပြေးဘဝနဲ့ နေရင်း ပျော်ခဲ့တယ်ဆိုရင် ဒါဟာ သူ လောကကြီးမှာ နေတတ်ထိုင်တတ်လို့ ဉာဏ်အမြော်အမြင်ရှိရှိနဲ့ အသင့်အတင့် နှလုံးသွင်းတတ်လို့သာ ဖြစ်ပါတယ်။ သူ့အပေါင်းအသင်းတွေကြောင့် မဟုတ်တန်ရာပါဘူး။ အဲဒီအချိန်တုန်းက စစ်ပွဲတွေ တစ်ခုပြီးတစ်ခုဖြစ်နေလို့ တော်တော်စိတ်ဆင်းရဲစရာတွေကို တွေ့နေရပါတယ်။ ၁၇၅၅ ခုနှစ်မှာ သဘာဝကပါ နှိပ်စက်ပြန်တယ်။ အဲဒီနှစ်မှာ လစ္စဘွန်းမှာ ငလျင်အကြီးအကျယ် လှုပ်ခဲ့လို့ ဥရောပမှာ အလှဆုံးမြို့ကြီး တစ်မြို့ ပျက်သွားခဲ့ရပါတယ်။ အဲဒီအဖြစ်အပျက်တွေဟာ ဗော်လ်တဲယားရဲ့ အပေါ်မှာ ကြီးစွာသြဇာသက်ရောက်ခဲ့ပါတယ်။ လောကမှာ ဖြစ်သမျှတွေဟာ အကောင်းချည်းပဲလို့ ဖြေလို့ရစရာ မရှိတော့ပါဘူး။ ပစ္စုပ္ပန်ဟာ သူ့အဖို့ အကျည်းတန် အရုပ်ဆိုးနေပါတယ်။

တစ်နေ့ကျလျှင်၊ ကောင်းလိမ့်ထင်ဟု
အစဉ်သဖြင့်၊ ငါမျှော်လင့်၏။
ပစ္စက္ခ၌၊ အားလုံးကောင်းကြ
ငါထင်ကလျှင်၊ အမြင်သညာ
ဝိပလ္လာတည့်။

ဒီကဗျာတိုကလေးထဲမှာ ကျွန်တော်တို့ဟာ သမိုင်းဆိုတာ ရှေ့ကို တိုးတက်နေတဲ့အရာ ဖြစ်တယ်ဆိုတဲ့ ဒဿနကို တွေ့နိုင်တယ်။ ဒီဒဿန ဟာ Candide ဝတ္ထုရဲ့ ဒဿနပါပဲ။ Candide ဝတ္ထုဟာ ဗော်လ်တဲယားရဲ့ ကိုယ်တွေ့အဖြစ်အပျက်တွေနဲ့ ဒဿနဆရာတွေက သူ့ကို သင်ကြားပေးလိုက်တဲ့ အတွေးအခေါ်တွေကို ရေးထားတဲ့ ဝတ္ထုဖြစ်ပါတယ်။ ရူဆိုးက 'လူသည် ထို့ထက်ကောင်းသောအရာကို မလုပ်ခဲ့လျှင် လုပ်နိုင်စွမ်း မရှိသောကြောင့်သာ ဖြစ်ပေ၏' လို့ ပြောခဲ့ပါတယ်။ လိုက်ဗနစ်ကလည်း 'လောကကြီးမှာ တတ်နိုင်သလောက် အကောင်းဆုံးကိုလုပ်ဖို့သာဖြစ်တယ်' လို့ သင်ကြားပေးခဲ့ပါတယ်။

ဒီဒဿနတွေကို ဗော်လ်တဲယားက Candide ဝတ္ထုရဲ့ ဇာတ်ဆောင်ဖြစ်တဲ့ အကောင်းမြင်ဝါဒသမား တစ်ယောက်ဖြစ်တဲ့ ပန်းဂလော့ရဲ့ ပါးစပ်ထဲကို ထည့်သွင်းခဲ့ပါတယ်။ သူ့ဆရာ ပန်းဂလော့ရဲ့ အမြင်ဟာ ဘယ်လောက် မှားနေတယ်ဆိုတာကို ပြဖို့အတွက် ဗော်လ်တဲယားဟာ အကောင်းမြင်ဝါဒ ပုရောဟိတ်ရဲ့ တပည့်တစ်ဦးဖြစ်တဲ့ ကင်းဒိက ကမ္ဘာပတ်ခိုင်းပါတယ်။ ကင်းဒိဟာ ကမ္ဘာအနှံ့မှာ စစ်တပ်တွေကို မြင်ခဲ့တယ်။

ဘာသာရေးကြောင့် ညှဉ်းပန်း သတ်ဖြတ်မှုတွေကို တွေ့လာခဲ့တယ်။ လူသတ်တာ၊ ခိုးဝှက်တာ၊ အဓမ္မကျင့် တာ၊ ပါရာဝေးပြည်က ဂျေဆုဘုန်းကြီးတွေ လိမ်ညာတာ၊ ပြင်သစ်၊ အင်္ဂလိပ်နဲ့ တူရကီပြည်တို့မှာ အခြေအနေတွေ ဆိုးရွားနေတာတွေကို မြင်လာခဲ့တယ်။ ဒီလို တွေ့ကြုံလာပြီးတဲ့နောက် နေရာတိုင်း အချိန်တိုင်းမှာ လူဟာ ဆိုးယုတ်တဲ့ သတ္တဝါတစ်ဦးပါလား ဆိုတာ သဘောပေါက်လာပြီး စာအုပ်အဆုံးမှာ 'ကျွန်ုပ်တို့သည် ကျွန်ုပ်တို့၏ ဥယျာဉ်ကို ပြုစုပျိုးထောင်ကြရပေလိမ့်မည်' လို့ အဆုံးသတ်ထားပါတယ်။

တစ်နည်းပြောရရင် ကမ္ဘာကြီးဟာ ရူးသွပ်ပြီး ရက်စက်ကြမ်းကြုတ်တယ်။ မြေကြီးဟာ တုန်ဟည်းလှုပ်ခါနေတယ်၊ ကောင်းကင်မှာ မိုးကြိုး လျှပ်စီးတွေ ဝင်းလက်နေတယ်၊ ဘုရင်ဧကရာဇ်တွေဟာ စစ်တွေကို တိုက်နေတယ်၊ ဘာသာတရားတွေဟာ တစ်ခုကိုတစ်ခု ကြေမွသွားအောင် လုပ်နေကြတယ်၊ ဒါကြောင့်မို့ ဖြစ်နိုင်သမျှတွေထဲက၊ တွေ့လာသမျှတွေက နေပြီး ကျွန်တော်တို့ရဲ့ လုပ်ရှားမှုတွေကို အကောင်းဘက်ရောက်အောင် ဦးတည်ကြပါစို့။ အကောင်းဆုံးဖြစ်အောင် ကြိုးစားကြပါစို့လို့ သူက နိဂုံး ချုပ်ထားပါတယ်။ ဒီ 'သိပ္ပံနည်းကျပြီး လူ့ယဉ်ကျေး' ဆန်တဲ့ ကောက်ချက်ဟာ ဗော်လ်တဲယားရဲ့ နောက်ဆုံးစကားဖြစ်ပါတယ်။ နောင်မှာ ဂါထေးကလည်း ဒီလိုပဲ ပြောခဲ့တာပါပဲ။ လောကမှာ အရာအားလုံးဟာ ဆိုးတယ်။ ဒါပေမယ့် အရာအားလုံးကို ပိုကောင်းအောင် လုပ်လို့ရတယ်လို့ ယူဆပါတယ်။

ဒါဟာ မပြည့်စုံသေးတဲ့ ကျွန်တော်တို့ရဲ့ ခေတ်သစ် ကမ္ဘာကြီး အတွက် နိဒါန်းစကားဖြစ်တယ်။ တည်ဆောက်နေတဲ့ အင်ဂျင်နီယာရဲ့ ဉာဏ်ပညာအတွက် နိဒါန်းစကားဖြစ်တယ်။ ဘယ်လိုပဲဖြစ်ဖြစ် ဒီစကားဟာ လွန်စွာ အသုံးဝင်လှပါတယ်။ ဝေဖန်ရေးဆရာ ဗိန်းဗီးလ် ပြောသလို ဖော်လ်တဲယားဟာ 'ကမ္ဘာကြီးကို အမြင်မှားမှုတည်းဟူသော သညာ ဝိပလ္လာသတွေ ကင်းအောင် ရှင်း' ပေးလိုက်ပါတယ်။ ဒီလို သူရှင်းလင်း လှဲကျင်းပေးထားတဲ့ မြေကြီးပေါ်မှာ ကျွန်တော်တို့ဟာ ကမ္ဘာကြီးကို တည်ဆောက်နိုင်မှာဖြစ်ပါတယ်။

ကမ္ဘာကြီးကို အဓိပ္ပါယ်မရှိတဲ့အရာတွေနဲ့ ပြည့်နေတယ်လို့ ကျွန်တော်တို့ခေတ်က စာရေးဆရာများကလည်း ယူဆနေကြပါတယ်။ ဒါပေမယ့် ဖော်လ်တဲယားဟာ ဒီကိစ္စနဲ့ပတ်သက်လို့ သူ့ရဲ့ Candide ဝတ္ထုမှာ ပြောစရာရှိတာတွေကို အကုန်ပြောခဲ့ပါပြီ။ ဒီလိုပြောတဲ့နေရာမှာ ဇဝနဉာဏ်ရွှင် ရွှင်၊ အသိဉာဏ်အမြော်အမြင်ရှိရှိနဲ့ ပြောသွားခြင်းဖြစ်ပါတယ်။ စိတ်တိုနေတာနဲ့စာလျှင် ဒီလိုပြောသွားတာဟာ အများကြီးကောင်းပါတယ်။ ဒီနည်းအားဖြင့် သူဟာ ကျွန်တော်တို့အလုပ်မှာ လိုအပ်နေတဲ့ သတ္တိအမွေကို ပေးသွားခဲ့ပါတယ်။

Candide ဝတ္ထုဟာ ဖော်လ်တဲယားရဲ့ အနုပညာမှာ အထွတ်အထိပ်ပါပဲ။ ဒိနောက် ရေးတဲ့ ပုံဝတ္ထုတွေထဲမှာတော့ L'Ingenu ဟာ အကောင်းဆုံးဖြစ်ပါတယ်။ ခု ပြန်ဖတ်သည့်တိုင် အဲဒီဝတ္ထုထဲမှာ သူ့ရဲ့ သွက်လက်တဲ့ နရီနဲ့ ညက်ညောတဲ့စကားပြေကို ကျွန်တော်တို့ ခံစားနေရပါသေးတယ်။ ဒါပေမယ့် အဲဒီပုံပြင်တွေထဲမှာ ပါတဲ့ ဦးတည်ချက်ကတော့ Candide ရဲ့ ဦးတည်ချက်လောက် အရေးမကြီးပါဘူး။ L' Histore de Jennie ကတော့ ကိုးကွယ်ရေးဝါဒကို ကာကွယ်ထားတဲ့ ဝတ္ထုတစ်ပုဒ်မှာ 'လူတို့လျှို့ဝှက်စွာ ကျူးလွန်တတ်သည့် ရာဇဝတ်မှုများကို ထိန်းချုပ်ပေးမည့် ဘရိတ်ဖြစ်ပေသည်လို့ ဝေဖန်ရေးဆရာတစ်ယောက်ရေးခဲ့တဲ့အတိုင်းပါပဲ။

ဟုတ်ပါတယ်။ ကြောက်ဖွယ်ရာများနဲ့ ရှုပ်ထွေးမှုတို့ ကြီးစိုးနေ တဲ့ ကမ္ဘာကြီးမှာ ဘုရားမဲ့ဝါဒနဲ့ အလွန်အကျွံ ယုံကြည်ခြင်းဝါဒတို့ဟာ ဆန့်ကျင်ဘက် ဝင်ရိုးစွန်းနှစ်ခု ဖြစ်ပါတယ်။ လောကမှာ ကံကြမ္မာအတိုင်း ဖြစ်ကြရတယ်။ ကံကြမ္မာဟာ လောကကို စိုးမိုးနေတဲ့တရားဆိုတာကို ပြောထားတာ။ ဒါကြောင့် စဉ်းစား တွေးခေါ် မနေကြနဲ့၊ စိတ်ညစ်မနေကြနဲ့လို့။

'ခိုက်ခိုက်တုန် ချမ်းအေးသောနေ့တွင် ပူသောအရည်ကို သောက်သုံးရာ၏။ ပူအိုက်သောနေ့တွင် အေးသောအရည်ကို သောက်သုံးရာ၏။ အရာကိစ္စအားလုံး၌ မများလွန်း၊ မနည်းလွန်းသော အလယ်အလတ်လမ်းကို လိုက်

ရာ၏။ အစာကို ကျေညက်အောင် လုပ်လေ၊ အိပ်စက်လေ၊ ပျော်ရွှင်မှု ရှာလေ၊ ထိုမှတစ်ပါး ကျန်အရာတို့သည် အတုအယောင်မျှသာ ဖြစ်ကုန်၏’ လို့ Candide အဆုံးသတ်မှာ ရေးခဲ့ပါတယ်။

ဗော်လ်တဲယားး စိတ်လက်ချမ်းသာရိစဉ်တုန်းက ရေးတဲ့ စကားပြေတွေထဲမှာ အထင်ရှားဆုံး အရည်အသွေးကတော့ ကဗျာပါပဲ။ ‘ကြီးကျယ်ခမ်းနားသော စာပေတိုင်းတွင် ဆုတောင်းပတ္တနာ ကဗျာသည် ပါရှိတတ်ပေ၏။ ဗော်လ်တဲယား၏ ပုံဝတ္ထုများထဲတွင်ပင် ကဗျာကိုတွေ့နိုင်ပေ၏’ လို့ အာလိန်းက ရေးခဲ့ဖူးပါတယ်။ ဟုတ်ပါတယ်။ ကြီးကျယ်ခမ်းနားတဲ့ စာပေတိုင်းမှာ ကဗျာ ရှိပါတယ်။ ရှုံးသွပ်နေတဲ့ စကြဝဠာကြီးကို အတွေးအခေါ်တွေ ကစဉ့်ကလျားဖြစ်ပုံနဲ့ ဖော်ပြသည့်တိုင် အဲဒီဖော်ပြမှုဟာ နရီ စည်းချက်ရှိနေပါတယ်။ ရှိတ်စပီးယားဟာ စုန်းမတွေရဲ့ ဂါထာမန္တာန်ကို လှပတဲ့ကဗျာနဲ့ ဖော်ခဲ့ပါတယ်။ တော်တော် မဆီလျော်တဲ့ကိစ္စဖြစ်သည့်တိုင် လှပနေပါတယ်။

ဗော်လ်တဲယားရဲ့ စာပေတွေထဲမှာလည်း ဒီအချက်နှစ်ချက်ဟာ ပေါ်လွင်နေပါတယ်။ လောကမှာ တကယ်ဖြစ်နေတဲ့ အဓိပ္ပါယ်မဲ့တဲ့ အရာတွေဟာ ရေတံခွန်များ ဒလဟောဆင်းလာသလို စာမျက်နှာတိုင်းမှာလိုလို သွန်ကျနေပါတယ်။ လှုပ်ရှားမှုဟာ မြန်နေရာက နရီစည်းချက် ပြန်နှေးလာပြီး အဲဒီနေရာမှာ မာတင်ရဲ့ ပူဆွေးမှု ဝင်လာလိုက်၊ ကင်ဒီရဲ့ ရိုးသားမှု ဝင်လာလိုက်၊ ပန်းဂလော့စ်ရဲ့ ကြမ္မာဆိုး ဝင်လာလိုက်၊ အဘွားအိုကြီးရဲ့ ပုံပြောခန်း ဝင်လာလိုက်နဲ့ သွက်လက်လျင်မြန်နေတဲ့ကြားက အဆွေးအလွမ်းတွေကို ရက်ဖောက်သွားပုံဟာ တကယ့် ကြီးကျယ်ခမ်းနားတဲ့ ကဗျာကြီးတွေမှာ တွေ့နိုင်တဲ့ အရသာမျိုးတွေပါ။

ဒါဟာ စကားပြေမှာ ကဗျာဆရာဖြစ်ချင်တဲ့ ဗော်လ်တဲယားရဲ့ ပုံပါပဲ။ သူ့အလွမ်းဇာတ်တွေနဲ့ သူ့မော်ကွန်းဝတ္ထုကြီးတွေကို ကြိုးစားရေးခဲ့တဲ့ ဗော်လ်တဲယားရဲ့ အဆုံးသတ်ပုံပါပဲ။ သူအပျော်ဖတ်ရေးတဲ့ ပုံပြင်စကားပြေထဲမှာ သူမသိဘဲ ကဗျာကို တွေ့ရှိသွားပြီး အရေးကြီးတယ်လို့ မထင်ဘဲ အပျင်းပြေရေးတဲ့ စကားပြေပုံပြင်ထဲမှာ ကဗျာကို တွေ့ရှိအဆုံးသတ် သွားပါတယ်။

သူ ပြောလေ့ရှိတဲ့အဆိုးဟာ ကောင်းလျှင် ကောင်းသောအဆိုးဖြစ်တယ်ဆိုတဲ့ ဒဿန၊ ကံကြမ္မာဟာ ကမ္ဘာကြီးကို စိုးမိုးနေတယ်ဆိုတဲ့ ဒဿနကို မှန်ကြောင်း သက်သေပြလိုက်တာနဲ့ အတူတူပါပဲ။

* * *

## ရှုးဆိုးရဲ့ဖြောင့်ချက်များ
## ပေးရဲကြပါ့မလား

သူသာ မရှိခဲ့ရင် ပြင်သစ်စာပေရဲ့ လမ်းကြောင်းဟာ တစ်မျိုးတစ်ဖုံ ပြောင်းသွားမှာပဲလို့ ပြောရမယ့် စာရေးဆရာဆိုလို့ နည်းနည်းကလေးပဲ ရှိပါတယ်။ အဲဒီ အနည်းစုကလေးမှာ ရှုးဆိုးလည်း ပါပါတယ်။ လူ့အဖွဲ့အစည်းရဲ့ ဘဝဟာ စာရေးဆရာအားလုံးပေါ်မှာ တော်တော်ဩဇာ လွှမ်းမိုးခဲ့ပါတယ်။ ဒီလိုလွှမ်းမိုးခဲ့တဲ့အတွက် စာရေးဆရာတွေရဲ့ အတွေးအမြင်တွေဟာ အဆင့်ဆင့် ပြောင်းသွားတတ်ကြပါတယ်။ ၁၇ ရာစုနှစ်တုန်းက ကြီးကျယ်ခမ်းနားတဲ့ မှူးမတ်သေနာပတိ အမြင်ကို စွဲကိုင်ရာကနေပြီး ဇဝနညဏ် ထက်သန်တဲ့အမြင်ကို ပြောင်းလာကြတယ်။ ၁၈ ရာစုနှစ်ကျတော့ ဇဝနညဏ် ထက်သန်တဲ့ အမြင်ကနေပြီး လောကကြီးကို လှောင်ပြောင်သရော်တဲ့ အမြင်ကို ပြောင်းလဲခဲ့ကြတယ်။ အဲဒီအချိန်လောက်မှာ ပြင်သစ်လူမျိုးလည်းမဟုတ်၊ မှူးမတ်သေနာပတိလည်း မဟုတ်၊ မှူးမတ်သေနာပတိရဲ့ ဩဇာသက်ရောက်ခြင်းလည်း မရှိ၊ လူကုံတန် အသိုင်းအဝိုင်းမှာ ကြီးပျင်းလာခဲ့ခြင်းလည်း မရှိ၊ မင်းစိုးရာဇာတွေရဲ့ ဧည့်ခန်းဆောင်တွေထက် ကျေးလက်က အထီးကျန် ဘဝကို ပျော်မွေ့တဲ့ လူတစ်ယောက် ဂျီနီဗာမြို့သားတစ်ယောက်ဟာ ဆွစ် ဇာလန်ပြည်နဲ့ ဆဗွိုင်းနယ်ရဲ့ ရှုခင်းတွေကို မြင်ရတဲ့ ပြတင်းပေါက် တစ်ပေါက်ကို ဖွင့်ပေးလိုက်ပြီး သစ်လွင်လန်းဆတ်တဲ့ လေကောင်းလေသန့်ကို ယူဆောင်လာခဲ့ပါတယ်။

ရာတိုဘရိုင်းယန်းဟာ 'ရီနီ' ဝတ္ထုက လုပတဲ့ စကားပြေကို ရေးနိုင်တာ၊ သူ့ဇာတ်ဆောင်တွေရဲ့ စကားလုံးတွေ ပြောင်မြောက်တာ၊ အတွေးတွေ လုပတာဟာ တခြားကြောင့် မဟုတ်ပါဘူး။ အဲဒီ ဂျီနီဗာမြို့သားရဲ့ ကျေးဇူးတွေကြောင့်ပါ။ အဲဒီ ဂျီနီဗာမြို့သားကတော့ စာရေးဆရာအကျော် ဖြစ်တဲ့ ဂျင်းဂျက်ရှူးဆိုးပဲ ဖြစ်ပါတယ်။

ရှူးဆိုးသာ မပေါ်ပေါက်ခဲ့ရင် ကျွန်တော်တို့ဟာ ကွန်ဗတ်က ပျံလွှားငှက်ကလေးတွေ ပျံနေတာ တွေ့ရမှာမဟုတ်ပါဘူး။ အဲဒီတောအုပ်က သစ်ရွက်တွေပေါ်ကို ဖြိုးဖြိုးဖြောက်ဖြောက်ကျနေတဲ့ မိုးစက်တွေရဲ့အသံကို ကြားရမှာမဟုတ်ပါဘူး။ မတ်နွိုင်ဇယ် ဘီတယ်လျူရဲ့ တေးသံကိုလည်း ကြားမှာ မဟုတ်ပါဘူး။ ရာတိုဘရိုင်းယန်းရဲ့ 'အောက်မေ့တသမှုများ မှတ်တမ်း' မှာ ဖော်ပြထားတဲ့ ဒီရှုခင်း၊ ဒီအသံတွေအားလုံးဟာ ရှူးဆိုးရဲ့ 'ဖွင့်ဟဝန်ခံချက်များ' ကို ဖတ်ပြီး ရလာတဲ့ အတွေးနဲ့အရေးတွေပဲ ဖြစ်ပါတယ်။ 'ဖွင့်ဟဝန်ခံချက်များ' ဆိုတဲ့ ရှူးဆိုးရဲ့စာအုပ်မှာ သူ့အဒေါ် ဆူဇန်းသီချင်း ဆိုတာနဲ့ပတ်သက်လို့ ထိုသီချင်းကို သီဆိုလိုက်တိုင်း ဆက်၍သီဆိုခြင်း မပြုရန် ကျွန်ုပ်၏မျက်ရည်များက ဟန့်တားခြင်းမပြုသောအခါဆို၍ တစ်ခါ မျှ မဆိုဘူးချေ။ မည်သည့်အတွက် ထိုသို့ဖြစ်ရကြောင်းကိုမူ ကျွန်ုပ်လည်း နားမလည်နိုင်ချေလို့ ရှူးဆူးက ရေးခဲ့ဖူးပါတယ်။

ရာတိုဘရိုင်းယန်းရဲ့ ဇာတ်ဆောင် ရီနီဟာ ရှူးဆိုးကို ပုံတူကူးရေးထားတာ ဖြစ်ပါတယ်။ သူ့ဇာတ်လိုက်ဟာ ရှူးဆိုးလိုပဲ။ အနှံ့အပြား ခရီးသွားသည့်လူငယ် မှုးမတ်ပျိုတစ်ဦး ဖြစ်ပါတယ်။ ရှူးဆိုးလိုပဲ အိန္ဒိယအမျိုးသမီးတွေရဲ့ အလှကို သဘောကျသူဖြစ်ပါတယ်။ ရှူးဆိုးလိုပဲ သူ့တိုင်းပြည်တစ်ခွင်မှာ ပြုပြစ်စင်အောင် ခြေကျင်ခရီးသွားခဲ့သူ ဖြစ်ပါတယ်။ ရှူးဆိုးလိုပဲ လက်ပုံနှိပ်တိုက် အလုပ်သင်ဖြစ်ပါတယ်။ ရှူးဆိုးလိုပဲ ခပ်ရမ်းရမ်း ခပ်ပေပေ အမှုထမ်းတစ်ဦးဖြစ်ပါတယ်။ ရှူးဆိုးလိုပဲ ရင့်ကျက်တဲ့ အလှပိုင်ရှင် မိန်းမချောများကို ထိန်းသိမ်းစောင့်ရှောက်သူ ဖြစ်ပါတယ်။ တကယ်လို့သာ ရှူးဆိုးရဲ့ 'ဖွင့်ဟဝန်ခံချက်' ကိုသာ မဖတ်ခဲ့မိရင် ရာတိုဘရိုင်းယန်းဟာ အလှအပတွေရဲ့ အရင်းအမြစ်ကိုလည်း သိခဲ့မှာမဟုတ်ဘူး။ ဒီလိုမသိခဲ့ရင် သူ့ရဲ့ 'အောက်မေ့တသမှုများ' ဆိုတဲ့ မှတ်တမ်းကိုလည်း ဒီလောက်ကောင်းအောင် ရေးနိုင်ခဲ့မှာ မဟုတ်ဘူး။ ရှူးဆိုးဟာ ကျွန်တော်တို့စာပေမှာ ကျေးလက်ရဲ့ လတ်ဆတ်သန့်ရှင်းမှုကို ပထမဆုံးပေးခဲ့တဲ့ စာရေးဆရာလို့ ဝေဖန်ရေး ဆရာ စိန့်ဗျူကာ ပြောခဲ့ပါတယ်။ ရာတိုဘရိုင်းယန်းအဖို့ နာကာလီနဲ့နေခဲ့ရတဲ့ 'နှစ်သက်ဖွယ်၊ စွဲလမ်းဖွယ်၊ ကြည်နူးဖွယ်နေ့များ' ဟာ ရှူးဆိုးနဲ့ မဒမ်ဝါရင်းတို့ နေခဲ့ရတဲ့ 'ရွှင်မြူးဖွယ်၊ ဆွတ်ပျံ့

ဖွယ်၊ လွမ်းဆွတ်ဖွယ်’ နေ့များ ကို အမှတ်ရစရာပါပဲ။ ရူးဆိုးဟာ ရှာတိုဘရိုင်းယန်းကို ‘ရီနီ’ ဝတ္ထု ရေးနိုင်အောင် အသံညှိပေးခဲ့တာပါပဲ။

စတင်ဒယ်မှာလည်း ရူးဆိုးရဲ့ ကျေးဇူးတွေ အများကြီးရှိပါတယ်။ သူ့ရှေ့က နမူနာတွေ မရှိခဲ့ရင် စတင်ဒယ်ဟာ ဒီလောက် ခွန်အားရှိတဲ့ ခံစားချက်တွေ၊ ရဲစွမ်းသတ္တိတွေကို မရနိုင်ပါဘူး။ စတင်ဒယ်ရဲ့ ဝတ္ထုထဲက ဇာတ်ဆောင် ဂျူလီယန်ဆိုရဲဟာ ‘ဖွင့်ဟဝန်ခံချက်များ’ ထဲက ရူးဆိုးကို နမူနာယူထားခြင်း ဖြစ်ပါတယ်။ မြို့စားကတော်ကြီး မော်လီရဲ့အိမ်မှာ ရောက်နေတဲ့ ဂျူလီယန်ဆိုရဲဟာ နယ်စားကတော် ဘူတွန်ရဲ့အိမ်ထဲကို ရောက်နေတဲ့ ရူးဆိုးပဲဖြစ်ပါတယ်။ ရူးဆိုးဟာ မတ်ဒ်မွိုင်ဇယ်ဘရီးရဲ့ ရှုတ်ချအထင်သေးခြင်းကို ခံခဲ့ရပါတယ်။ ရူးဆိုးက သူ့ကို အထင်သေးကြတဲ့အတွက် သူများအထင်ကြီးအောင် လက်တင်လိုပြောပါတယ်။

‘ညှော့ခန်းထဲရှိ လူများသည် ကျွန်ုပ်ကိုကြည့်ကြ၏။ စကားတစ်လုံးမျှ မပြောကြ။ ထိုမျှလောက် အံ့အားသင့်နေပုံကို ကျွန်ုပ် တစ်ခါမျှ မမြင်ခဲ့ဘူးသေးချေ။ သို့ရာတွင် မဒန်ဘရီး၏ မျက်နှာပေါ်တွင် ကျေနပ်သည့် အရိပ်အရောင်ကို မြင်ရသည့်အခါ၌ကား ကျွန်ုပ် ဂုဏ်ယူလိုက်မိသည်မှာ ဆိုဖွယ်မရှိတော့ပြီ။ ကျွန်ုပ်အား အထင်သေးသည့် မဒမ်ဘရီးသည် ကျွန်ုပ်အား ငဲ့ညှာသောအားဖြင့် ဒုတိယအကြိမ် ကြည့်လေရာ ထိုအကြည့်သည် သူ့ထံမှ ပထမဆုံးအကြိမ် ရရှိလိုက်သော အကြည့်ကဲ့သို့ပင် တန်ဖိုးရှိ လှပါပေ၏။ ထို့နောက် သူမသည် သူမ၏အဖိုးဘက်သို့ လှည့်၍ ကျွန်ုပ်အား ချီးမွမ်းစကားဆိုမည်ကို စိတ်မရှည်စွာဖြင့် စောင့်ဆိုင်းလျက်ရှိ၏။ သူ့အဖိုးသည် ကျွန်ုပ်အား လက်တင်စကားပြောကောင်းပါပေသည်ဟု ချီးကျူးသည်တွင်မှ စားပွဲတွင် ရှိသူအားလုံးတို့သည် သူ့ထက်ငါ အပြိုင်အဆိုင် ချီးမွမ်းစကားပြောကြ၏။ ထိုအချိန် ကလေးသည် ခဏမျှသာ ကြာလိုက်သော်လည်း ကျွန်ုပ်အဖို့ကား ထိုတစ်ခဏလေးသည် လွန်စွာ ချိုမြိန်သာယာလှပေ၏’ လို့ ရူးဆိုးက သူ့ ‘ဖွင့်ဟဝန်ခံချက်’ ထဲမှာ ရေးခဲ့ပါတယ်။

နောက် နှစ်တစ်ရာကြာတဲ့အခါမှာ အင်ဒရေဂျီးကလည်း သူ့အလို ရမ္မက်ကြီးပုံတွေကို သူ့ရဲ့ ကိုယ်တိုင်ရေး အတ္ထုပ္ပတ္တိကျမ်းဖြစ်တဲ့ Sile Carraon me Meurt မှာ ရေးခဲ့ပါတယ်။ တကယ်လို့သာ သူ့ရှေ့ ရူးဆိုးသာ အလားတူပွင့်လင်းတဲ့ ဖြောင့်ချက်မျိုးကို မရေးခဲ့ဘူးဆိုရင် အင်ဒရေဂျီဟာလည်း ရေးပါ့မလားဆိုတာ အများကြီး စဉ်းစားစရာဖြစ်ပါတယ်။ ဟုတ်ပါတယ်။ အင်ဒရေဂျီမှာ ဟန်ဆောင်တာတွေ ရှိပါတယ်။ ရူးဆိုးမှာ ကျေနပ်တာတွေ ရှိပါတယ်။ ဒီလိုဖြစ်တာကတော့ ဂျီဟာ လူလတ်တန်းစားကလာခဲ့သူ ဖြစ်ပြီး

ရှူးဆိုးက အောက်တန်းစားအလွှာက လာတဲ့လူဖြစ်လို့ပါ။ ဒါပေမယ့် ဘယ်လိုပဲဖြစ်ဖြစ် ခုလို ရိုးသားပွင့်လင်းစွာ ဝန်ခံတတ်တဲ့ ထုံးစံနဲ့ သဘောထားဟာ ရှူးဆိုး မတိုင်ခင်တုန်းက မရှိခဲ့ဖူးသေးပါဘူး။ အဲဒီတုန်းက ပြင်သစ်စာပေ အသိုင်းအဝိုင်းမှာ အမှန်တရားထက် ဣန္ဒြေတွေ၊ ဟန်တွေကို အလေးထားတဲ့ ခေတ်ဖြစ်ပါတယ်။ မောလျာနဲ့ ရိုချီဖိုးကောတို့ဟာ သူတို့ရဲ့ အတွင်းရေးတွေကို မွမ်းမံတင်ပြလေ့ရှိကြပါတယ်။ ဗော်လ်တဲယားကတော့ သူ့အတွင်းရေးကို တစ်လုံးမှတောင် ပြောတာမဟုတ်ပါဘူး။ ရှူးဆိုးကျမှသာလျှင် စာရေးဆရာတစ်ယောက်ဟာ အမှန်တွေကို မချွင်းမချန် ဂုဏ်ယူတဲ့ အလေ့ပေါ်လာတာပါ။

နှရာတေးပိဋကတ်တိုက်မှာ ရှူးဆိုးရဲ့ 'ဖွင့်ဟဝန်ခံချက်များ' အရှေ့ပိုင်းက လက်ရေးမူကြမ်းတွေ ရှိပါတယ်။ အဲဒီကျမ်းဟာ ပထမပုံနှိပ်ခြင်းမှာပါတဲ့ စာတွေထက် ပိုပြီး ကောင်းပါတယ်။ လက်ရေးမူကြမ်းကို ပြန်ကြည့်လိုက်ရင် 'ဖွင့်ဟဝန်ခံချက်များ' ကို ရေးတဲ့ စာရေးဆရာရဲ့ ရည်ရွယ်ချက်ကို ကောင်းကောင်းသိနိုင်ပါတယ်။

'လူတစ်ယောက်၏ ဘဝကို မိမိကိုယ်တိုင်မှအပ အခြား မည်သူမျှ ရေးနိုင်မည် မဟုတ်ချေ။ သူ့စိတ်၏ အလုပ် လုပ်ပုံ၊ သူ တကယ် ဖြတ်သန်းခဲ့ရသည့်ဘဝတို့ကို သူကိုယ်တိုင်သာ သိနိုင်ပေ၏။ သို့ရာတွင် ထိုအကြောင်းကို စာရွက်ပေါ်သို့ ချရေးလိုက်သည့်အခါတွင်မူကား ထိုအချက်တို့ကို ဖုံးကွယ်ထားတတ်လေသည်။ မိမိ၏ ဝါအကြောင်းကို ပြောသည်ဟုဆိုရာတွင်လည်း အမှန်စင်စစ်တွင် ကိုယ့်ကိုယ်ကို ကာကွယ်ပြီး အကောင်းတွေချည်း ရေးသားတတ်လေသည်။ သူ့ကိုယ်သူ အရှိအတိုင်း ဖော်ပြခြင်းမပြုတော့ဘဲ သူမြင်စေချင်သလို ဖော်ပြခြင်း ပြုလေတော့သည်။ အရိုးသားဆုံးသူများပင်လျှင် အမှန်အချို့တစ်ဝက်ကိုသာ ပြောတယ်။ အပြောပဲ ချန်ထားသည့်အရာတွေ အများကြီးရှိတတ်လေသည်။ ဤသို့အားဖြင့် ပြောသမျှကို အမှန်တွေ ပြောသည့်တိုင် ကျန်ကိစ္စများတွင် တိတ်တိတ်နေခြင်းဖြင့် လိမ်လည်နေကြလေသည်။ ထိုသို့ အမှန်အချို့တစ်ဝက်ကိုသာ ထုတ်ဖော်ပြောဆိုခြင်းကြောင့် အမှန်ကို ထုတ်ဖော်ပြောဆိုသည်ဟု သူတို့ပြောသည့်အရာများသည်လည်း အရာမထင် ဖြစ်ကြရလေသည်။ အမှန်ကို ရေးပါသည်ဟု ရိုးသားဟန်ဆောင်ကြသူများထဲတွင် မွန်တိန်းသည် ထိပ်ဆုံးမှ ဖြစ်ပေသည်။

မွန်တိန်းသည် သူ့အပြစ်အနာများကို ထုတ်ဖော်ရေးသားသွားသည့်တိုင် သာသာထိုးထိုးကလေး ရေးသွားခြင်းမျှသာ ဖြစ်လေသည်။ မည်သူမျှ မိမိကိုယ်မိမိ မကောင်းဟု ဝန်ခံခြင်း မပြုကြချေ။ မွန်တိန်းသည် သူ့ကိုယ်သူ ရေးချယ်ပြသွားသော်လည်း တစ်စေ့တစ်စောင်းမျှသာသာ ရေးချယ်

ပြခြင်းဖြစ်လေသည်။ ထိုအခါတွင် ကျွန်ုပ်တို့သည် တစ်ဖက်တွင် ကွယ်နေသည့်ပါးပေါ်မှ အမာရွတ်ကို လည်းကောင်း၊ ကိုယ်နေသောဖက်၌ မျက်လုံးတစ်ဖက်လပ်နေသည်ကို လည်းကောင်း မမြင်နိုင်တော့ပြီ။ ကျွန်ုပ်တို့ အဘယ်မှာလျှင် မြင်နိုင်တော့မည်နည်း' လို့ ရှုးဆိုးက သူ့ရဲ့ 'ဖွင့်ဟဝန်ခံချက်များ' စာအုပ်မှာ ရေးခဲ့ပါတယ်။

ဒီတော့ ရှုးဆိုးရေးဖို့ ကြံရွယ်ထားတဲ့ ကိစ္စကနေပြီး ပြဿနာနှစ်ခု ပေါ်လာပါတယ်။ တစ်ခုကတော့ စာရေးဆရာကိုယ်တိုင် ရိုးသားနိုင်ရဲ့လား၊ နောက်တစ်ချက်က ကိုယ့်အကြောင်းကို ပြန်ရေးတဲ့အခါမှာ လုံးဝရိုးသားမှုဆိုတာဟာ ရှိကောရှိနိုင်ရဲ့လားဆိုတဲ့ ပြဿနာဖြစ်ပါတယ်။

ရှုးဆိုးကတော့ သူ ရိုးသားတယ်လို့ ရိုးသားစွာ ယုံကြည်ကြောင်း ဖွင့်ရေးခဲ့ပါတယ်။ သူ ပြောတာ ဟုတ်သလောက်တော့လည်း ဟုတ်မယ်လို့ ထင်ပါတယ်။ တစ်ခါတစ်လေမှာ ရှုးဆိုးဟာ တော်တော်မျက်နှာပန်းမလှတဲ့ အလင်းရောင်ထဲမှာ သူ့ကိုယ်သူ ရေးချယ်ပြသွားပါတယ်။ ဥပမာအားဖြင့် သူအရွယ်မရောက်ခင်မှာ တစ်ကိုယ်တည်း အာသာဖြေပုံတွေ၊ မတ်ဒ်မွိုင်ဇယ်လန်ဘားစီးယားက သူ့ကို ရိုက်တဲ့အခါမှာ အရိုက်ခံရတာကို သူ ကျေနပ်သဘောကျနေပုံတွေ၊ မိန်းမနဲ့ပတ်သက်လာရင် အရှက်အကြောက်ကြီးပုံတွေ၊ အပျော်ကျူးခဲ့လို့ ပန်းသေရောဂါ တစ်စိတ်တစ်ပိုင်း စွဲကပ်ခဲ့ပုံတွေ၊ ဆွေမျိုးတော်စပ်တဲ့ မဒမ်ဒီဝါရင်းနဲ့ ကျူးကျူးလွန်လွန်ဖြစ်ခဲ့ကြပုံတွေနဲ့ နောက်ဆုံးမှာ ဖိုမကိစ္စနဲ့ပတ်သက်တဲ့ ပွင့်လင်းမှုရောဂါတစ်မျိုးလေလားလို့ စာဖတ် ပရိသတ်အနေနဲ့ စဉ်းစားစရာဖြစ်လာပါတယ်။ ဒီလို သူ အပျော်ကျူးခဲ့တာကို ရေးပြလိုက်တာဟာ စာဖတ်ပရိသတ်သာ ထောင်ပေါင်းများစွာက သူ့ရမ်းကားမှုတွေကို သိအောင် ရေးလိုက်တာပါပဲ။ ဒါပေမယ့် ဒီလိုသိအောင် ရေးလိုက်ရခြင်းသည်ပင်လျှင် သူ့အတွက် အရသာတစ်မျိုး ဖြစ်နေချင်လည်း ဖြစ်နေမှာပါပဲ။ ဒီလိုကိစ္စတွေကို စာဖတ်သူတွေသိထားအောင် ကိုယ်နဲ့သက်ဆိုင်သူသိအောင်၊ မိဘမောင်ဖွားတွေပါသိအောင် ရေးပြလိုက်ခြင်းဖြင့် စာရေးဆရာဟာ ဒီလိုကိစ္စတွေမှာ အရေးမကြီးတဲ့သဘော၊ အသေးအဖွဲ့သဘောလို့ ယူဆချင်လေသလားလို့လည်း တွေးဆစရာပါပဲ။ ဒီလိုသဘောမျိုးထားတဲ့ စာရေးဆရာတစ်ယောက်ဟာ ဒီလိုကိစ္စကို ရေးတဲ့အခါမှာ ထိန်ချန်ပြီး လိမ်ပြောတာထက် အကျယ်ချဲ့ပြီး လိမ်ညာပြောလေ့ရှိပါတယ်။

ရှုးဆိုးဟာ သူများပစ္စည်းကို ခိုးယူခဲ့ဖူးကြောင်း၊ သက်သေလိမ်ထွက်ခဲ့ဖူးကြောင်း၊ မဒမ်ဒီဝါရင်းနဲ့ ဆက်ဆံရာမှာ ကျေးဇူးကန်းခဲ့ဖူးကြောင်းတို့ကိုလည်း သူ့ကိုယ်သူ စွဲချက်တင်ခဲ့ပါတယ်။ ခိုးမှုကျူးလွန်ခဲ့တယ်ဆိုတာ

ကတော့ အသေးအဖွဲကလေးကို ခိုးတာပါ။ သက်သေလိမ်ထွက်တယ်ဆိုတာလည်း မကောင်းတဲ့စိတ်ထားနဲ့ လိမ်ထွက်တာမဟုတ်ဘဲ အားနာလို့ (ပျော့ညံ့လို့) လိမ်ထွက်ခဲ့တာပါ။ မဒမ်ဒီဝါရင်းကို စွန့်ပစ်ထွက်ပြေးခဲ့တယ်ဆိုတဲ့ကိစ္စကလည်း မဒမ်ဒီဝါရင်း အိမ်ကဆင်းလာပြီး တော်တော်ကြာမှ ဖြစ်ခဲ့တာပါ။ ဒါကတော့ ယောကျ်ားမှန်ရင် သူသူကိုယ်ကိုယ် ဒီလောက်တော့ ဖြစ်နေကျပါပဲ။ ဒါပေမယ့် သားသမီးတွေကို ပြောခဲ့တယ်ဆိုတာကတော့ဖြင့် မကောင်းဘူးပေါ့။ ရူးဆိုးကတော့ ဒီကိစ္စကို အသေးအဖွဲကလေးတစ်ခုလို ခပ်ပေါ့ပေါ့ပဲ ဖော်ပြထားပါတယ်။

ဒီတော့ ရူးဆိုးဟာ ကိုယ့်အပြစ်အနာအဆာတွေကို ဖော်ပြရာမှာ သာသာထိုးထိုးနဲ့ ဖော်ပြပြီး ရိုးသားဟန်ဆောင်နေတဲ့ စာရေးဆရာမျိုး မဟုတ်လား၊ မဟုတ်ဘူးလားဆိုတာကတော့ စဉ်းစားစရာပါပဲ။

သူ့ကို ရိုးသားဟန်ဆောင်တယ်လို့ပြောရင်တော့ ရူးဆိုးက ပြန်ပြောလိမ့်မယ်ထင်တယ်။ ‘ခင်ဗျားတို့ သတ္တိရှိရင် ကျုပ်ထက် ရိုးသားတယ်လို့ ပြောရဲရင် ပြောကြပေါ့’ လို့ သူက ပြန်ပြောကောင်း ပြောမယ်ထင်တယ်။ အင်း သူပြောမယ်ဆိုရင်လည်း ပြောစရာပေါ့။ တကယ့်ရိုးသားမှုဆိုတာ လူတစ်ယောက်အဖို့ ကိုယ့်ကိုယ်ကို ပြန်ကြည့်တဲ့နေရာမှာ သက်မဲ့ပစ္စည်းတစ် ခုလို ကြည့်သလို မထောက်မညှာ ပြန်ကြည့်နိုင်မှ ဖြစ်နိုင်တာမျိုးကိုး။ စိတ်က ရိုးသားတယ်ပဲထားဦး ပြန်ကြပ်တဲ့ဦးနှောက်နဲ့ စဉ်းစားဉာဏ်ကိုယ်၌က အပြစ်အနာအဆာရှိနေရင် အမြင် မကြည်လင်တာဖြစ်နေရင် ဘယ့်နှယ်လုပ်မလဲ။

ကိုယ့်အကြောင်း ကိုယ်ပြန်ရေးနေတဲ့ စာရေးဆရာဆိုတာ မှတ်ဉာဏ်ကို အားကိုးပြီး ရေးရတာမဟုတ်လား။ ဒီတော့ သူဟာ တစ်ချိန်တည်းမှာ အနုပညာရှင်လည်းဖြစ်၊ ကျိုးကြောင်းဆင်ခြင်စဉ်းစားသူလည်း ဖြစ်နေတော့ သူ့မှတ်ဉာဏ်ကိုယ်၌ကပင်လျှင် အဖြစ်အပျက်တွေကို ပြန်စဉ်းစားရာမှာ ဆန်ကာတင်ပြီး ရွေးထုတ်ပြီး ဖြစ်တတ်တာမျိုး လည်းရှိတယ်။ ဖြစ်တတ်တာက သူ အမှတ်ထင်ထင်ရှိနေတဲ့ အဖြစ်အပျက်တွေကို အရေးတကြီးထားပြီး အရေးမကြီးဘူးလို့ ထင်တဲ့ကိစ္စလေးတွေကို မေ့သွားပြီး ကျန်နေရစ်ခဲ့တာတွေလည်း ရှိတတ်တယ်။ ဒီလို စိတ်ရဲ့လုပ်ပုံနဲ့ ပတ်သက်လို့ ဂျော့ဂူးဒေါ်က ‘ဖွင့်ဟဝန်ခံချက်သည် မည်သည့်အခါမျှ အားလုံးကို ပြောမပြနိုင်ပေ။

အစစ် အမှန်ဟူသည် ရုပ်ထွေးဆန်းကျယ်သည့်အတွက် ယင်းကို ဖော်ပြရာတွင်လည်း မည်သည့်အခါမျှ တကယ်စစ်မှန်သော ရုပ်ပုံလွှာကို ရနိုင်မည် မဟုတ်ချေ။ နေ့စဉ် မှတ်တမ်းဟောင်းတစ်ခုကို ပြန်ဖတ်ခြင်းကြောင့် အဖြစ်အပျက်များကို သိနိုင်သည်မှန်၏။ ထိုအခါတွင် ကျွန်ုပ်တို့သည် နေ့စဉ်

အဖြစ်အပျက်များကို ပြန်၍စဉ်းစားသည့်အခါ၌ မှတ်ဉာဏ်ထဲတွင် မှတ်ထားသည့်အရာနှင့် ကွဲပြားနေတတ်လေသည်' လို့ ရေးဖူးပါတယ်။

ဖွင့်ဟဝန်ခံချက်ကျမ်းတစ်စောင်ကို ရေးတဲ့ စာရေးဆရာ တစ်ယောက်ဟာ သူ့အတိတ်ကိုသူ ပြန်တူးဖော်နေတယ်လို့ သူ့ကိုယ်သူ ထင်လေ့ရှိပါတယ်။ ဒါပေမယ့် အမှန်ကတော့ လက်ရှိပစ္စုပ္ပန်မှာ အဲဒီ အတိတ် ဘယ်လိုဖြစ်နေတယ်ဆိုတာကို ပြန်ပြောနေခြင်းသာဖြစ်တယ်။

ဖိုးချီဟာ အသက်အရွယ်ကြီးတဲ့အခါမှာ ပြင်သစ်တော်လှန်ရေးကြီးအကြောင်းကို ပြန်ရေးတဲ့အခါကျတော့ 'တစ်နေ့သ၌ ရို့စ်ပီယ ကျွန်ုပ်အား 'မြို့စားကြီးကို ပြောရဦးမယ်' ဟု ဆို၏' လို့ ရေးခဲ့ပါတယ်။ အမှန်ကတော့ ဖိုးချီဟာ သူ မြို့စားမဟုတ်ဘူးဆိုတာကို ရိုးရိုးသားသားမေ့ပြီး ရေးလိုက်တာပါ။ အလားတူပဲ။ လောလောလတ်လတ် အဖြစ်အပျက်တွေဟာ ကျွန်တော်တို့မှတ်ဉာဏ်ထဲမှာရှိတဲ့ ရေးတုန်းက အဖြစ်အပျက်တွေကို တစ်ခါတစ်ခါမှာ အရောင်ပြောင်းသွားအောင် သဏ္ဌာန်ပြောင်းသွားအောင် လုပ်တတ်ပါတယ်။

ဖွင့်ဟဝန်ခံချက်ဆိုတာဟာ ဝတ္ထုတစ်ပုဒ်ပါပဲ။ ဖွင့်ဟဝန်ခံတဲ့သူက ရိုးသားဖြောင့်မတ်တယ်ဆိုရင် မှတ်မိသလောက် ပြန်ရေးတဲ့ အချက်အလက်များဟာလည်း သမိုင်းအမှန်တရားနဲ့ ကိုက်ညီလုနီးပါးဖြစ်နေတတ်ပါတယ်။ ဒါပေမယ့် ခံစားချက်တွေကတော့ စိတ်ကူးဉာဏ်ကွန့်မြူးမှုက ထုတ်လုပ်ပေးလိုက်တဲ့အရာတွေ ဖြစ်ပါတယ်။ ရှူးဆိုးရဲ့ 'ဖွင့်ဟဝန်ခံချက်များ' ဟာ သရုပ်ပီပြင်တဲ့ ဝတ္ထုကြီးတွေအနက် တစ်ပုဒ် ဖြစ်ပါတယ်။ အဲဒီစာအုပ်ကို ရေးတဲ့အချိန်မှာ ရှူးဆိုးဟာ ဝတ္ထုရေးတဲ့အတတ်ကို ပိုင်နိုင်ပြီးသားဖြစ်နေပါပြီ။ အရွယ်ရောက်စဇာတ်လိုက်ကို သူမြင်နေရပါပြီ။ အခြေအနေတွေ၊ ဇာတ်ဆောင်တွေ၊ နေရာဒေသကို သူ့ခေါင်းထဲ ပြန်ပေါ်လာပါတယ်။ အချစ်ရေးကိစ္စတွေ၊ ခရီးသွားခဲ့တာတွေကို သူ ပြန်သတိရပါတယ်။ ဒီလိုနဲ့ အဖွဲ့အစည်းကြီးကို သူ တွေ့ရှိလာခဲ့ပုံဟာ အသက်လေးဆယ်အရွယ်ရောက်သည်အထိ သူ့အဖို့ တစ်စိမ်းတစ်ရံ ဖြစ်ပြီး အိပ်မက်လိုဖြစ်နေပါတယ်။

သူ့ 'ဖွင့်ဟဝန်ခံချက်များ' ထဲမှာ အံ့ဩစရာကောင်းတဲ့ အချက်ကတော့ အတိတ်က သူ့ခံစားချက်တွေကို တင်ပြပုံဟာ အဖြစ်အပျက်မှတ်တမ်းတွေထက်ပိုပြီး တိကျတယ်လို့ သူ့ဘာသာသူ ရိုးသားစွာ ယုံကြည်နေတဲ့အချက်ပါပဲ။

'အဖြစ်အပျက်များကို ဖော်ပြရာတွင် ကျွန်ုပ်သည် ကြွင်းကျန်ရစ်ခဲ့ခြင်းများ ရှိကောင်းရှိပေလိမ့်မည်။ ထပ်၍ဖော်ပြခြင်းမျိုး၊ နေ့စွဲမှားခြင်းမျိုးတို့ ရှိကောင်းရှိပေလိမ့်မည်။ သို့ရာတွင် ထိုစဉ်က ခံစားချက်များနှင့် ပတ်သက်၍

မှုကား ကျွန်ုပ်မမှားနိုင်ပါ။ အရေးကြီးသည်မှာ ထိုအချက်သာ ဖြစ်ပါသည်။ ဖွင့်ဟဝန်ခံချက်များကို ရေးသည့်ရည်ရွယ်ချက်မှာ ကျွန်ုပ်၏ ဘဝတစ်လျှောက်လုံးတွင် ကျွန်ုပ်တွေ့ခဲ့ရသည့် ကျွန်ုပ်၏ အတွင်း အစ္စတ္တ သန္တာန်အစစ်အမှန်ကို ရေးချယ်ပြရန်ဖြစ်ပါတယ်’ လို့ သူက ရေးခဲ့ပါတယ်။

ဒါကိုထောက်ရင် လူတစ်ယောက်ဟာ ကိုယ့်အတွင်းအစ္စတ္တသန္တာန်ကို သိနိုင်တယ်။ အဲ သန္တာန်ကို ပြင်ပ ဗဟိဒ္ဓသန္တာန်နဲ့ ခွဲခြားနိုင်တယ်လို့ ဆိုလိုရာရောက်ပါတယ်။

ကျွန်တော်ကတော့ သိနိုင်ခွဲခြားနိုင်တယ်လို့ မယုံကြည်ပါဘူး။ ဒီတော့ ရူးဆိုးနဲ့ပတ်သက်တဲ့အမှန်တရားကို သိချင်ရင် သူက သူ့ကိုယ်သူ ဘယ်လိုပြန်စစ်ဆေးသလဲဆိုတဲ့အချက်မှာ ရှာလို့မရပါဘူး။ သူရေးပြတဲ့ အချက်အလက်တွေထဲမှာသာ ရှာဖွေတွေ့ရှိနိုင်ပါတယ်။

* * *

## ဖွင့်ဟဝန်ခံချက်

သူ့ကြောင့် ပြင်သစ်စာပေကြီးတစ်ခုလုံး ဦးတည်ချက်ပြောင်းသွားတယ်လို့ ပြောရမယ့် စာရေးဆရာဆိုလို့ ပြင်သစ်ပြည်မှာ သိပ်မရှိပါဘူး။ နည်းနည်းပဲ ရှိပါတယ်။ ရူးဆိုးဟာ အဲဒီနည်းနည်းထဲက တစ်ယောက်ဖြစ်ပါတယ်။ အဲဒီတုန်းက ပြင်သစ် လူ့အဖွဲ့အစည်းရဲ့ ဘဝဟာ ပြင်သစ်စာရေးဆရာတွေအပေါ်မှာ စတင် အရိပ်ထိုးနေပါပြီ။ အဲဒီ ဩဇာရိပ်ကြောင့် ၁၇ ရာစုနှစ်ရဲ့ ခမ်းနားကြီးကျယ်တဲ့ မြင့်မြတ်စိတ်ထားဟာ အရွန်းအသောစိတ်ထားကို ပြောင်းသွားကြပါတယ်။ ၁၈ ရာစုနှစ်ရောက်တော့ လှောင်ပြောင်သရော်တဲ့ သဘောထား ခေတ်စားလာခဲ့ပါတယ်။ အဲဒီလို အချိန်မျိုးမှာ ပြင်သစ်လူမျိုးလည်း မဟုတ်၊ မှူးမတ်မျိုးနွယ်လည်း မဟုတ်၊ မင်းစိုးရာဇာ လူတန်းစားရဲ့ အထိအတွေ့လည်း မရှိတဲ့ ရူးဆိုး၊ မွန်ရည်ယဉ်းကျေးတာထက် အကဲခတ်တတ်တဲ့ ရူးဆိုး၊ အထက်တန်းလွှာတွေရဲ့ ဧည့်ခန်းဆောင်တွေမှာထက် ကျေးလက်မှာ တစ်ကိုယ်တည်း ပျော်တတ်တဲ့ ရူးဆိုးဟာ ဆွစ်ဇာလန်နဲ့ ဆဗွိုင်းနယ်ကို လှမ်းမြင်နေရတဲ့ ပြတင်းပေါက်တစ်ပေါက်ကို ဖွင့်ပေးလိုက်ပြီး အဲဒီက လတ်ဆတ်သန့်ရှင်းတဲ့လေတွေကို ဒလဟောဝင်လာအောင် လုပ်ပေးလိုက်ပါတယ်။

ရှာတိုဘရိုင်းယန်းဟာ 'ရိနီ' ဝတ္ထုထဲမှာ ဂီတသံပါအောင် ဖွဲ့နိုင်ခဲ့တာ ဇာတ်ဆောင်တွေရဲ့ အတွေးတွေနဲ့ အသုံးအနှုန်း ဝေါဟာရတွေကို ရေးနိုင်ခဲ့တာ

ဟာ တခြားကြောင့် မဟုတ်ပါဘူး။ ရှူးဆိုးရဲ့ ကျေးဇူးကြောင့်ပါ။ ရှူးဆိုးသာ မရှိခဲ့ရင် ကျွန်တော်တို့ဟာ ရွှမ်းဘော့က ပျံလွှားငှက်တွေကို မြင်ရမှာ မဟုတ်ပါဘူး။ သစ်ရွက်တွေပေါ်ကို တဖြောက်ဖြောက်ကျနေတဲ့ မိုးစက်သံတွေကို ကြားရမှာမဟုတ်ပါဘူး။ ရှာတိုဘရိုင်းယန်းရဲ့ 'အမှတ်တရ မှတ်တမ်း'မှာ ဖော်ပြထားတဲ့ မတ်မွိုင်ဇယ် ဒီဘိုစတီးလျူးကို တွေ့ရမှာ မဟုတ်ပါဘူး။ ရှူးဆိုးရဲ့ 'ဖွင့်ဟဝန်ခံချက်' ထဲမှာ သူ့ဒေါ်လေး ဆူဇန် သီချင်း ဆိုသံကို ကြားပြီး 'အလွန်ပြင်းထန်ရင်းနှီးတဲ့ အာရုံခံစားစိတ်' ပေါ်လာတယ်လို့ ရေးဖူးပါတယ်။ အဘယ်ကြောင့်မှန်း မသိ။ ကျွန်ုပ်သည် ထိုသီချင်းကိုလည်း အဆုံးအထိ ဆက်မဆိုစေချင်၊ မျက်ရည်လည်ရွှဲဖြင့် ထိုသီချင်းကို ဆက်၍ ဆိုရန်လည်း တောင်းပန်ချင်ဖြစ်လျက်ရှိ၏' လို့ သူက ရေးခဲ့ပါတယ်။

ရှာတိုဘရိုင်းယန်းဟာ ဘိုစတီးလျူးရဲ့ သီချင်းသံကို နားထောင်ရလို့ဖြစ်ပေါ်လာတဲ့ သူ့ခံစားချက်ကို ဖွဲ့ခဲ့တုန်းက ရှူးဆိုးရဲ့ 'ဖွင့်ဟဝန်ခံချက်'က အဲဒီစာကိုယ်ပိုဒ်တွေကို ဖတ်နေဖြစ်ခဲ့မယ်ထင်ပါတယ်။

ရှာတိုဘရိုင်းယန်းရဲ့ 'ရီနီ' ဝတ္ထုထဲက ဇာတ်ဆောင်ရီနီဟာ ရှူးဆိုးကို ပုံတူထပ်ကူးတာပါပဲ။ ရီနီ ခရီးသွားဝါသနာပါပုံ၊ အိန္ဒိယတိုင်းသူ အမျိုးသမီးတွေကို သဘောကျတတ်ပုံ စသည်တို့ဟာ ခြေလျင်ခရီးသွားခဲ့တဲ့ ရှူးဆိုး၊ သစ်ထွင်း ပုံနှိပ်ဆရာရဲ့ တပည့်ဖြစ်ခဲ့တဲ့ ရှူးဆိုး၊ ခပ်ရိုင်းရိုင်း၊ ခပ်ကြမ်းကြမ်းနေတတ်တဲ့ နောက်လိုက်တပည့် ရှူးဆိုး၊ မိန်းမတောမှာ ပျော်တတ်တဲ့ ရှူးဆိုးကို ပုံတူထပ်ကူးထားတာပါပဲ။ တကယ်လို့သာ ရှာတိုဘရိုင်းယန်းဟာ 'ဖွင့်ဟဝန်ခံချက်'ကို မဖတ်ဖူးခဲ့ရင် သူ့ 'အမှတ်တရ မှတ်တမ်း' ကို ခုလို နှစ်သက်စဖွယ်ကောင်းအောင် လုပ်ပေးခဲ့တဲ့ အလှရဲ့ ရေသောက်မြစ်တွေကို သိမှာ မဟုတ်ပါဘူး။ ရှူးဆိုးဟာ ကျွန်တော်တို့စာပေကို 'ကျေးလက်လန်းဆတ်မှု' ပေးလိုက်တဲ့ ပထမဆုံးသော စာရေးဆရာပါပဲ။ ရှာတိုဘရိုင်းယန်းက နာတာလီနိုလေးနဲ့နေခဲ့ကြတဲ့ 'ချစ်စဖွယ်၊ နှစ်သက်စဖွယ်၊ ကြည်နူးစဖွယ်' နေ့များဟာ မဒမ်ဒီဝါရင်းကြောင့် နုနယ်ငယ်ရွယ်တဲ့ ရှူးဆိုး ခံစားခဲ့ရတဲ့ 'သွက်လက်တဲ့၊ ကြင်နာတဲ့၊ သနားစရာကောင်းတဲ့၊ စိတ်ထိခိုက် စရာကောင်းတဲ့ ပုံရိပ်' ကို သတိရစရာပါပဲ။ တကယ်တော့ ရှူးဆိုးဟာ ရီနီ ဝတ္ထုထဲက ရီနီအတွက် အသံညှိပေးခဲ့တာလို့ ဆိုနိုင်ပါတယ်။

စတင်ဒယ်ဟာလည်း ရှူးဆိုးရဲ့ ကျေးဇူးနဲ့ မကင်းပါဘူး။ ဒီလို ခံစားနိုင်စွမ်းအားကောင်းတာ။ အဲဒီခံစားချက်တွေကို အသိအမှတ် ပြုရဲတာဟာ ရှေ့မှာ အစဉ်အလာနမူနာတစ်ခုရှိခဲ့လို့ ဖြစ်တယ်။ စတင်ဒယ်ရဲ့ ဝတ္ထုထဲက ဂျူလီယန်ဆိုတဲ့ စရိုက်တစ်ခုလုံးဟာ 'ဖွင့်ဟဝန်ခံချက်' ထဲက ရှူးဆိုးကို ပုံစံယူ

ထားတာဖြစ်ပါတယ်။ မြို့စားကတော် ဒီလိုမိုးရဲ့ စံအိမ်ထဲကို ရောက်နေတဲ့ ဂျူလီယန်ဆိုရဲဟာ နယ်စားကတော် ဂူဗွန်းရဲ့ စံအိမ်ကြီးထဲ ရောက်နေတဲ့ ရှူးဆိုး ဖြစ်ပါတယ်။ ဂျူလီယန်ဆိုရဲက သူ့ကို မာသီဒါက အထင်သေးလို့ ခံပြင်းပါ တယ်။ ရှူးဆိုးက မတ်မွိုင်ဇယ်ဘရေးက သူ့ကို အာရုံစိုက်လာအောင် ကြိုးစား ပြပါတယ်။ ဂျူလီယန်ဆိုရဲလိုပဲ ရှူးဆိုးဟာ သူ လက်တင်ဘာသာ တတ်ကျွမ်း ကြောင်းပြပြီး သူ့အပေါ်မှာ အထင်သေးနေတဲ့ တံတိုင်းကြီးကို ချိုးဖျက်ပစ်ပါ တယ်။

'ထိုအခါ၌ ဧည့်ခန်းဆောင်ထဲတွင် ရောက်နေသူအားလုံးသည် ကျွန်ုပ်ကို ကြည့်လိုက်ကြ၏။ ထိုနောက် အချင်းချင်း တစ်ယောက်ကိုတစ် ယောက် ကြည့်ကြ၏။ စကားတစ်လုံးမျှ မပြောကြချေ။ ထိုမျှလောက် တအံ့ တသြဖြစ်နေကြသည့် အခြေအနေမျိုးတွင် ကျွန်ုပ်တစ်သက်တွင် တစ်ခါမျှ မမြင် ဘူးသေးချေ။ ထိုအထဲတွင် ကျွန်ုပ် ဂုဏ်အယူဆုံးမှာကား မတ်မွိုင်ဇယ်ဘရေး ၏ မျက်နှာပြင်ပေါ်တွင် ပေါ်နေသည့် ကျေနပ်သည့် အမူအရာဖြစ်၏။ ကျွန်ုပ် အား တစ်ခါက အလွန်အထင်သေးခဲ့သည့် မတ်မွိုင်ဇယ်ဘရေးသည် ကျွန်ုပ် အား နောက်တစ်ကြိမ် လှမ်းကြည့်လိုက်၏။ ထိုအကြည့်သည်လည်း တန်ဖိုး အရာတွင် ပထမအကြည့်နှင့် အတူတူဖြစ်ပါပေ၏။ ထိုနောက် မတ်မွိုင်ဇယ် ဘရေးသည် သူ၏ အဘိုးဘက်သို့ လှည့်ကြည့်လိုက်၏။ ထို့နောက် သူမ သည် ကျွန်ုပ်အား ချီးကျူးပြောဆို မပြုကောင်းလောဟု သူ့အဘိုးကို စိတ် မရှည်နိုင်ဖြစ်နေဟန်ရှိ၏။ ထိုအကြည့်ကလေးသည် တဒင်္ဂမျှသာ ကြာလိုက် သော်လည်း ကျွန်ုပ်အဖို့ကား ထိုတဒင်္ဂသည် ဘယ်ဘက်ကကြည့်ကြည့် ချို့မြိန်သော တဒင်္ဂဖြစ်၏' လို့ ရှူးဆိုးက ရေးခဲ့ဖူးပါတယ်။

စတင်ဒယ်ရဲ့ 'အနီနှင့် အနက်' မှာ ဒီအဖွဲ့အတိုင်း တွေ့နိုင်ပါတယ်။

နောင် နှစ်ပေါင်းတစ်ရာကြာလို့ အွန်ဒရေဂျိုက 'အစာရေစာနှင့် ငတ် မွတ်ခြင်း' ဆိုတဲ့ သူ့ကိုယ်ရေးမှတ်တမ်းကို ရေးတော့ သူ့ရဲ့ အလိုဆန္ဒကြီးပုံကို ပွင့်ပွင့်လင်းလင်း ရေးခဲ့ပါတယ်။ ဒီလို ဖွင့်ဟဝန်ခံချက်မျိုးကို သူ့အရင်ရှူးဆိုးက ဖွင့်ရေးခဲ့ပြီးပြီ မဟုတ်လား။ အွန်ဒရေဂျိုရဲ့ ဖွင့်ဟဝန်ခံချက်မှာ ကျေနပ်မှုပါနေ ရတာကတော့ အွန်ဒရေဂျိုက လူလတ်တန်းစား အထက်လွှာက လူသူဖြစ်ပြီး ရှူးဆိုးက လူလတ်တန်းစား အောက်လွှာက လာတဲ့သူဖြစ်လို့ပါ။ သို့တိုင် အောင် ရှူးဆိုးရဲ့ ခေတ်မတိုင်မီတုန်းက ရိုးသားတာကို အထင်ကြီးမှု၊ ရိုးသား တာကို ခံမင်မှုဟာ အလွယ်တကူ ဖြစ်လာတာမဟုတ် ပါဘူး။ ပြင်သစ်စာပေ ဂန္ထဝင်ခေတ်တုန်းက အပြုအမူ အနေအထိုင် ယဉ်ကျေးသိမ်မွေ့ခြင်းကို အမှန် တရားထက်ပိုပြီး တန်ဖိုးထားတတ်ကြပါတယ်။ မောလျဲနဲ့ ရိုရှေဖိုးကောတို့ဟာ

သူတို့အတွင်းရေးတွေကို ဖုံးထားတတ်ကြ ပါတယ်။ ဖော်လ်တဲယားကတော့ အားလုံးကို တစ်လုံးတစ်ပါဒမျှတောင် မဟပါဘူး။ ဇာတ်ခုံပေါ်ကို ရူးဆိုး ရောက်လာမှသာလျှင် တစ်လုံးတစ်ပါဒ မကျန် ဝမ်းထဲရှိသမျှကို ထုတ်ပြောတဲ့ စာရေးဆရာတစ်ယောက်ကို ကျွန်တော်တို့ တွေ့ရတော့တာပါ။

ချူရာတယ်စာကြည့်တိုက်မှာ ရူးဆိုးရဲ့ 'ဖွင့်ဟဝန်ခံချက်' အဖွင့်စာ ရွက်တွေရှိပါတယ်။ ခပ်စောစောက အကြမ်းရေးထားတဲ့ လက်ရေးမူတွေပါ။ ကျွန်တော့်အထင်မှာတော့ အဲဒီလက်ရေးစာမူကြမ်းဟာ သူ နောက်ဆုံး ပြန်ရေး တဲ့ စာမူထက်တောင် ပြည့်စုံကောင်းမွန်တယ်လို့ ထင်ပါသေးတယ်။

အဲဒီ မူလစာမူကြမ်းမှာ သူက ဒီလိုရေးထားပါတယ်။

'လူတစ်ယောက်အကြောင်းကို သူ ကိုယ်တိုင်မှအပ အခြား မည်သူ မျှမရေးနိုင်ချေ။ သူ့စိတ်၏ အလုပ်လုပ်ပုံ၊ သူ တကယ်အမှန်နေထိုင်ခဲ့သည့် ဘဝ စသည်တို့ကို သူသာလျှင် သိပေသည်။ သို့ရာတွင် စာရွက်ပေါ်တွင် ချရေးလိုက်သည့်အခါ၌ကား သူ့ဘဝကို ရုပ်ဖျက်လေပြီ။ သူ့အကြောင်းကို ရေးဟန်ဆောင်ကာ သူ့ကိုယ်သူ ကာကွယ်တော့သည်။ သူ့ကို အခြားသူများ မြင်စေချင်သည့် ပုံသဏ္ဌာန်ဖြင့် သူ့ကိုယ်သူ ပုံဖော်တော့သည်။ သူ့ အစစ် အမှန်အတိုင်း ဖော်ပြခြင်းမပြုတော့ပြီ။

ယင်းတို့ထဲတွင် အရိုးသားဆုံးသူများ ပင်လျှင် အမှန်ကို တစ်ပိုင်း တစ်စ ထုတ်ပြောကြသော်လည်း အချို့အဝက်ကို ထိန်ချန်ထားတတ်ကြသည်။ ဤသို့ဖြင့် သူတို့ ဖုံးကွယ်ထားသော အရာများကြောင့် သူတို့ ထုတ်ပြောသည့် အရာများပင်လျှင် သဘောသဘာဝ ပြောင်းလဲသွားတတ်ကြပေသည်။ အမှန် ကို တစ်စိတ်တစ်ပိုင်းသာ ပြောသည့်အတွက် ဘာမျှမပြောသည်နှင့် မခြားတော့ ချေ။ ဤသို့ ဟန်ဆောင်ပန်ဆောင် ပွင့်လင်းသူများထဲတွင် ကျွန်ုပ်သည် မွန် တိန်းကို ပထမထားချင်၏။ မွန်တိန်းသည် သူ့ရုပ်ပုံကို ရေးခြယ်ပြသည် မှန်ပါ ၏။ သို့ရာတွင် တစ်စောင်းမျှသာ ဖြစ်ပေသည်။ ကျွန်ုပ်တို့ မမြင်ရသော ပါးတစ်ဖက်ပေါ်မှ အမာရွတ်နှင့် မမြင်ရ သောဘက်မှ မျက်လုံးတစ်လုံးတို့သည် သူ၏ ရုပ်ဆင်းသဏ္ဌာန်ကို မည်မျှ ပြောင်းလဲသွားစေနိုင်ကြောင်းကို မည်သူမျှ မပြောနိုင်' လို့ ရေးခဲ့ပါတယ်။

'ဖွင့်ဟဝန်ခံချက်' ကို ရေးမယ်လုပ်တော့ ရူးဆိုးမှာ ပြဿနာနှစ်ရပ်နဲ့ လာတိုးပါတယ်။ တစ်ခုကတော့ သူကိုယ်တိုင်ဟာလည်း ဟန်ဆောင်ပန်ဆောင် ရိုးသားတဲ့လူထဲကလား ဆိုတဲ့ ပြဿနာ။ နောက်ပြဿနာတစ်ခုကတော့ ကိုယ့်ရုပ်ပုံကို ကိုယ်တိုင်ရေးခြယ်ပြရာမှာ ရိုးသားမှုဆိုတာ တကယ်ကော ရှိနိုင် သလားဆိုတဲ့ ပြဿနာပါပဲ။

ရှူးဆိုးကတော့ သူ့ဘာသာသူ ရိုးသားတယ်လို့ ရိုးရိုးသားသား ယုံကြည်ပါတယ်။ တစ်ခါတစ်လေ ဘယ်လောက်တောင် ရိုးရိုးသားသားဖြစ်အောင် ကြိုးစားသလဲဆိုရင် အရှယ်ရောက်စတုန်းက တစ်ကိုယ်တည်း အာသာဆန္ဒဖြေဖျောက်တဲ့အခါမှာ နှစ်သိမ့်ကျေနပ်ရတာ၊ မတ်ဒမ္မိုင်ဇယ်လန်ဘာစီးယားရဲ့ အရိုက်ကိုခံရတော့ ကျေနပ်နှစ်သိမ့်မှုရတာ၊ မိန်းမတွေနဲ့တွေ့ရင် သူရှက်တတ်ကြောက်တတ်တာ၊ သူ အလိုဆန္ဒအားကြီးလို့ အသေအညှိုး ရောဂါဖြစ်မတတ်ဖြစ်ရတာ၊ မဒန်ဒီဝါရင်းနဲ့ ဆွေမျိုးချင်းကြိုက်ခဲ့မိတာ၊ လူတွေ သူ့ကို သတိပြုမိအောင် အင်္ဂါကို မြင်အောင် ပြတတ်တာတွေကို ထုတ်ရေးသည်အထိပါပဲ။ ရှူးဆိုးဟာ ပွင့်လင်းမှုကို ပြတဲ့နေရာမှာ သူ့ရဲ့ ဖိုမဆက်ဆံရေးကိစ္စတွေနဲ့သာ ပတ်သက်နေတဲ့အတွက် ဒါသည်ပင်လျှင် ပွင့်လင်းမှုစိတ်ရောဂါတစ်မျိုးလို့ ဆိုသင့်ပါတယ်။

ဒီလိုကိစ္စတွေမှာ သူဝါသနာပါတာကိုရေးပြတာဟာ စာဖတ်ပရိသတ်ထောင်ပေါင်းများစွာတို့က သူ့ရဲ့ ဟော့ဟော့ရမ်းရမ်း အနေအထိုင်တွေကို မြင်ကြ၊ သိကြမှာပဲဆိုပြီး ကျေနပ်တဲ့ စိတ်ထားမျိုးနဲ့ ရေးတာဖြစ်ပါတယ်။ ဒီလိုကိစ္စမျိုးမှာ အရေးမကြီးဟန် လှောင်ပြောင်ပေါ့ဆတဲ့ သဘောထားမျိုးကို ရေးပြခြင်းဖြင့် ဝါသနာပါတဲ့ စာဖတ်ပရိသတ်တွေနဲ့ ရင်းနှီးကျွမ်းဝင်အောင် တမင်လုပ်နေတာလားလို့တောင် စဉ်းစားစရာပါပဲ။ ဒီလိုသဘောထားမျိုးနဲ့ စာရေးတဲ့စာရေးဆရာတစ်ယောက်ဟာ ဖုံးဖိပြီး လိမ်ညာပြောတာထက် အကျယ်ချဲ့ပြီး လိမ်ညာပြောတာမျိုးဖြစ်ဖို့က ပိုများပါတယ်။

မှန်ပါတယ်။ ရှူးဆိုးဟာ သူ့ကိုယ်သူ ခိုးမှုနဲ့ စွဲချက်တင်ပါတယ်။ သက်သေလိမ်ထွက်မှုနဲ့လည်း စွဲချက်တင်ပါတယ်။ မဒမ်ဒီဝါရင်းနဲ့ ဆက်ဆံရာမှာလည်း သစ္စာမဲ့မှုနှင့် စွဲချက်တင်ပါတယ်။ ဒါပေမယ့် သူ ကျူးလွန်တယ်ဆိုတဲ့ ခိုးမှုတွေက အသေးအဖွဲကလေးတွေပါ။ သက်သေလိမ်ထွက်ဆိုရာမှာလည်း သူ့အပြောအရ တစ်ဖက်လူကို မုန်းထားလို့မဟုတ်ဘဲ သူ့အားနည်းချက်ကြောင့် လိမ်ထွက်မိတယ်လို့ ဆိုပါတယ်။

မဒမ်ဝါရင်းကို စွန့်ပစ်ခဲ့တာဟာလည်း သူ့အိမ်က ထွက်လာလို့ သူနဲ့ အတန်ကြာ ကွဲကွာနေပြီးမှ စွန့်ပစ်ခဲ့တာ ဖြစ်တဲ့အတွက် အခြားသောယောကျ်ားတွေ လုပ်ရိုးလုပ်စဉ်ထက်ထူးပြီး မဆိုးပါဘူးလို့ ဆိုပါတယ်။ သူဟာ ဒီအပြစ်တွေကို ဝန်ခံရာမှာ ပရိသတ်တွေက သူ့ကို ခွင့်လွှတ်ကြမယ်ဆိုတာ သိပြီး ဝန်ခံတာပါ။ တစ်ဖက်မှာတော့ သူ့ ကလေးတွေကို သူ စွန့်ပစ်သွားတာကို အရေးမကြီးတဲ့ ကိစ္စတစ်ခုလို အပေါ်ယံ ခပ်သုတ်သုတ် ရေးသွားပါတယ်။ ဒါကြောင့်မို့ ရှူးဆိုးဟာလည်း ခွင့်လွှတ်နိုင်တဲ့ အပြစ်၊ အနာအဆာကလေး

တွေလောက်ကိုသာ ထုတ်ပြောတဲ့ 'ဟန်ဆောင် ပန်ဆောင် ရိုးသားသူ' အတန်းအစားထဲမှာ ပါနေသလားလို့ စဉ်းစားစရာပါပဲ။

ဒါပေမယ့် သူက ဒီလိုပြန်ပြောပါတယ်။ 'သတ္တိရှိလျှင် ကျွန်ုပ်ထက်ရိုးသားသည်ဟု ပြောကြည့်ပါ' လို့ သူက စိန်ခေါ်ပါတယ်။ ဒါကတော့ သူ့မှာလည်း ဒီလို ပြောပိုင်ခွင့်ရှိပါတယ်။ ဘာဖြစ်လို့လဲဆိုတော့ လုံးဝရိုးသားရမယ်ဆိုလို့ရှိရင် လူတစ်ယောက်ဟာ သူ့ကိုယ်သူ ပြန်ကြည့်တဲ့နေရာမှာ လူလိုမကြည့်ဘဲ သက်မဲ့ပစ္စည်းတစ်ခုလို ဓမ္မဓိဋ္ဌာန်ကျကျ ပြန်ကြည့်ရတော့မှာကိုး။ ဒါပေမယ့် အဲဒီလို ကိုယ့်ကိုယ်ကို ပြန်ကြည့်တဲ့ ကိုယ့်အသိဉာဏ်မှာ ချို့ယွင်းချက်တွေ၊ အမြင်မှားမှုတွေ မရှိပါဘူးလို့ ဘယ်သူကမှ အာမ မခံနိုင်တော့ ခက်တာပေါ့။ ကိုယ့်အကြောင်းကို ပြန်ပြောတဲ့ စာရေးဆရာမှာ အားကိုးစရာဆိုလို့ ကိုယ့်မှတ်ဉာဏ်ပဲ ရှိတယ်။ သူဟာ အနုပညာရှင်လည်း ဖြစ်၊ နီတိဆရာလည်း ဖြစ်လေတော့ ပြန်စဉ်းစားပြီ ဆိုကတည်းက အဲဒီ မှတ်ဉာဏ်ဟာလည်း ပဏာမ ဆန်ကာတိုက်ပြီးသား ဖြစ်နေပြီ။ သူ ကောင်းကောင်းမှတ်မိတဲ့ အဖြစ်အပျက်တွေလောက်ကိုပဲ အရေးတကြီး ထားတော့တယ်။ သာမန် အညတရ အဖြစ်နေခဲ့ရတဲ့ နာရီထောင်ပေါင်းများစွာကို သူ သတိမရတော့ဘူး။

စိတ်စက်ယန္တရားရဲ့ အဲဒီ အလုပ်လုပ်ပုံမျိုးကို စိတ်ပညာဆရာ ဂူဇဒေါ်က ရေးခဲ့ရာမှာ 'ဖွင့်ဟဝန်ခံ ချက်' သည် ဘယ်တော့မှ အကုန်အစင်ပြောပြသည် မဟုတ်ချေ။ ယင်းသို့ဖြစ်ရခြင်းမှာ တကယ့်အဖြစ်မှန်မည်သည် အလွန်ရှုပ်ထွေးလှသည့်အတွက် စာဖြင့် အတိအကျရေးသားတင်ပြရန် မဖြစ်နိုင်သောကြောင့်လည်း ဖြစ်နိုင်ပါသည်။ နေ့စဉ်မှတ်တမ်းအဟောင်း တစ်အုပ်ကို ပြန်ဖတ်သည့်အခါတွင် အချို့ အဖြစ်အပျက်များကို သတိရနိုင်ပါသည်။ ကျွန်ုပ်တို့စိတ်တွင် နေ့စဉ်ဖြစ်ပျက်နေသော အဖြစ်အပျက်တို့ကို မှတ်တမ်းတင်ထားသည်ဟု စိတ်ကထင်နေသော်လည်း မှတ်ဉာဏ်က ထိန်းသိမ်းထားသော တကယ့်အဖြစ်အပျက်နှင့် နားလည်သဘောပေါက်မှုကြားတွင် အဆက်အစပ်မရှိဘဲ ဖြစ်နေတတ်သည့် အခါများလည်း ရှိပေသည်' လို့ ရေးခဲ့ပါတယ်။

*   *   *

# အမှန်ကို ပြောရဲကြရဲ့လား

သူဟာ သူ့အတိတ်ကို ပြန်ပြောနေခြင်းဖြစ်တယ်လို့ ဖွင့်ဟဝန်ခံချက်စာအုပ်တစ်အုပ်ကိုရေးတဲ့ စာရေးဆရာထင်လေ့ရှိတယ်။ အမှန်ကတော့ သူပြန်ပြောနေတဲ့ အတိတ်ဟာ သူ့ရဲ့ လက်ရှိ ပစ္စုပ္ပန်ဘဝမှာ ဖြစ်ပေါ်လာတဲ့ အတိတ်သာဖြစ်တယ်။ ပြင်သစ်တော်လှန်ရေးကြီးအကြောင်းကို အသက်ကြီးမှ ပြန်ပြောရာမှာ ဖိုရှေးက 'တစ်နေ့တွင် ရိုဘေစပီယာက ကျွန်ုပ်အား ဒိုထရန်တေ နယ်စားကြီးခင်ဗျား ဟု ခေါ်ကာ' လို့ ရေးသားထားပါတယ်။ အမှန်ကတော့ ဖိုရှေးဟာ အဲဒီတုန်းက နယ်စားကြီးတစ်ယောက် မဖြစ်သေးဘူးဆိုတာကို ရိုးရိုးသားသား မေ့သွားလို့ပြောမိတာပါ။ အလားတူပါပဲ။ မကြာသေးမီက ဖြစ်ပျက်သွားခဲ့တဲ့ အဖြစ်အပျက်များဟာ ခပ်စောစောက ရှိခဲ့တဲ့ ကျွန်တော်တို့ရဲ့ မှတ်ဉာဏ်ကို အရောင်ခြယ်ပေးသွားတတ်ပါတယ်။ ကျွန်တော်တို့ဟာ အတ္ထုပ္ပတ္တိ၊ ဒါမှမဟုတ် ဖွင့်ဟဝန်ခံချက်တစ်ခုကို ရေးတဲ့အခါမှာ ပြည့်စုံချင်တယ်။ ပြည့်စုံချင်တော့ ဘာလုပ်သလဲ။ အဲဒီအဖြစ်အပျက် ဖြစ်ပွားစဉ်တုန်းက မတော်တဆဖြစ်ပွားသွားတာ၊ စိတ်လိုက်မာန်ပါ ဖြစ်ပွားသွားတာ၊ လူတစ်ယောက်ရဲ့ စကားကို မခံချင်လို့ ဖြစ်ပွားသွားတာမျိုးကို ဖြစ်သင့်ဖြစ်ထိုက်တဲ့ အဖြစ်အပျက်တို့ ထင်ရအောင် အကြောင်းပြချက်တွေကို လိုက်ရှာတတ်ကြတယ်။ ကဗျာဆရာ

ဇာလေရီက 'အဖြစ်အပျက်တစ်ခုအကြောင်းကို သေသေချာချာ ပြောပြချင်လေလေ အဲဒီအဖြစ်အပျက်ကို အမှားမှားအယွင်းယွင်း ဖြစ်အောင် လုပ်လေလေပဲ။ တစ်နည်းပြောရရင် အဖြစ်အပျက်ကို တစ်မျိုးတစ်ဖုံ ပြောင်းလဲပြောလေလေပဲ' လို့ ပြောခဲ့ဖူးတယ်။ ဆိုပါစို့။ ကျွန်တော်တို့ဟာ ကလေးဘဝက ဖြစ်ခဲ့တဲ့ အဖြစ်အပျက်တစ်ခုခုကို ပြန်သတိရနေတယ်လို့ ထင်တယ်။ ဒါပေမယ့် ကျွန်တော်တို့ တကယ်သိနေရတာက အဲဒီ အဖြစ်အပျက်ကို သူများပြန်ပြောနေတာကို သတိရနေခြင်းသာ ဖြစ်တယ်။

လူတိုင်းမှာ ဟန်ဆောင်တတ်တဲ့ သဘောဟာ အမြဲရှိတယ်။ ကျွန်တော်တို့ဟာ အများရှေ့မှာ ပုံသဏ္ဌာန်တစ်မျိုး ဆောင်လေ့ရှိကြတယ်။ ဒါတင်မကဘူး။ ကိုယ့်ကိုကိုယ်အတွက်လည်း ပုံသဏ္ဌာန်တစ်မျိုး ဆောင်လေ့ရှိကြတယ်။ ကျွန်တော်တို့ဟာ ရှေ့နောက် ညီညွတ်ချင်ကြတယ်။ အလျဉ်မပြတ်မှု ရှိချင်ကြတယ်။ ဒီအခါမှာ ကျွန်တော်တို့ဟာ ဘယ်လိုမှ သတိမထားမိတဲ့ လုပ်ဆောင်ချက်တွေကို ကိုယ်လုပ်တယ်ဆိုပြီး အလိုလိုပြောမိကြတယ်။ ကိုယ်ကျင့်တရားအားလုံးဟာ ဒုတိယစရိုက် သဘာဝ၊ ပိုပြီး ရှေ့နောက်ညီညွတ်တဲ့ စရိုက်သဘာဝကို အခြေခံထားတာဖြစ်တယ်။ အဲဒီအပေါ်မှာ တည်ဆောက်ထားတာဖြစ်တယ်။ လူတိုင်းဟာ အမျိုးမျိုး အထူးထူးသော စရိုက်သဘာဝများကို ပေါင်းစည်းထားတဲ့ အရာတစ်ခုသာ ဖြစ်တယ်။ ဒီစရိုက်တွေကို ဖော်ရာမှာ အပြည့်အဝရိုးသားမှု ရှိကောင်းရှိမယ်။ ဒါပေမယ့် အဲဒီ စရိုက်တွေဟာ တစ်ခုနဲ့တစ်ခု ဆန့်ကျင်နေတတ်တယ်။ ဒီအချက်ကတော့ စာရေးဆရာအဖို့ ဝန်ခံဖို့ ခက်ကောင်းခက်နေလိမ့်မယ်။ သူ့ရဲ့ဇာတ်ဆောင်တွေကို ရေးခြယ်ပြရာမှာရော၊ သူ့ရဲ့ 'မှတ်တမ်း' ထဲမှာရော စတင်ဒယ်ဟာ ကျိုးကြောင်းယုတ္တိရှိမှုနဲ့ စိတ်နောက်ကိုယ်ပါဖြစ်မှုတို့ ရောထွေးနေတာကို တွေ့ရတယ်။ ဒီလို တစ်လုည့်စီဖြစ်နေတာဟာ စာရေးဆရာရဲ့ ဘဝမှာထက် သူ ရေးတဲ့စာတွေထဲမှာ ပိုပြီးတောင် တွေ့ရတတ်သေးတယ်။ အနုပညာက သဘာဝကြီးကို ဖော်ပြရာမှာ တကယ့်အရှိထက်ပိုပြီး စီစဉ်တကျဖြစ်အောင်၊ နေရာတကျဖြစ်အောင် လုပ်ပေးရတယ်။ ဒီလိုမှ မလုပ်နိုင်ရင် ဘယ်မှာ အနုပညာဖြစ်ပါတော့မလဲ။

ဖွင့်ဟဝန်ခံချက်တစ်ခုဟာ ဝတ္ထုတစ်ပုဒ်ထက် တခြား ဘာမှ မဖြစ်နိုင်ပါဘူး။ တကယ်လို့ အဲဒီ ဖွင့်ဟဝန်ခံချက်ဟာ ရိုးသားဖြောင့်မတ်ခဲ့ရင် မှတ်ဉာဏ်နဲ့ အနက်ဖွင့်ဆိုချက်က ခွင့်ပြုသလောက် အဲဒီအထဲမှာပါတဲ့ အချက်အလက်များဟာလည်း သမိုင်းတွင်တဲ့ အမှန်တရားနဲ့ နီးစပ်မှာပဲ။ ဒါပေမယ့် ခံစားချက်တွေကတော့ စိတ်ကူးက ပေါ်ထွက်လာတဲ့ ခံစားချက်တွေ မရှောင်မလွှဲသာ ဖြစ်ရပေလိမ့်မယ်။ ရူးဆိုးရဲ့ ဖွင့်ဟဝန်ခံချက်များဟာ လူပေလူတေ

တို့အကြောင်းကို ရေးထားခဲ့သမျှသော ဝတ္ထုတကာတို့အနက် အကောင်းဆုံး ဝတ္ထုတစ်ပုဒ်ဖြစ်ပါတယ်။ ဒီစာအုပ်ကို ရေးမယ်လို့ စားပွဲမှာထိုင်တော့ ဝတ္ထု ကောင်းတို့ရဲ့ အချက်အလက် အင်္ဂါရပ်တွေဟာ စာရေးဆရာရဲ့လက်ထဲမှာ အဆင်သင့်ရှိနေကြပါတယ်။ အရွယ်ရောက်စ ဇာတ်လိုက်။ အထူးထူး အမျိုး မျိုးသော ပတ်ဝန်းကျင်နောက်ခံတွေ၊ လူ့စရိုက်တွေနဲ့ နေရာ ဌာနတွေ၊ အချစ် ရေးကိစ္စများနဲ့ ခရီးသွားခဲ့တာတွေ၊ အသက်လေးဆယ် အရွယ်အထိ သူ့အဖို့ သူစိမ်းပြင်ပြင်ကြီး ဖြစ်နေတဲ့ လူ့အသိုင်းအဝိုင်းတစ်ခုကို လူတစ်ယောက်တွေ့ ရှိသွားပုံတွေ။ ဒီအချက်အလက်တွေဟာ စိတ်ကူးယဉ် ဇာတ်လမ်းတစ်ပုဒ်ရေးဖို့ အလွန်ကောင်းတဲ့ အချက်အလက်တွေ ဖြစ်ပါတယ်။ ရူးဆိုးဟာ ဒီအလုပ်ကို ကောင်းစွာ လုပ်နိုင်သူဖြစ်ပါတယ်။

ဒီမှာ ကျွန်တော်တို့အဖို့ ထူးဆန်းတာတစ်ချက်ရှိပါတယ်။ အဲဒါ ကတော့ အတိတ်က ခံစားမှုတွေကို သူတင်ပြပုံဟာ အဖြစ်အပျက်မှတ်တမ်း တွေထက် တိကျတယ်လို့ သူ့ဘာသာသူ ယုံကြည်နေတဲ့အချက်ပါပဲ။

'အဖြစ်အပျက်၊ အချက်အလက်များကို ဖော်ပြရာ၌ ချန်လှပ်ပစ်ခဲ့ မိခြင်း၊ ထပ်ခါတလဲလဲ ဖော်ပြမိခြင်း၊ နေ့စွဲများ မှားယွင်းခြင်းတို့အတွက် ကျွန်ုပ်တွင် အပြစ်ရှိကောင်း ရှိနိုင်ပါသည်။ သို့ရာတွင် ကျွန်ုပ်၏ ခံစားချက်၊ သို့မဟုတ် ထိုခံစားချက်ကြောင့် ကျွန်ုပ် မည်သို့ဖြစ်သည်ဆိုသည့် ကိစ္စများ တွင်မူ ကျွန်ုပ် မမှားနိုင်ပါ။ တကယ် အမှန်အရေးကြီးသည်မှာလည်း ထိုအချက် သာ ဖြစ်ပါသည်' လို့ သူက ရေးခဲ့ပါတယ်။

ဒီအရေးအသားကိုထောက်ရင် လူတစ်ယောက်ဟာ သူ့ရဲ့ အတွင်း အဇ္ဈတ္တသန္တာန်ကို သိနိုင်တယ်။ မိမိရဲ့ အတွင်းအဇ္ဈတ္တသန္တာန်ကို ပြင်ပက အပေါ်ယံသဏ္ဌာန်များနဲ့လည်း ခွဲခြားလို့ ရနိုင်တယ်လို့ အဓိပ္ပါယ်ထွက်ပါ တယ်။ ကျွန်တော်ကတော့ အဲဒီလို မယုံကြည်ပါဘူး။ ရူးဆိုးနဲ့ပတ်သက်တဲ့ အမှန်တရားဟာ သူ့ကိုယ်သူ ပြန်လှန်စစ်ဆေး သုံးသပ်ချက်ထဲမှာ ရှာကြည့် လို့ မတွေ့နိုင်ပါဘူး။ အချက်အလက်တို့နဲ့ ဆက်စပ်ပြီးမှသာ တွေ့နိုင်ပါ တယ်။ ရူးဆိုးကတော့ အချက်အလက်တွေကို အထင်သေးတယ်လို့ အတိ အလင်းပြောထားပါတယ်။

ကိုယ့်ဘဝအတ္ထုပ္ပတ္တိကို ရေးပြသူဟာ ကိုယ်ဖြစ်ခဲ့ဖူးတဲ့ အဖြစ်မျိုးကို ဆန္ဒမပါဘဲ မကြာခဏ ထပ်ရေးမိတတ်တယ်။ ဒီလို ရေးပြခြင်းဖြင့် သူ့ တကယ့်ရုပ်ပုံကားချပ်အမှန်ကို မသိမသာ ရေးပြတတ်တယ်။ အင်ဂျယ်လာပါ ထရာဂရူးအားနဲ့နေတဲ့ စတင်ဒယ်ဟာ မီလာနီလော်ဆန်ရှေ့ခြေရင်းမှာ ဒူး ထောက်တဲ့ စတင်ဒယ်နဲ့အတူတူ ဖြစ်နေတယ်။ မဒမ်ဒီဝါရင်း၊ ကလော်ဒီအင်း

နက်တို့နဲ့ တွေ့ခဲ့တဲ့ ရူးဆိုးဟာ စိန့်လင်းဘတ်၊ မတ်မ္ဗိုင်ဇယ်ဒူဒီတော့တို့နဲ့ တွေ့တဲ့ ရူးဆိုးနဲ့အတူတူ ဖြစ်နေတယ်။ သူ့ရဲ့ စိတ်နေသဘောထားတွေဟာ သူ့ရဲ့ ကိုယ်ခန္ဓာ မကျန်းမာမှုက ဆုံးဖြတ်ပြဋ္ဌာန်းပေးတာတွေချည်း ဖြစ်နေတယ်။ သူဟာ ဆီးရောဂါကြောင့် အပျော်အပါးလောကကြီးကို ကျောခိုင်းခဲ့တယ်။ အဲဒီလို မလွဲမရှောင်သာတဲ့ ခြိုးခြံရှောင်ကြဉ်မှုကို အခြေတည်ပြီး ဒဿနတစ်ခုကို ထူထောင်နေတယ်။ (ကိုယ်က အပျော်အပါးတွေကို လိုက်စားနိုင်စွမ်းမရှိတာကို အခြေပြုပြီး အယူအဆတစ်ရပ်ကို ထူထောင်နေတယ်။) 'ကျွန်ုပ်တွင် အလွန်တောက်လောင်လွယ်သော အာရုံခံစားမှုများနှင့် ချစ်တတ်သော နှလုံးသားတစ်ခုတို့ ရှိသည့်တိုင် ကျွန်ုပ်သည် မည်သည့်မိန်းမကိုမျှ စွဲစွဲလမ်းလမ်း ဖြစ်ခဲ့ဖူးသည် မရှိချေ' လို့ တစ်ဖက်က ပြောပေမယ့် အခြားတစ်ဖက်မှာတော့ ဒီလို ဘာကြောင့် စွဲစွဲလမ်းလမ်း မရှိသလဲဆိုတာကို သူ့ဘာသာသူ မသိဘဲ အကြောင်းပြထားတယ်။ 'အပျော်အပါးလောကကို ကျွန်ုပ် စွန့်ခွာခဲ့ခြင်း၊ မိန်းမများနှင့် ရင်းနှီးကျွမ်းဝင်စွာ ကျွန်ုပ် မနေခဲ့ခြင်းတို့မှာ ထိုရောဂါကြောင့် ဖြစ်ပေ၏' လို့ တစ်ဖက်က ပြောနေတယ်။ ရူးဆိုးဟာ သူ နှစ်သက်စွဲလမ်းတဲ့ မိန်းမနဲ့ တွေ့ရမှာကို သိပ်ပြီး ကျေနပ်ပီတိဖြစ်နေတဲ့အတွက် တုန်လှုပ်ချောက်ခြားနေပြီး ချိန်းထားတဲ့နေရာကို ရောက်သွားတဲ့အခါမှာ စိတ်တုန်လှုပ်လွန်းတဲ့အတွက် မောပန်းအားကုန်နေတယ်။ ရူးဆိုးက သူ ပျော်ရွှင်ချမ်းမြေ့မှု မရတာဟာ သူ့ခန္ဓာကိုယ် ချို့တဲ့လို့လို့ မြင်နေတယ်။ ကျွန်တော်တို့ကတော့ သူ ဒီလို ခန္ဓာကိုယ်ချို့တဲ့ပြီး မသန်မစွမ်းဖြစ်နေတဲ့အတွက် ခုလို 'ဖွင့်ဟဝန်ခံချက်' မျိုးကို ဖတ်ရတာလို့ မြင်တယ်။

ကိုယ့်ကိုကိုယ် သိနားလည်ဖို့ဆိုတာ ကိုယ့်ခံစားချက်တွေကို အသိဉာဏ်နဲ့ ဓမ္မဓိဋ္ဌာန်ကျကျ ဝေဖန်ပိုင်းခြားနိုင်မှသာလျှင် ဖြစ်နိုင်ပါတယ်။ ဒီလို ကိုယ့်ကိုကိုယ် သိနားလည်ဖို့အတွက် အခြားသော အခြေနေတွေကိုလည်း ထည့်တွက်ရပါလိမ့်မယ်။ ကိုယ့်ရဲ့ ဇစ်မြစ်၊ ကိုယ့်ရဲ့ ကလေးဘဝ၊ ကိုယ့်ရဲ့ လူမှုအတန်းအစား၊ ဒါတွေနဲ့အတူပါလာတဲ့ ကြိုက်မှု မကြိုက်မှုတွေ၊ ကိုယ့်ခန္ဓာကိုယ်၊ အဲဒီ ခန္ဓာကိုယ်က သတ်မှတ်ပေးလိုက်တဲ့ ကန့်သတ်ချက်၊ ကိုယ့်ရဲ့ တုံ့ပြန်မှုတွေနဲ့ ဆန္ဒတွေကို ပုံသွင်းပေးလိုက်တဲ့ အရပ်ရပ် အခြေအနေတွေ။ သူ နေထိုင်ခဲ့ရတဲ့ ခေတ်ကာလ၊ အဲဒီ ခေတ်ကာလရဲ့ အစွဲအလမ်းတွေ၊ အကြိုက်တွေ၊ အယူသည်းမှုတွေ။ ဒါတွေအားလုံးကို ထည့်သွင်းစဉ်းစားမှသာလျှင် ကိုယ့်ကို သိနားလည်လာမှာ ဖြစ်ပါတယ်။ တချို့က ပြောကောင်းပြောကြမယ်။ အမ်တက်စတီဟာ သူ့အတ္တရဲ့ အဓိက လက္ခဏာချက်တွေကလွဲလို့ အားလုံးကို ထုတ်ဖော်ရေးသားခဲ့တာပဲ မဟုတ်လားလို့ ပြောကောင်းပြောကြမယ်။ ဒီ

အတိုင်းသာဆိုရင် ဘာကျန်တော့လို့လဲ။ ကုန်ပြီပေါ့။ တကယ်တော့ ကိုယ့်ကို ကိုယ် သိနားလည်ခြင်း ဆိုတာဟာလည်း ကျွန်တော်တို့မှီတင်းနေထိုင်ရာ ကမ္ဘာလောကကြီးကို သိနားလည်ခြင်းထက် ဘာများပိုသေးလို့လဲ။

*

ရှူးဆိုးရဲ့ အလိုရမ္မက်ကြီးပုံနဲ့ ပတ်သက်လို့ ပြောစရာတွေ အများကြီး ရှိတယ်။ ရှူးဆိုးဟာ ကလေးဘဝကတည်းက မိန်းမနဲ့ ပတ်သက်လာရင် တော်တော် အထုံဝါသနာကြီးသူဖြစ်ပါတယ်။ ဒါကြောင့်မို့ ထင်ပါရဲ့။ သူ အချစ်စိတ်ဝင်နေတုန်းရေးတဲ့ စာများဟာ ကဗျာဆန်နေတတ်ပါတယ်။ ‘ဖွင့်ဟဝန်ခံချက်’ အပိုင်းလေးမှာ ရေးထားတဲ့ သူနဲ့ မတ်မွိုင်ဇယ်ဂရာဇင်ရီနဲ့ မတ်မွိုင်ဇယ်ဂယ်လီတို့ လမ်းလျှောက်ထွက်ကြပုံ၊ အဲဒီလို လမ်းလျှောက်ထွက်ရတာကို သူ ဘယ်လောက်ကြည်နူးပုံတို့ကို ရေးထားတာဟာဖြင့် တော်တော့်ကို ဖတ်လို့ကောင်းပါတယ်။

အောက်မှာ သူရေးထားပုံကို ကြည့်ပါ။

‘ကျွန်ုပ်တို့သည် လယ်တဲကလေးက မီးဖိုဆောင်ထဲတွင် ညစာစားကြ၏။ မိန်းမပျိုနှစ်ယောက်မှာ စားပွဲရှည်ကြီး၏ တစ်ဖက်တစ်ချက်ရှိ ခုံရှည်များပေါ်တွင် ထိုင်ကြပြီး သူတို့ဧည့်သည်များမှာ ထိုခုံရှည်ကြားက သုံးချောင်းထောက် ခွေးခြေကလေးများပေါ်တွင် ထိုင်ကြသည်။ ထိုညက ထမင်းဟင်းတို့မှာ ကောင်းလှပါဘိခြင်း။ လွမ်းဖွယ်သတိရစရာများဖြင့် ပြည့်လျက်ရှိပါပေ၏။ ထိုမျှ စရိတ်အကုန်အကျ နည်းပါးစွာဖြင့် ထိုမျှကြီးကျယ်သော ပျော်ရွှင်မှုကိုရလျှင် အခြားသော ပျော်ရွှင်မှုစည်းစိမ်တို့ကို မလိုတော့ပြီ။ ပါရီမြို့ရှိ အကောင်းဆုံးသော ဟိုတယ်ကြီးများမှ ညစာသည်ပင်လျှင် ယခု ထမင်းဝိုင်းကလေးကို မမီနိုင်တော့ပြီ။ ထိုထမင်းဝိုင်းကလေးကား ပျော်ရွှင်မှု၊ ကြည်နူးမှု၊ ချမ်းမြေ့မှုတို့ကိုသာမက အာလျကိုလည်း နှစ်သိမ့်ရောင့်ရဲစေပေ၏။

‘ညစာစားပြီးသည့်အခါ၌ ကျွန်ုပ်တို့သည် ဖဲကစားကြသည်။ ကျွန်ုပ်တို့သည် မနက်က ကျန်ခဲ့သော ကော်ဖီကို မသောက်သေးဘဲ နောင်တွင် ကိတ်မုန့်နှင့်သောက်ရန် ချန်ထားခဲ့ခြင်းဖြစ်ပြီး အမျိုးသမီးများ ယူလာခဲ့ခြင်းဖြစ်၏။ ကျွန်ုပ်တို့သည် ခံတွင်းမြိုန်မြိုန် စားနိုင်ရန်အတွက် သစ်သီးခြံထဲသို့ လာခဲ့ကြကာ အချိုပွဲအဖြစ် ချယ်ရီသီးများဖြင့် လက်စသတ်လိုက်ကြ၏။ ကျွန်ုပ်က ချယ်ရီပင်ပေါ်သို့တက်ပြီး ချယ်ရီခိုင်များကို သူတို့ထံ ပစ်ပေးပြီး သူတို့က ကျွန်ုပ်အား ခဲများဖြင့် ပေါက်၍ ဆော့ကြ၏။ တစ်ကြိမ်တွင်မူ မတ်မွိုင်ဇယ်

ဂယ်လီသည် ချယ်ရီခိုင်များကိုခံရန် သူ့ခါးစည်းအဝတ်ကို ဖြန့်ကာ ကျွန်ုပ်ကို မော့ကြည့်နေစဉ် ကျွန်ုပ်သည် သူ့ရင်ညွန့်ဆီသို့ ချိန်၍ ချယ်ရီခိုင်ကို ပစ်ချလိုက်၏။ ကျွန်ုပ်၏အောင်မြင်မှုကို ရယ်သံကလေးဖြင့် ဆီးကြိုလိုက်ပုံကို ကျွန်ုပ်မမေ့နိုင်တော့ပြီ။ ကျွန်ုပ်၏ နှုတ်ခမ်းများသည် ချယ်ရီသီးကလေးတွေ ဖြစ်ပါစေတော့ဟုပင် ဆုတောင်းလိုက်မိသေး၏'

ဒုတိယပိုင်းမှာ ရေးထားတဲ့ မဒမ်ဘေဆယ်နဲ့ တွေ့တဲ့အခန်းဟာလည်း ဖတ်လို့ တော်တော်ကောင်းပါတယ်။

'သူနှင့် တွေ့ရသည့်အတွက် ကျွန်ုပ် မည်မျှကြည်နူးရပုံတို့ကို စာလုံးများဖြင့် ဖွဲ့ပြ၍ ရနိုင်မည်မဟုတ်ချေ။ သူ့ အဝတ်အစားများကိုပင် မထိရဲဘဲ သူ့ခြေရင်းတွင် ဒူးထောက်ထိုင်လိုက်ရသည့် နှစ်မိနစ်မျှသော အချိန်ကလေးသည် အခြားသော မိန်းမတစ်ယောက်အား တစ်သက်စာ ပိုင်ဆိုင်ရခြင်းထက် တန်ဖိုးရှိလှသည်ဟု ထင်မိ၏။ ကိုယ်ချစ်သော ဖြူစင်ရိုးသားသည့် မိန်းမတစ်ယောက်၏ အသားကို ထိတွေ့ရခြင်းလောက် ကြည်နူးစရာကောင်းသည့် ပီတိမျိုးဟူ၍လည်း လောကတွင် ရှိနိုင်တော့မည် မထင်ချေ။ ကျွန်ုပ် သူ့ထံမှ ရလိုက်သောအရာမှာ လက်ယပ်ခေါ်နေသော လက်ချောင်းကလေးတစ်ချောင်း၏ လှုပ်ရှားမှု၊ ပါးစပ်ကို ညင်သာစွာ လှမ်းပိတ်လိုက်သော လက်တစ်ဖက်မျှသာဖြစ်၍ ဘာမျှ ပြောပလောက်ခြင်းမရှိသည့်တိုင် ထိုထိုအပြုအမူကလေးများကို ပြန်၍ တွေးလိုက်မိလျှင် ယခုတိုင် ကျွန်ုပ်တွင် ပီတိတွေ ဖြာဝေနေပါသေးသည်။'

စိန့်ဗျူဗီက ရူးဆိုးနဲ့ မဒမ်ဒီဝါရင်းတို့ တွေ့ကြပုံကို ရေးထားတဲ့ အဖွဲ့ဟာ အလွန်ကောင်းတဲ့အဖွဲ့ဖြစ်ပြီး ပြင်သစ်စာပေမှာ အသစ်အဆန်းဖြစ်တယ်လို့ ဝေဖန်သွားပါတယ်။ 'ထိုအဖွဲ့အနွဲ့များသည် လူတွင်ဖြစ်ပေါ်နေသော ရမ္မက်စိတ်နှင့် ပတ်ဝန်းကျင်သဘာဝအလှတို့ကို လှပစွာ၊ သိမ်မွေ့စွာ ပေါင်းစပ်ထားသည့်အဖွဲ့ဖြစ်သည်' လို့ ရေးထားပါတယ်။ ဒါပေမယ့် စိန့်ဗျူဗီက ဒီလောက်လှပတဲ့ အဖွဲ့အနွဲ့မျိုးကို ရေးနိုင်တဲ့ စာရေးဆရာက မတ်မွိုင်ဇယ်လန်ဘားစီးသားတို့နဲ့ ပတ်သက်လို့ ရေးရာမှာတော့ ညစ်ညမ်းလှတယ်လို့ ပြစ်တင်ဝေဖန်ထားပါတယ်။

စိန့်ဗျူဗီက အဲဒီအပြစ်အနာအဆာတွေအပြင် အမျိုးကောင်းသားတစ်ယောက် သုံးစွဲလေ့မရှိ၊ ကြားပင် ကြားဖူးခြင်းမရှိသော အောက်တန်းကျပြီး စက်ဆုပ်စရာကောင်းသည့် စကားလုံးတွေကိုလည်း သုံးခဲ့တယ်လို့ ဝေဖန်ပါတယ်။ ဒီလိုသုံးတာဟာ ရူးဆိုးကိုယ်တိုင် အစေအပါးဘဝက လာခဲ့သူမို့ (စိန့်ဗျူဗီက အတန်းအစားကို သိပ်သတိထားသူဖြစ်ပါတယ်။) အောက်တန်းစားစကားတွေကို သုံးတာဖြစ်တယ်။ လူတစ်ယောက်ဟာ လက်လုပ်လက်စား

ဆင်းရဲသားဘဝကလာခဲ့ရင် အများသူငါရှေ့မှာ မပြောအပ်တဲ့ အရာတွေကို အကြောက်အရွံ့မရှိ ပြောရဲတော့တာပဲလို့ ဝေဖန်ခဲ့ပါတယ်။ ဒါပေမယ့် ဒီနေ့ခေတ်မှာတော့ အမြင်တွေဟာ ပြောင်းလဲပါပြီ။ အဲဒီလို ဝေါဟာရတွေဟာ လူတန်းစားတစ်ခုက ပိုင်တဲ့ စကားလုံးမဟုတ်တော့ပါဘူး။ ဘယ်အတန်းအစားကပဲဖြစ်ဖြစ် လူပေါ်မှာတည်ပြီး သုံးနေတဲ့ စကားလုံးတွေဖြစ်နေပါတယ်။ ၁၉ ရာစုနှစ်တုန်းက ဝေဖန်ရေးဆရာတွေကို အလန့်တကြား ဖြစ်စေခဲ့တဲ့ ရူးဆိုးရဲ့ 'ပွင့်လင်းမှု' ဟာ ဒီနေ့ခေတ်မှာ မျက်နှာပူစရာကလေးလောက်သာ ဖြစ်နေပါတော့တယ်။

* * *

## အမှန်ဟာ
## ဘယ်လောက်မှန်သလဲ

ရှုးဆိုးနဲ့ သူ့ကို အတုယူသူများက ယောကျာ်းတွေအားလုံးသိတာ၊ မိန်းမတွေအားလုံး သိသင့်သိထိုက်တာတွေကို ရေးပြရဲတာဟာ ဝမ်းနည်းစရာကိစ္စလား။ အရေးကြီးတဲ့အကြောင်းအရာတွေကို မရေးဘဲ ရှောင်လွှဲနေတာ၊ ရေးတဲ့အခါမှာလည်း လူ့သဘာဝကို အရှိအတိုင်းရေးပြလို့ မခံမရပ်နိုင်ဖြစ်နေတဲ့ကြားက လွတ်လပ်စွာ ပြောဆိုခွင့်အကြောင်းကို ချီးမွမ်းခန်းဖွင့်နေတာကတော့ သက်သက်မဲ့ ဟန်ဆောင်တာပဲ ဖြစ်ပါတယ်။ ဖိုမကိစ္စတွေကို ပြောင်ပြောင်တင်းတင်း ရေးလာတာကတော့ တော်တော်ကျေနပ်စရာ ကောင်းပါတယ်။ ဘာဖြစ်လို့လဲဆိုတော့ ဖတ်ရသူဟာ စာရေးဆရာနဲ့ ဘဝတူ စိတ်ထားမျိုးရသွားပြီး စိတ်ချလက်ချဖြစ်သွားလို့ပါ။ သူ့လိုပဲ တခြားသူ တစ်ယောက် (အထူးသဖြင့် အကျော်အမော် ပုဂ္ဂိုလ်တစ်ယေက်) မှာလည်း အလားတူ ဆန္ဒမျိုး၊ တစ်ခါတစ်ရံမှာ လိင်ဖောက်ပြန်ပြုတာမျိုး၊ ဒါမှမဟုတ် ဖောက်လွဲဖောက်ပြန် လုပ်ချင်တာမျိုးတွေ ရှိတတ်ပါကလားလို့ တွေ့လိုက်ရတဲ့အခါမှာ စာဖတ်သူဟာ ကိုယ့်ကိုယ်ကို ယုံကြည်စိတ်ချသွားပါတယ်။ လိပ်ပြာလုံသွားပါတယ်။ သူ့စိတ်ထဲမှာ ချိုးနှိမ်ထားခဲ့ရသမျှတွေဟာ ဖြေလွှတ်လိုက်သလို ဖြစ်သွားပါတယ်။ ဒီအထိတော့ ဟုတ်ပါပြီ။ မဆိုးပါဘူး။ ဒါပေမယ့် တစ်ဖက်မှာ

အန္တရာယ်တွေ ရှိနေပါတယ်။ ဒီလိုချည်းပဲ အာသာဆန္ဒအလိုလိုက်နေရင် ကျန်းမာရေးကို မထိခိုက်ပေဘူးလား။ ပြီးတော့ အာသာဆန္ဒလွန်ကဲတဲ့ ကိစ္စမျိုးဟာ သောင်းကျန်းရမ်းကားရာ မရောက်ပေဘူးလား။

တစ်ဖက်မှာ ဒီလိုသာ အာသာဆန္ဒရဲ့ အလိုကိုလိုက်လို့ ပြဿနာတွေ ရှိသလို အာသာဆန္ဒကို ထိန်းချုပ်လွန်းရင်လည်း စိတ်မချမ်းမြေ့စရာကောင်းတဲ့ ရလာဒ်တွေကို ရတတ်ပါတယ်။ ရှူးဆိုးမှာဆိုရင် ရာဂဥမ္မတ္တ လက္ခဏာချက်တွေတောင် ရှိနေပါသေးတယ်။

ဒါပေမယ့် အခြားသောစိတ်ရောဂါများလိုပဲ ရာဂလွန် ရောဂါဟာလည်း စိတ်ကူးထဲမှာသာ ရှိနေတတ်တာမျိုးပါ။ တကယ်တော့ ရှူးဆိုးရဲ့ ဘဝမှာ တွေ့ခဲ့ရတဲ့ မိန်းမဆိုလို့ နည်းနည်းပဲရှိပါတယ်။ သူတို့တစ်တွေကတော့ မဒမ်ဒီဝါးရင်း၊ မဒမ်ဒီလားနိတ်၊ ပါဒိုအာနာ၊ ကလပ်ဖဲက ပို့လိုက်တဲ့ ကောင်မလေးတစ်ယောက်နဲ့ ထရီဇာလာဗေးရှားရယ်။ ဒီလောက်ပါပဲ။ အချစ်ကိစ္စများတဲ့ သူတွေဟာ အဲဒီ အချစ်ကိစ္စတွေကို များများပြောလေ့မရှိကြပါဘူး။ ရှူးဆိုးကတော့ သူ့အချစ်ကိစ္စတွေ၊ သူ့အချစ် စွန့်စားခန်းတွေကို အများကြီး ပြောလေ့ရှိပါတယ်။ ဒီလိုပြောတဲ့အတွက် သူ့ကို မိတ်ဆွေတော်တော်များများကပဲ မကြိုက်ကြပါဘူး။ ပေါင်းသင်းဆက်ဆံရေးလောကက ရှူးဆိုးအပေါ်မှာ မလိုတမာ သဘောထားတာ၊ သူကိုယ်တိုင် တရားပလ္လင်ရှေ့မှာ ဖွင့်ဟဝန်ခံချက်နှစ်ကြိမ်ပေးခဲ့ရတာတွေကို ကျွန်တော်တို့ နားလည်ချင်ရင် သူ့ကို ထင်ပေါ်အောင် လုပ်ပေးလိုက်တဲ့ ၁၇၅၀ ခုနှစ် တစ်ဝိုက်က ဒဿနအတွေးအခေါ်ကို ကျွန်တော်တို့ သိထားဖို့လိုပါတယ်။ ရှူးဆိုးဟာ အကျင့်သိက္ခာပြည့်စုံတဲ့ ပုဂ္ဂိုလ်တစ်ယောက်အနေနဲ့ ပါရီအထက်တန်းလွှာ အသိုင်းအဝိုင်းထဲကို ရောက်လာခဲ့ပါတယ်။

အဲဒီတုန်းက ရှူးဆိုးဟာ အထက်တန်းစားတွေရဲ့ ပျော်မှုပါးမှုတွေကို လှောင်ပြောင်သရော်ခဲ့ပြီး 'ယဉ်ကျေးမှု' ရဲ့ အတိအလင်း ရန်သူကြီး တစ်ဦးဖြစ်ခဲ့ပါတယ်။ ဒါပေမယ့် ဇာတ်သဘင်ကို ဆန့်ကျင်ကန့်ကွက်သူကြီး (ရှူးဆိုး) ဟာ ဘုရင့်နန်းတော်ထဲမှာ သူကိုယ်တိုင် ဇာတ်တစ်ခု တင်ဆက်ခဲ့ပါတယ်။ မာနကြီးတဲ့ သမ္မတနိုင်ငံ ဘက်တော်သားကြီး (ရှူးဆိုး) ဟာ မဒမ်ဒီမွန်ပေဒူးဆီက ငွေတွေကို လက်ခံခဲ့ပါတယ်။ သစ္စာရှိတဲ့ လင်မယားချစ်ကို ရှေ့ဆောင်ရှေ့ရွက် ပြုခဲ့သူကြီး (ရှူးဆိုး) ဟာ အရွယ်မရောက်ခင်ကတည်းက သူများဖျားယောင်းသိမ်းပိုက်ခဲ့တဲ့ မိန်းမတစ်ယောက်နဲ့ တိတ်တဆိတ် ပေါင်းသင်းနေခဲ့ပါတယ်။ ပညာသင်ကြားရေးနဲ့ ပတ်သက်လို့ အလွန် မှတ်သားဖွယ်ကောင်းတဲ့ ကျမ်းတစ်စောင်ကို ရေးခဲ့သူကြီး (ရှူးဆိုး) ဟာ သူ့သားသမီးတွေ အားလုံးကို

မိဘမဲ့ကျောင်း လှေကားတက်မှာ စွန့်ပစ်ခဲ့ပါတယ်။ သူဟာ လမ်းမပေါ်က ချော်ထွက်သွားခဲ့တဲ့အတွက် သူ ရန်သူတွေလက်ထဲကို လက်နက်တွေပေးခဲ့သလို ဖြစ်ခဲ့ပါတယ်။

*

ရှူးဆိုးရဲ့ဘဝမှာ ရန်သူတွေလည်း ပေါပါတယ်။ သူ့ရဲ့ 'ဖွင့်ဟဝန်ခံချက်ကျမ်း' ဒုတိယပိုင်းတစ်ခုလုံး အဲဒီရန်သူတွေရဲ့ အမနာပ ပြောဆိုချက်တွေကို ရှင်းလင်းချေပတဲ့ အားထုတ်မှုတစ်ခုပါ။ ပထမအပိုင်း ခြောက်ပိုင်းကို အင်္ဂလန်ပြည် ဂူတန်မြို့မှာ ရေးခဲ့တာဖြစ်ပြီး ၁၇၄၁ ခုနှစ်အထိ ရှူးဆိုးရဲ့ဘဝဇာတ်လမ်းကို ရေးထားပါတယ်။ အဲဒီအခန်းတွေကတော့ သူ့ရဲ့ အလုပ်သင်ဘဝက ကာလပိုင်းဖြစ်ပြီး အဲဒီကာလရဲ့ နေခြည်ဖြာရပ်ပုံလွှာကို ရေးပြထားပါတယ်။ နောက်ဆုံးအပိုင်း ခြောက်ပိုင်းကတော့ တစ်ခုနဲ့တစ်ခု နှစ်နှစ်ခြားရေးထားပြီး ၁၇၆၈ ခုနှစ် ၁၇၇၀ ခုနှစ်တို့မှာ ရေးခဲ့တာဖြစ်ပါတယ်။ သူ့'ဖွင့်ဟဝန်ခံချက်' ကျမ်းဟာ ၁၇၇၆ ခုနှစ်အရောက်မှာ အဆုံးသတ်သွားပါတယ်။ အဲဒီတုန်းက သူဟာ ပြင်သစ်၊ ဂျီနီဗာနဲ့ ဘန်းမြို့က အာဏာပိုင်တွေက လိုက်လံဖမ်းဆီးနေကြတဲ့အတွက် အင်္ဂလန်မှာ လာခိုအောင်းနေရတဲ့ အချိန်ဖြစ်ပါတယ်။ ပါရီမြို့ကြီးနဲ့ ပထမဆုံး စတင် တွေ့ရှိတာကတော့ အဲဒီဒုတိယပိုင်းရောက်မှ ဖြစ်ပါတယ်။ ထရီဇာလာဗိုရှေးနဲ့ ငြိစွန်းပုံ၊ ပြင်သစ်စာပေလောကထဲကို ရောက်လာပုံ၊ မဒမ်ဒီဟူဒါတော့နဲ့ စိတ်ထိခိုက်ဖွယ် မိတ်ဆွေဖြစ်ခဲ့ရပုံနဲ့ စိတ်မကောင်းစရာ နောက်ဆက်တွဲ ဇာတ်လမ်းတွေကို တွေ့ခဲ့ရပုံတို့ကို အဲဒီအပိုင်းမှာ တွေ့နိုင်ပါတယ်။ အဲဒီအပိုင်းတွေမှာ ရှူးဆိုး ရေးသွားပုံဟာ တော်တော်လှပါတယ်။ မဒမ်ဒေပင်နေးက သူ့ကို ကျေးလက်စံအိမ်ကို ဖိတ်တဲ့အခါမှာ သူဘယ်လောက် ပျော်ရွှင်ကြည်နူးရပုံ၊ စိမ်းလန်းတဲ့ ကွင်းပြင်တွေ၊ ပန်းပွင့်တွေ သစ်ပင်တောတောင်တွေ၊ တသွင်သွင်စီးဆင်းနေတဲ့ စမ်းချောင်းတွေကို မြင်ရတဲ့အခါမှာ ဘယ်လောက် စိတ်ကြည်နူးရပုံ၊ ဒီလို ယစ်မူးစရာကောင်းတဲ့ ပတ်ဝန်းကျင်မှာ ဂျူလီ ဝတ္ထုကို ရေးဖို့ စိတ်ကူး ရလာခဲ့ပုံ၊ မဒမ်တူဒီတော့နဲ့ လမ်းလျှောက်ရင်း စကားတွေပြောခဲ့ကြပုံ၊ သူတို့ နှစ်ဦးရဲ့ စိတ်ကူးယဉ်စရာ ကောင်းတဲ့ ပထမဆုံး တွေ့ဆုံကြပုံ၊ ညညမှာ သစ်ပင်အုပ်ကလေးထဲမှာ ချိန်းတွေ့ကြပုံ စသည်တို့ကို ကလောင်သွက်သွက်၊ လေသံရွှင်ရွှင်နဲ့ ရေးသွားပါတယ်။

ဒါပေမယ့် သူ့စာမျက်နှာတွေပေါ်မှာ အာဃာတရဲ့ အရိပ်တွေ တဖြည်းဖြည်း လွှမ်းလာပါတယ်။ ဖယောင်းတိုင်က ဖယောင်းနံ့နဲ့ ပျက်စီး

ယိုယွင်းနေတဲ့ အနံ့တွေဟာ မွေးထုံတဲ့ နွေရဲ့ ချိုမြမှုနဲ့ ရောထွေးသွားပါတယ်။ သူဟာ လျှို့ဝှက်ညှဉ်းပန်းနှိပ်စက်မှုရဲ့ သားကောင်လို့ မြင်လာခဲ့ပါတယ်။ 'လွန်ခဲ့တဲ့ ရှစ်နှစ်ကာလပတ်လုံး ကျွန်ုပ်အပေါ်တွင် ပိတ်ဖုံးနေခဲ့သည့် မည်းမှောင်သော တိမ်တိုက်တို့သည် ထိုအချိန်မှ အစပြုခဲ့လေသည်' လို့ ရေးခဲ့ပါတယ်။ ဒါဟာ ကိုယ့်ကိုယ်ကို သနားပြတာမျိုးပါ။ တကယ်အမှန်ကတော့ ဒီလောက် ကိုယ့်ကိုယ်ကို သနားပြစရာ ခိုင်ခိုင်မာမာအကြောင်းမရှိဘူး မဟုတ်လား။ ဝေဖန်ရေးဆရာ တော်တော်များများကပဲ ဒီလို ယူဆခဲ့ ကြတယ်။ ဒါပေမယ့် ရူးဆိုးမှာ ဘယ်လောက် ရန်သူတွေများသလဲ၊ သူ့ ပျက်စီးရာ ပျက်စီးကြောင်းကို ဘယ်လောက် ကြိုးပမ်းအားထုတ်ကြသလဲ ဆိုတာကို ဟင်နရီပွိုလင်မင်ရဲ့ သူ့အတ္ထုပ္ပတ္တိကျမ်းကို ဖတ်ကြည့်ရင် အလွယ်နဲ့ သိနိုင်ပါတယ်။

ရူးဆိုးဟာ နိမ့်ကျတယ်။ စိတ်သောကရောက်ရတယ်။ သာမန်အညတရဖြစ်တယ်။ အသက်လေးဆယ် တစ်ဝိုက်လောက်မှာ ပါရီအထက်တန်းလွှာအသိုင်းအဝိုင်းထဲကို ရောက်လာခဲ့တယ်။ အထက်တန်းလွှာ အမျိုးသမီးတွေက အင်မတန်တော်တဲ့ စာရေးဆရာတစ်ဦးဆိုပြီး သူနဲ့ သိကျွမ်းရတာကို ဂုဏ်ယူကြတယ်။ အောင်မြင်မှုဟာ သူ့ဆီကို ရောက်လာတယ်။ ဂရင်းနဲ့ ဒီဒေးရော့တို့ဟာ သူ့ရဲ့ သစ္စာအရှိဆုံး မိတ်ဆွေများလို့ သူ ယူဆခဲ့တယ်။ ဒါပေမယ့် ရူးဆိုးကို ချီးမွမ်းမြှောက်ပင့်သံတွေကိုချည်း ကြားနေရတော့ သူတို့တစ်တွေဟာ အဲဒီမြှောက်ပင့်သံတွေကို နားကြားပြင်း ကပ်လာခဲ့ကြတယ်။ ဂရင်းဆိုရင် သူ့အပေါ်မှာ အာဃာတဖွဲ့သည်အထိ ဖြစ်လာတယ်။ ဒီဒေးရော့ကတော့ သူ ပရိုတက်စတင့်ဘာသာဝင် ဖြစ်သွားတဲ့အတွက် ခွင့်မလွှတ်နိုင်ဘဲ ဖြစ်နေတယ်။

ပြီးတော့ တစ်ဖက်မှာ အမျိုးသမီးတွေ ရှိသေးတယ်။ အဲဒီတုန်းက ပါရီအထက်တန်းလွှာ အမျိုးသမီးတွေဟာ တော်တော်သြဇာကြီးကြတယ်။ ဒါကြောင့် အကြောင်းကိစ္စတွေရှိလာရင် သူတို့အပေါ်မှာ ကြင်နာစွာ သဘောထားလေ့ရှိတဲ့ ရူးဆိုးကို အကာအကွယ်ပေးကြတယ်။ ဒါပေမယ့် နောက်ဆုံးမှာ ရူးဆိုးဟာ သူတို့အသိုက်အဝန်းနဲ့လည်း ခွာပြဲလာခဲ့ပါတယ်။ သူတို့က ရူးဆိုးကို အပေါင်းအသင်းလုပ်ကြတာဟာ သူတို့ရဲ့ ပျင်းရိငြီးငွေ့မှုကို ဖြေဖျောက်ဖို့၊ အငြိုးပြေသဘော အပေါင်းအသင်းလုပ်ကြတာ။ ရူးဆိုးကလည်း သူတို့ အထက်တန်းလွှာ အသိုင်းအဝိုင်းတွေ၊ ဧည့်ခန်းဆောင်တွေထက် တစ်ယောက်တည်း လမ်းပျောက်ပြီး တွေးချင်တွေး ငေးချင်ရာငေး နေရတာမျိုးကို သဘောကျတတ်တာပါ။ လူက ကောင်းကောင်းလည်း မကျန်းမာတော့ နန်းတော်ထဲ ဝင်ပြီး လူပျိုတော်သားလုပ်ဖို့၊ ဘုရင်တို့ မင်းညီမင်းသားတို့ရဲ့ လူယုံတော်လုပ်

ဖို့ကလည်း သိပ်မလွယ်တော့ပါဘူး။ မဒမ်ဒေမင်နားကတော့ သူ့ အပေါ်မှာ စိတ်ကောင်းထားပါရဲ့။ ကျန်းမာချမ်းသာအောင် စောင့်ရှောက်ပါရဲ့။ ဒါပေမယ့် သူ့ယောက်မ မဒမ်ဒိုဒီတော့နဲ့ ငြိစွန်းသွားကြတဲ့အတွက် မဒမ်ဒေပင်နေးဟာ ရှူးဆိုးအပေါ်မှာ မပြေနိုင်အောင် ညှိုးတဲ့ ရန်သူကြီးတစ်ဦး ဖြစ်သွားတော့တာ ပါပဲ။ ရှူးဆိုးဟာ ဘယ်လောက်များ အသလဲဆိုရင် အဲဒီ အကြောင်းတွေကို သူ့မိတ်ဆွေလို့ထင်နေတဲ့ ဒီဒေးရှော့ကို သွားပြီး ဖြောင့်ချက်ပေးသည့်အထိပါပဲ။ အမှန်ကတော့ အဲဒီအချိန်မှာ ဒီဒေးရှော့ဟာ သူ့ မိတ်ဆွေမဟုတ်တော့ပါဘူး။ ကိုယ်သစ္စာဖောက်ခဲ့တဲ့ လူတစ်ယောက်ကို နစ်မွန်းအောင် လုပ်တဲ့ မိတ်ဆွေ ဟောင်းလောက် ရက်စက်တဲ့သူဆိုလို့ လောကမှာ ရှိမယ်တောင် မထင်ပါဘူး။ ကိုယ်ကလည်း သစ္စာဖောက်ခဲ့သေးတယ်၊ ပြီးတော့ ကိုယ်ကပဲ ပြန်ပြီး ဒီလူကို နစ်မွန်းအောင် လုပ်တယ်ဆိုတော့ လွန်တာပေါ့။ ဒီဒေးရှော့ဟာ သူ့ကို ယုံမှတ်လို့ ဖွင့်ပြောသွားတဲ့ ရှူးဆိုးရဲ့ လေးစားယုံကြည်မှုကို အလွဲသုံးစား လုပ်ခဲ့ပါ တယ်။ ဒီထဲမှာ ဂရင်းကပါ ထပ်ပြီး အဆိပ်ပင်ရေလောင်းပေးလိုက်တော့ ပိုဆိုး သွားတာပေါ့။ ဒီလိုနဲ့ ရှူးဆိုးဟာ သူတစ်ခါက ကြည်နူးစရာ ပျော်စရာကောင်း တယ်လို့ ယူဆတဲ့ အသိုက်အဝိုင်းတစ်ခုလုံးက ဝိုင်းဝန်းရှုတ်ချကန့်ကွက်တာ ကို ခံခဲ့ရတော့တာပါပဲ။ အဲဒီနောက်ကစပြီး ရှူးဆိုးဟာ သူတို့အသိုင်းအဝိုင်းက ဖဲကြဉ်ခဲ့ရတော့တာပါပဲ။

ကျန်တဲ့ အကြောင်းအရာတွေကတော့ တိတ်ဆိတ်မှုဖြစ်သင့်ပါ တယ်။ ရှူးဆိုးရဲ့စာတွေ ဘန်းမြို့မှာ တွေ့ခဲ့ရတဲ့ သေးဖွဲမှုတွေဟာ စာပေသမိုင်း ဆရာအဖို့ စိတ်ဝင်စားဖွယ် ဖြစ်ကောင်းဖြစ်နိုင်ပါတယ်။ ဒါပေမယ့် သာမန် စာဖတ်ပရိသတ်အတွက်တော့ 'ဖွင့်ဟဝန်ခံချက်များ' ဟာ အပိုင်းဆယ့်နှစ်ကို ရောက်တဲ့အခါမှာ စွဲမက်ဖွယ်တို့ လုံးဝပျောက်ကွယ်သွားခဲ့ပါပြီ။ သို့တိုင် ရှူးဆိုး ကို နှစ်သက်တဲ့စိတ်၊ လေးစားတဲ့စိတ်ကတော့ ပျောက်မသွားပါဘူး။ 'ဖွင့်ဟ ဝန်ခံချက်များ' ဟာ အစမှာလိုပဲ အဆုံးမှာလည်း ရိုးသားမှုနဲ့ အဆုံးသတ်သွား ခဲ့ပါတယ်။

'ကျွန်ုပ်သည် အမှန်ကိုပြောခဲ့ပြီးလေပြီ။ ကျွန်ုပ် ထုတ်ဖော်ရေးသားခဲ့ သည်များနှင့် မတူဘဲ တစ်မျိုးတစ်ဖုံသိနေသူ ရှိခဲ့သည်ဆိုလျှင် အကြိမ်ပေါင်း ထောင်ချီ၍ သက်သေပြစေ၊ သူသိသမျှသည် အမှားအယွင်း၊ အလိမ်အညာမျှ သာဖြစ်သည်ဟု ကျွန်ုပ်ပြောလိုပါသည်။ ကျွန်ုပ် အသက်ထင်ရှား ရှိနေစဉ်တွင် ထိုအချက်အလက်များ ဟုတ်မဟုတ်၊ မှန်မမှန်ကို ကျွန်ုပ်နှင့်အတူ လိုက်၍ စုံ စမ်းရှာဖွေနိုင်ပါသည်။ အကယ်၍ ထိုသို့ ရှာဖွေခြင်းမပြုလိုဟု ဆိုကာ သူသိ သမျှ အမှားကို ဆက်လက်ဆုပ်ကိုင်ထားလျှင်မူကား သူသည် တရားမျှတမှုနှင့်

အမှန်တရား၏ မိတ်ဆွေရောင်းရင်း မဟုတ်တော့ပါ။ ကျွန်ုပ်ရေးသားချက်များကို မဖတ်ဖူးသည့်တိုင် ကျွန်ုပ်၏ စိတ်သဘာဝနှင့် ကျွန်ုပ်၏ စရိုက်၊ ကျွန်ုပ်၏ စရဏတရား၊ ကျွန်ုပ်၏ ဝါသနာအထုံ၊ ကျွန်ုပ်၏ အလေ့အထနှင့် အပျော်အပါးတို့ကို လေ့လာသိရှိပြီးနောက်၌ ကျွန်ုပ်သည် ရိုးဖြောင့်ခြင်းမရှိဟု ဆက်လက်ထင်မြင်နေသေးမည်ဆိုလျှင်ကား ထိုသူအား လည်မျိုးညှစ်သတ်ဖို့ ကောင်းတော့သည်ဟု ကျယ်လောင်စွာနှင့် ရဲရင့်စွာ ကျွန်ုပ် ကြေညာလိုက်ပါကြောင်း'

ရှူးဆိုးဟာ အမှန်ကို ပြောတယ်လို့ ယူဆရပါတယ်။ သူ့အမှန်တရားဟာလည်း လူ့ရဲ့ အားနည်းချက်က ပြောဖို့ ခွင့်ပြုနိုင်တဲ့ အမှန်တရားသာ ဖြစ်ပါတယ်။

* * *

# ဝတ္ထုနဲ့ ဝတ္ထုရေးဆရာ

ဝတ္ထုရေးဆရာတစ်ယောက်ဟာ သူ ရေးမယ့်အကြောင်းအရာတစ်ခုကို တစ်ကယ့်အဖြစ်အပျက်ကနေပြီး ယူသင့်သလား။

တကယ့်အဖြစ်အပျက်တစ်ခုကို သေချာစေ့ငုစွာ လေ့လာပြီး စိတ်ကူးဉာဏ်ကောင်းတဲ့ စာရေးဆရာတစ်ယောက်က ရေးသားလိုက်တဲ့အခါမှာ အလွန် ရသမြောက်ပြီး ပင်ကိုယ်ဖြစ်တဲ့ ဝတ္ထုတစ်ပုဒ် ဖြစ်လာနိုင်ပါတယ်။ ဒီအကြောင်းကို ပြင်သစ်စာရေးဆရာကြီး စတင်ဒယ်ရဲ့ 'အနီနဲ့အနက်' ဝတ္ထုကို သာဓကဆောင်ပြီး ကျွန်တော် တင်ပြပါ့မယ်။

၁၈၂၇ ခုနှစ်မှာ အနီးအနားတစ်ဝိုက်မှာ တော်တော်အုတ်အော်သောင်းတင်း ဖြစ်သွားတဲ့ အမှုတစ်ခု ဂရင်နိုဘယ်မြို့က ရာဇဝတ်တရားရုံး တစ်ရုံးကို ရောက်လာပါတယ်။ အမှုက အင်တွိုင်းဗားသားဆိုတဲ့ လူငယ်ကလေးတစ်ယောက် လူသတ်မှုနဲ့ အစွဲခံရတဲ့ အမှုပါ။ အဲဒီလူငယ်ကလေးက သူကျူးလွန်ပါတယ်လို့ ဖြောင့်ချက်ပေးပါတယ်။ အမှုသွား အမှုလာကတော့ အောက်ပါအတိုင်း ဖြစ်ပါတယ်။

ဗားသားက ကျေးရွာတစ်ရွာက ပန်းပဲဆရာတစ်ယောက်ရဲ့ သားပါ။ သူ့ကို ဘုန်းကြီးက စာသင်ပေးပြီး သူ့အသက် ဆယ့်ကိုးနှစ်အရွယ်မှာ အလုပ်တစ်ခုရှာပေးပါတယ်။ အလုပ်ကတော့ အဲဒီရွာက စီးပွားရေးလုပ်ငန်း ပိုင်ရှင်

ကြေးရတတ်တစ်ဦးဖြစ်တဲ့ မွန်စီယာ မီရှောရဲ့အိမ်မှာ စာပြတဲ့ဆရာပါ။ မွန်စီယာ မီရှောရဲ့ ဇနီးသည် မဒမ်မီရှောသည် အသက် သုံးဆယ့်ခြောက်နှစ်လောက်သာ ရှိတဲ့ အမျိုးသမီးတစ်ယောက်ပါ။ ဗားသားက မဒမ်မီရှောကို ချစ်ရေးဆိုပါတယ်။ ဒါလောက်ကလွဲလို့ တခြားတော့ ကျွန်တော်တို့ ဘာမှ ပိုမသိရပါဘူး။ အမှုကို စစ်ဆေးနေတုန်းမှာလည်း ဗားသားဟာ မဒမ်မီရှောနဲ့ ငြိစွန်းခြင်းရှိသလား၊ မရှိဘူးလားဆိုတာကို ဘာမှ တင်ပြခြင်းမရှိပါဘူး။ ဒါပေမယ့် ဘယ်လိုပဲဖြစ်ဖြစ် မွန်စီယာမီရှောက သူ့ကို အလုပ်က ထုတ်ပစ်လိုက်တာကိုတော့ ကျွန်တော်တို့ သိရပါတယ်။

များမကြာမီမှာ သူ့ဆရာ ဘုန်းတော်ကြီးက ပြန်ခေါ်ပြီး သူ့ကို ကျမ်းစာသင်ကျောင်းကို အတက်ခိုင်းပါတယ်။ ဗားသားဟာ အဲဒီကျောင်းမှာ လည်း မကြာလိုက်ပါဘူး၊ ကျောင်းထုတ်ခံလိုက်ရပါတယ်။ ဘာကြောင့် ထုတ် တယ်ဆိုတာကိုတော့ မသိရပါဘူး။ နောက်တော့ ဗားသားဟာ မွန်စီယာဒီကော် ဒွန်ဆိုသူ လူကုံထံတစ်ယောက်ရဲ့အိမ်မှာ စာပြဆရာအလုပ်ကို ရပြန်ပါတယ်။ အဲဒီမှာ အိမ်ရှင်ရဲ့ သမီးပျိုကို ငြိမိတဲ့အတွက် အလုပ်က အထုတ်ခံရပြန်ပါတယ်။

အဲဒီနောက်တော့ သူ အလုပ် လိုက်ရှာပါတယ်။ ဘယ်မှာမှ အလုပ် မရပါဘူး။ သူ အလုပ်မရတာဟာ မဒမ်မီရှောက သူ့ကို လက်စားချေလိုတဲ့ အတွက် ဒါမှမဟုတ်၊ သူ့ကို မနာလိုတဲ့အတွက် အလုပ်မရအောင်လိုက်ပြီး နှောင့်ယှက်နေတယ်လို့ သူ့စိတ်ထဲမှာ ထင်နေတယ်။ တကယ် ဟုတ်မဟုတ် ကိုတော့ မသိဘူးပေါ့။ သူ့အထင်ပေါ့။ ဒီမှာတင် ထူးဆန်းတဲ့ ဆုံးဖြတ်ချက် တစ်ခုကို သူ ချလိုက်တယ်။

တနင်္ဂနွေနေ့ နေ့တစ်နေ့မှာ ဗားသားဟာ မဒမ်မီရှော ဘုရားဝတ် တက်သွားတဲ့ ရွာက ဘုရားရှိခိုးကျောင်းကို လိုက်သွားတယ်။ မဒမ်မီရှောက ခေါင်းကို ငုံ့ပြီး ဝတ်ပြုနေတုန်းမှာ နောက်ကနေပြီး ပစ္စတိုနဲ့ ပစ်သတ်လိုက် တယ်။ မဒမ်မီရှောဟာ လဲကျသွားတယ်။ ဗားသားကလည်း သူ့ကိုယ်သူ သေနတ်နဲ့ ပစ်သတ်ပြီး အဆုံးစီရင်ဖို့ ကြိုးစားတယ်။ သူလည်း သွေးတွေ ဒလဟောထွက်ပြီး လဲကျသွားတယ်။ သူ့ကို ဘုရားရှိခိုးကျောင်းက သယ်သွား ပြီး ဆေးကုပေးကြတယ်။ သေတော့ မသေဘူး။ မဒမ်မီရှောလည်း မသေဘူး။ ဗားသားကို ဖမ်းပြီး ရုံးတင် တရားစွဲတယ်။

တရားရုံးတော်မှာ မြင်ရတဲ့မြင်ကွင်းကတော့ တော်တော်ထူးဆန်းတဲ့ မြင်ကွင်းပါပဲ။ ဗားသားက ကျမ်းစာသင်ကျောင်းဆရာဖြစ်တဲ့အတွက် ဝတ်ရုံ အနက်ကြီးကို ဝတ်လို့၊ ခေါင်းက ဒဏ်ရာကလည်း မပျောက်သေးတော့ တစ် ခေါင်းလုံး ပတ်တီးစည်းထားတယ်။ တရားလိုရှေ့နေက သူဟာ ဘီလူးစိတ်

ဝင်နေတဲ့ လူငယ်တစ်ယောက်လို့ စွပ်စွဲပြီး မေးခွန်းတွေမေးတယ်။ မေးခွန်းမေးတိုင်း သူက 'ကျွန်တော် ဘာမှမပြောလိုဘူး၊ ကျွန်တော့်ကို သတ်ပါ။ ကြိုးပေးပါလို့' ပဲဖြေတယ်။

သူ့ရဲ့ရှေ့နေကလည်း သူ့အမှုသည်ဟာ စိတ်ပြောင်းအောင်လုပ်လို့ ရမှာ မဟုတ်တော့ဘူးလို့ ပြောတယ်။ ဗားသားကိုယ်တိုင်ကလည်း တရားလိုရှေ့နေကြီးဆီကို စာတစ်စောင်ရေးတယ်။

'တရားလိုရှေ့နေကြီးခင်ဗျား၊ ကျွန်တော်၏ ဆန္ဒမှာ မနက်ဖြန်တွင် ကျွန်တော့်ကို သေဒဏ်စီရင်ချက်ချပြီး နောက်တစ်နေ့တွင် ကြိုးစင်ပေါ်သို့ တက်ရန်သာဖြစ်ပါသည်။ သေခြင်းသည်သာလျှင် ကျွန်တော့်အား ပေးသနားသင့်သော အသက်ညှာဆုံးသော အပြစ်မှ ခွင့်လွှတ်သည့် ပုံသဏ္ဍာန်ဖြစ်ပါသည်။ သေရမည်ကို ကျွန်တော် မကြောက်ပါ။ ကျမ်းကျိန်၍ ပြောရဲပါသည်။ လူ့ဘဝကြီးကို ကျွန်တော် စက်ဆုပ်ရွံမုန်းလှပါပြီ။ လူကြီးမင်းက ကျွန်တော့်ကို ကြာရှည်ဆွဲ၍ အမှုစစ်နေလျှင်လည်း ကျွန်တော့်အဖို့ အကြောင်းမထူးတော့ပါ။ ပုပ်သိုးဆွေးမြေ့နေသော ပတ်ဝန်းကျင်မှ လေထုကို နောက်ထပ် ရှူရှိုက်ခြင်း မပြုပါရစေနှင့်တော့။ ကျွန်တော့်ကိုလည်း ရုံးတင်စစ်ဆေးခြင်း ပြုမနေပါနဲ့တော့။ ရုံးတော်သို့ရောက်လျှင် ကျွန်တော်လည်း တစ်လုံးမျှ ထွက်ဆိုခြင်းပြုတော့မည် မဟုတ်ပါ။'

အဲဒါကတော့ ၁၈၂၇ ခုနှစ် ထုတ်တဲ့ သတင်းစာတွေ အထူးသဖြင့် အီဘောရီခရိုင်မှာ ထုတ်တဲ့ သတင်းစာတိုင်းမှာလိုလို ဖော်ပြထားတဲ့ အဖြစ်အပျက်ဖြစ်တယ်။ စတင်ဒယ်ကလည်း ဒီနယ်သားပါ။ စတင်ဒယ်ဟာ ဒီသတင်းကို ဖတ်မိပါတယ်။ ဒီတော့ စတင်ဒယ်ဟာ ဒီသတင်းကို ဘာဖြစ်လို့ ဒီလောက် စိတ်ဝင်စားသွားရသလဲဆိုတာကို ကျွန်တော် စူးစမ်းကြည့်ချင်ပါတယ်။ အဖြစ်အပျက်ကိုတော့ ကျွန်တော် အရင်အတိုင်း ဖော်ပြခဲ့ပြီးပါပြီ။ ခုတော့ အဲဒီသတင်းကို စိတ်ဝင်စားသွားတဲ့ စတင်ဒယ်ရဲ့စိတ်ဓာတ်။ အဲဒီအဖြစ်အပျက်ကို ဝတ္ထုရေးချင်သွားတဲ့ စတင်ဒယ်ရဲ့ စိတ်ဓာတ်အကြောင်းကို နည်းနည်းပြောပြချင်ပါတယ်။

စတင်ဒယ်ဟာ ဘယ်သူလဲ။

စတင်ဒယ်ဟာ ၁၇၈၃ ခုနှစ်မှာ ဂရင်နိုဗယ်မြို့မှာ မွေးပါတယ်။ တစ်နည်းပြောရရင် ပြင်သစ်တော်လှန်ရေးကြီးမတိုင်မီ နှစ်အနည်းငယ်အလိုမှာ မွေးပါတယ်။

သူ့နာမည်ရင်းက ဟင်နရီဘေးလ်ပါ။ သူ့အဖေ ချီရူတင်ဘေးလ်ဟာ မိန်းမနဲ့ပတ်သက်လာရင် တော်တော်ရှုပ်တဲ့လူပါ။ တော်တော်စိတ်ပျက်

စရာကောင်းတဲ့သူတစ်ယောက်ဖြစ်ပြီး ပိုက်ဆံရဖို့လောက်ကိုပဲ စိတ်ဝင်စားတတ်သူတစ်ဦးလည်း ဖြစ်ပါတယ်။ သူ့အဖေက စိတ်ချယုံကြည်ပြီး သူ့ကို အားပေးအားမြှောက်လုပ်နေသူကတော့ ကြီးတော်ဖြစ်သူ ဆီရာဖီ ဖြစ်ပါတယ်။ စတင်ဒယ်ဟာ သူ့ကြီးတော် ဆီရာဖီကို သူ့တစ်သက်လုံး တော်တော် ခါးခါးသီးသီးကို မုန်းသွားခဲ့ပါတယ်။ သူ့အကြောင်းကို စတင်ဒယ်က 'ဟင်နရီဘရူးလော့ဒ်' ဝတ္ထုထဲမှာ ထည့်ရေးခဲ့ပါတယ်။ အဲဒီ ဝတ္ထုထဲမှာ မိသားစု ပျော်ရွှင်ရေးအတွက် အမြဲတန်း ဆုတောင်းနေပြီး မိသားစုပျော်ရွှင်မှုကို မရအောင် နှောင့်ယှက်ဖျက်ဆီးနေတဲ့ သူတော်ကောင်းဟန်ဆောင်တဲ့ အမျိုးသမီး ကြီးတစ်ယောက်အဖြစ် ရေးပြခဲ့ပါတယ်။

သူ့ကြီးတော်က စတင်ဒယ်ကို သဘက်ကလေးတစ်ကောင်လို့ ခေါ်လေ့ရှိပြီး စိတ်ထားကြမ်းကြုတ်သူလို့ မကြာခဏ ပြောလေ့ရှိတယ်။ သူ့အသက် ၇ နှစ်သား ၈ နှစ်သားလောက်တုန်းက တစ်နေ့မှာ စတင်ဒယ်ဟာ ကလေးတွေထုံးစံအတိုင်း အပေါ်ထပ် ဝရန်တာ အုတ်လက်ရန်းမှာ တင်ထားတဲ့ ပန်းအိုးတစ်အိုးထဲကို မောင်းချခါးကလေးနဲ့ မြေတွေဆွပြီး ပန်းပင် စိုက်တမ်းကစားနေတယ်။ ဒီတုန်းမှ မောင်းချခါးကလေးဟာ လက်ထဲက မတော်တဆလွတ်ကျသွားပြီး အောက်လမ်းမပေါ်မှာ ထိုင်နေတဲ့ အဘွားအိုကြီးတစ်ယောက်အနားမှာ ကျသွားတယ်။ ဒါကို ဆီရာဖီမြင်တော့ သူ့တူ စတင်ဒယ်ဟာ အဘွားကြီးကို သေအောင် တမင်လုပ်တာပဲဆိုပြီး လူသိရှင်ကြား လျှောက်ပြောတယ်။ ဒီလောက် ကြီးလေးတဲ့ စွဲချက်ကြီးတစ်ခုဟာ ကလေးတစ်ယောက်ရဲ့ စိတ်ထဲမှာ ဘယ်လိုစွဲမှတ်သွားမလဲဆိုတာ အလွယ်တကူနဲ့ စဉ်းစားနိုင်ပါတယ်။

ဒီမှာတင် လောကကြီးမှာ မတရားမှုတွေ၊ တစ်ဘက်စောင်းနင်း ဖြစ်မှုတွေ ရှိပါကလားဆိုတာ စတင်ဒယ် အစွဲကြီး စွဲသွားပါတယ်။ ဒါကြောင့် စတင်ဒယ်ဟာ အသက်ကြီးတဲ့ ကြီးတော်ကြီးကို ကလဲ့စားမချေရတာနဲ့ လူ့အဖွဲ့အစည်းကြီးကို လက်စားချေချင်စိတ်တွေ ဖြစ်ပေါ်လာခဲ့သလားတော့ မပြောတတ်ပါဘူး။ စတင်ဒယ်ဟာ သူ့အဖေဘက်က ဆွေမျိုးတွေကို တော်တော်လေး မုန်းပါတယ်။

ဒါပေမယ့် စတင်ဒယ်ဟာ အမေ့ဘက်က ဆွေမျိုးတွေကိုတော့ ချစ်ပါတယ်။ အမေဟာ ဂါနွန်နယ်မှာ မွေးပြီး သူ့အဘိုးဟာလည်း တကယ် ၁၈ ရာစုနှစ်ခေတ် ဂါနွန်သားကြီးတစ်ဦး ဖြစ်ပါတယ်။ သူ့အဘိုးဟာ အဘိဓမ္မာတို့ ဘာတို့ကို လေ့လာလိုက်စားသူ ဖြစ်ပါတယ်။ သူ့အဘိုးဟာ ဒဿန တစ်မျိုးကိုလည်း ကျင့်သုံးလက်ခံသူ ဖြစ်ပါတယ်။ သူ့အဘိုးရဲ့ ဒဿနကို စတင်ဒယ်

က 'ဘဝကို အသာတကြည်နဲ့ လက်ခံတဲ့ ဒဿန' (ဖွန်တီနယ်လီဆီမေး) လို့ ခေါ်ခဲ့ဖူးပါတယ်။

သူ့မှာ ရိမိန်းဂါန္တန်လို့ ခေါ်တဲ့ ဦးလေးတစ်ယောက်လည်း ရှိပါတယ်။ အဲဒီဦးလေးက မိန်းမ သိပ်စွဲပါတယ်။ မိန်းမစွဲတဲ့ ဦးလေးကို စတင်ဒယ် ချစ်ပါတယ်။ ပြီးတော့ အယ်လီဇဘက်ဆိုတဲ့ အဒေါ်တစ်ယောက်လည်း ရှိပါတယ်။ စတင်ဒယ်ရဲ့ ဒဏ္ဍာရီပုံပြင်မှာ ကြီးတော် ဆီရာဖီဟာ မကောင်းတာကို ကိုယ်စားပြုတာဖြစ်ပြီး ဒေါ်လေး အယ်လီဇဘက်ကတော့ ကောင်းတာကို ကိုယ်စားပြုသူပါ။ စတင်ဒယ်ရဲ့ ဝေါဟာရမှာ ကောင်းတာဆိုတာ ဂုဏ်ရှိတာ၊ သိက္ခာရှိတာ။ ရဲရင့်တာ။ သတ္တိရှိတာတို့ကိုခေါ်တာ ဖြစ်ပါတယ်။ ဒေါ်လေး အယ်လီဇဘက်ဟာ ကြီးမြတ်တဲ့ လက္ခဏာရှိတဲ့ အရာတိုင်းကို ချစ်ခင်တွယ်တာတတ်ပါတယ်။ နောင် စတင်ဒယ်ရဲ့ ဝတ္ထုတွေအကြောင်းကို အသွင်အမျိုးမျိုးနဲ့ ရုပ်ဖျက်ပေါ်လာတဲ့ ဒေါ်လေး အယ်လီဇဘက် အကြောင်းကို ပြောပြပါဦးမယ်။

ကျွန်တော်တို့တစ်တွေရဲ့ အကျင့်စရိုက်တွေဟာ ကလေးဘဝကတည်းက ပုံသွင်းခံခဲ့ကြတာပါ။ အသက် ၈ နှစ်လောက်ရောက်တဲ့အခါမှာ လူတစ်ယောက်ဟာ အကောင်းမြင်တတ်သူလား၊ အဆိုးမြင်တတ်သူလား ဆိုတာ တော်တော်လေး ကွဲပြားလာပါပြီ။ အဲဒီနောက်ပိုင်းမှာ ကြီးမားတဲ့ အဖြစ်အပျက်တွေ မတွေ့ရတော့ဘူးဆိုရင် လူတစ်ယောက်ရဲ့ စရိုက်ဟာ သိပ်မပြောင်းတော့ဘူး။ ပြောင်းခဲ့သွားပါပြီ။ ငယ်ငယ်တုန်းက သိပ်စိတ်ဆင်းရဲခဲ့ရပြီး ကြီးမှ ပျော်စရာ အဖြစ်အပျက်ကြီးတွေ တွေ့တာမျိုး၊ ငယ်ငယ်တုန်းက ပျော်စရာတွေ တွေ့ခဲ့ပြီး၊ ကြီးမှ စိတ်မချမ်းသာစရာတွေနဲ့ တွေ့ရတာမျိုး စတဲ့ အဖြစ်အပျက်ကြီးတွေ မရှိခဲ့ရင် လူတစ်ယောက်ဟာ အသက် ၈ နှစ် နောက်ပိုင်းမှာ စရိုက် သိပ်မပြောင်းတော့ပါဘူး။ ဒီလို အဖြစ်အပျက်ကြီးတွေကို တွေ့ရသည့်တိုင်အောင်ပင်လျှင် ငယ်ငယ်တုန်းက ဆင်းဆင်းရဲရဲ၊ ညှိုးညှိုးငယ်ငယ်နဲ့ ဘဝကို အစပျိုးခဲ့ရသူများဟာ ကြီးလာသည်အထိ ကြောက်ကြောက်ရွံ့ရွံ့ ဖြစ်နေတတ်တာ၊ စိတ်ညစ်ညူး နောက်ကျိနေတတ်တာမျိုးတွေ ကျန်နေတတ်ပါသေးတယ်။

စတင်ဒယ်ရဲ့ စရိုက်ဟာ ကလေးဘဝကတည်းက စောစောစီးစီး ပုံသဏ္ဍာန် ပေါ်နေပါပြီ။ စတင်ဒယ်ရဲ့ စရိုက်ဟာ ကြမ်းကြုတ်အနိုင်ကျင့်တတ်တဲ့ အဖေနဲ့ ရေလန်နေးဆိုတဲ့ ကက်သလစ် ဘုန်းကြီးရဲ့ အဆုံးအမတွေ အောက်မှာ ဖွံ့ဖြိုးလာခဲ့ပြီး အဲဒီပတ်ဝန်းကျင်ရဲ့ ပုံသွင်းပေးခြင်းကို ခံခဲ့ရပါ တယ်။

သူက လူတွေကို နှစ်မျိုး ခွဲကြည့်ပါတယ်။ တစ်မျိုးကတော့ လူလေ

လူလွင့်တွေ ဖြစ်ပါတယ်။ အဲဒီအထဲမှာ သူ့အဖေ၊ ဘုန်းတော်ကြီး ရေလန်နေး၊ သူတော်ကောင်း ယောင်ဆောင်သူတွေ၊ အယူသီးသူတွေ၊ (ဘုရင့်ဂိုဏ်းသားတွေ (သူ့အဖေဟာ ဘုရင့်ဂိုဏ်းသား) 'ဂန္ထဝင် ဝါဒသမားတွေ' (သူ့ အဖေက ဂန္ထဝင် စာပေကို ဝါသနာပါသူဖြစ်တယ်) နောက်တစ်မျိုးကတော့ စိတ်သဘောထား မြင့်မြတ်ပြီး မေတ္တာထားသူတွေ ဖြစ်တယ်။ ဒေါ်လေး အယ်လီဇဘက်နဲ့ သူလို လူတွေ ဖြစ်တယ်။ အဲဒီစိတ်သဘောထား မြင့်မြတ်သူများဟာ 'လူလေလူလွင့်' တွေမှာ မရှိတဲ့ အရည်အချင်းတွေ အကုန်ရှိတယ်လို့ သူ ယူဆတယ်။ သူတို့ ဟာ စိတ်ကူးယဉ်သူတွေဖြစ်တယ်။ ချစ်တတ်သူတွေ ဖြစ်တယ်။ တစ်ပြိုင်နက် တည်းမှာ လောကကြီးကို လှောင် ပြောင်မဲ့ရွဲ့ချင်သူတွေ ဖြစ်တယ်။ သူတို့ဟာ တစ်ဘက်သတ် ကြိုတင်စွဲလမ်းနေတဲ့ အစွဲအလမ်းမျိုးတွေ မရှိဘူး။ သူတို့ဟာ အခြားသော ၁၈ ရာစုနှစ် ခေတ်လူများလိုပဲ ဆင်ခြင်တုံတရားပလ္လင်ကို ကိုး ကွယ်သူတွေ ဖြစ်ပါတယ်။ ဒါပေမယ့် သူတို့ဟာ စိတ်ကူးယဉ်သူတွေ ဖြစ်တဲ့ အတွက် ကဗျာလင်္ကာကို ရှုးမူးခုံမင်သူတွေ ဖြစ်တယ်။

ဒါကိုထောက်လျှင် စတင်ဒယ်ဟာ တော်တော် အကဲခတ်ရခက်တဲ့ သူ ဖြစ်တယ်ဆိုတာကို သိသာနိုင်တယ်။ သူ့အယူအဆဟာ သမ္မတနိုင်ငံ ဘက်တော်သား အယူအဆဖြစ်ပေမယ့် သူ့အမြင်ကတော့ နည်းနည်း မင်းစိုး ရာဇာလူတန်းစား ဆန်တယ်။ ကြောက်ဖွယ် ခေတ်ဆိုးကာလကြီးတုန်းက သူတို့မိသားစုဟာ ပါရီမြို့မှာ ဖြစ်ပျက်ခဲ့တာတွေကို မြင်ပြီး ထိတ်လန့်တုန်လှုပ် ခဲ့ကြရတယ်။ လူမမယ်လေးသာဖြစ်တဲ့ စတင်ဒယ်ကတော့ ဒါတွေကိုမြင်ပြီး တိတ်တဆိတ် ကျေနပ်အားရဖြစ်ခဲ့တယ်။ အဲဒီတုန်းက ဖြစ်ခဲ့တဲ့ အဖြစ်အပျက် တွေဟာ 'လူလေလူလွင့်' တွေကို လက်စားချေတဲ့ ပွဲကြီးလို့ သူ ယူဆတာကိုး။ ကလေးဘဝတုန်းက ရက်စက်ကြမ်းကြုတ်တဲ့ တိုက်ပွဲကြီးတွေကို တွေ့ကြုံဖြတ် သန်းခဲ့ရတာ ဖြစ်လေတော့ ခွန်အားနဲ့အကြမ်းဖက်မှုတို့ဟာ အခြေခံအားဖြင့် လိုအပ်တဲ့အရာတွေဖြစ်တယ်လို့ သူ့စိတ်ထဲမှာ စွဲစွဲမြဲမြဲ ယုံကြည်သွားခဲ့ပါ တယ်။

သူ့မှာ ဆန္ဒတစ်ခုတည်းပဲ ရှိပါတယ်။ အဲဒါကတော့ သူ့ မွေးရာ ဇာတိဖြစ်တဲ့ ဂရင်နိုဘယ်မြို့ကလေးက ထွက်ခွာပြီး လူ့အဖွဲ့အစည်းသစ် ထဲမှာ လူရာဝင်ချင်တဲ့ ဆန္ဒ။ အဲဒီမှာ 'လူကုံထံ' တစ်ဦးဖြစ်ချင်တဲ့ ဆန္ဒပဲ ဖြစ်ပါတယ်။

*   *   *

# ဝတ္ထုရေးဆရာနဲ့ သူ့ဒဿန

စတင်ဒယ်ဟာ အသက်ငယ်ငယ်နဲ့ မင်းနေပြည်ဖြစ်တဲ့ ပါရီရွှေမြို့တော်ကို ရောက်သွားပါတယ်။ ရွှေမြို့တော်ကို ရောက်တော့ တွေ့ရတဲ့ ရှုခင်းမြင်ကွင်းတွေကြောင့် သူ တအံ့တဩဖြစ်ရတယ်။ ပါရီမှာ သူနဲ့ ဆွေနီးမျိုးစပ်တော်တဲ့ ဒါရုဆိုတဲ့ လူတစ်ယောက်ရှိတယ်။ ဒါရုက မင်းပါးစိုးခွင် ဝင်ဆန့်တယ်။ အဲဒီတုန်းက 'ကွန်ဆူလိတ်' လို့ခေါ်တဲ့ အာဏာသိမ်းဝန်ကြီးအဖွဲ့နဲ့ နီးစပ်တယ်။ နောက်တော့ ဧကရာဇ် နပိုလီယန်ဆီကိုလည်း ဝင်ထွက် ခစားနိုင်သူဖြစ်တယ်။ ဒါရုက သူ့ကို ပါရီရွှေမြို့တော်က အထက်တန်းစား ဧည့်ခန်းဆောင်တွေကို ခေါ်သွားတယ်။ အဲဒီ မင်းစိုးရာဇာ ဧည့်ခန်းဆောင်တွေမှာ အမျိုးကောင်းသားသမီးတွေ၊ လူကုံထံတွေ၊ အထက်တန်းစားမိန်းမပျိုတွေကို တွေ့ရတယ်။ သူတို့ဟာ စာပေအကြောင်း၊ ဂီတအကြောင်းကို ပြောနိုင်ကြတယ်။ စတင်ဒယ်ရဲ့ဘဝမှာတော့ ဒီလို အထက်တန်းစားတွေကို ပထမဆုံးအကြိမ် တွေ့ဖူးတာပါပဲ။

စတင်ဒယ်ဟာ သူရောက်နေတဲ့ ပတ်ဝန်းကျင်ကို ကြည့်ပြီး တအံ့တဩဖြစ်နေတယ်။ အဲဒီ မင်းစိုးရာဇာ အထက်တန်းစားမိန်းမပျိုတွေရဲ့ အချစ်ကို သူ လိုချင်တယ်။ သူတို့ကို ချစ်ချင်တယ်။ ဒါပေမယ့် ခက်တာက သူ့ပါးစပ်အာစေးထည့်ထားသလို စကားတောင် တစ်လုံးမှ မပြောရဲလောက်အောင်

ကြောက်နေတယ်။ စတင်ဒယ်ဟာ မိန်းမတွေကို ချစ်တတ်သလောက် သူတို့အတွက် ဒုက္ခရောက်ခဲ့တာတွေလည်း အများကြီး တွေ့ခဲ့ရဖူးတယ်။ ပါရီကအထက်တန်းစား လောကကြီးထဲကို သူ ရောက်ခဲ့ရတဲ့အတွက် ခံစားချက်တွေပြင်းထန်သလောက် အကြောက်အရွံ့ကြီးကြတဲ့ အဖြစ်တွေကို သူ တစ်သက်မှာမမေ့နိုင်အောင် ကြုံခဲ့ရတယ်။ အနီနဲ့အနက် ဝတ္ထုကြီးဟာ အဲဒီ အတွေ့အကြုံထဲက တစ်စိတ်တစ်ပိုင်းကို ယူပြီး တည်ဆောက်ထားတာပါပဲ။

သူ တွေ့ကြုံခဲ့ရတဲ့ ပါရီဟာ လှုပ်ရှားမှုတွေနဲ့ ပြည့်နေတဲ့နေရာ၊ တွေ့ကြုံဆုံကွဲ စတဲ့ ဘဝအဖြစ်အပျက်တွေနဲ့ ပြည့်နေတဲ့ နေရာဖြစ်ပါတယ်။ သူ တွေ့ခဲ့ရတဲ့ ပါရီဟာ နပိုလီယန် ဘိုနာပတ်ရဲ့ စောစောပိုင်း အောင်မြင်ကျော်ကြားမှုတွေကို လက်ခုပ်ဩဘာပေးပြီး ကိုးကွယ်နေကြတဲ့နေရာ ဖြစ်ပါတယ်။ သဘာဝကျစွာပဲ လူငယ်တွေဟာလည်း နပိုလီယန် ဘိုနာပတ်ကို ကိုးကွယ်နေကြတဲ့အချိန် ဖြစ်ပါတယ်။ လူရွယ် လူငယ်ကလေးတစ်ယောက် ဖြစ်တဲ့ စတင်ဒယ်ဟာလည်း နပိုလီယန်ကို ကိုးကွယ်ဆည်းကပ်မိတော့တာပေါ့။

နောက်တော့ စတင်ဒယ်ဟာ နပိုလီယန် ဘိုနာပတ်သွားရာကို နောက်တော်ပါး အမြဲလိုလိုပါခဲ့တယ်။ ဆယ့်ငါးနှစ်လုံးလုံးပါပဲ၊ ဂျာမနီ၊ ဩစထရီးယား၊ ရုရှား စတဲ့ တိုင်းပြည်တွေကို ပြင်သစ်တပ်မတော်ကြီးနဲ့ အတူ သူရောက်ခဲ့ပါတယ်။ ဒီနောက်မှာတော့ နပိုလီယန် ဘိုနာပတ်ရဲ့ နိုင်ငံတော်ကြီးဟာ ရုတ်တရက် ပြိုလဲသွားခဲ့ပါတယ်။ အဲဒီတော့ စတင်ဒယ်ဟာ အသက်ဘယ်လောက်ရှိဦးမှာလဲ။ သုံးဆယ့်နှစ်နှစ်ပဲ ရှိသေးတယ်။ သူဟာ နပိုလီယန်အစိုးရထံမှ ရတဲ့ ပင်စင်စား အရာရှိကလေးတစ်ဦးအဖြစ် ယောင်လည်လည်ဖြစ်ကျန်ရစ်ခဲ့တယ်။ နောက်တက်လာတဲ့ ဘာဘွန်းမင်းဆက် ပြန်လည်စိုးမိုးရေးခေတ်မှာ သူဟာ အစိုးရအမှုထမ်း မဖြစ်နိုင်တော့ဘူးပေါ့။ အဲဒီအချိန်ကစပြီး သူ့ဘဝမှာ ခက်ခဲပြီး မည်းမှောင်တဲ့အခန်းကဏ္ဍဟာ အစပြုတော့တာပါပဲ။

ဘာဘွန်းမင်းဆက် ပြန်လည်စိုးမိုးရေးခေတ်ဟာ စိတ်ကူးယဉ်စရာကောင်းတာတော့ မှန်ပါရဲ့။ ဒါပေမယ့် အဲဒီခေတ်ဟာလည်း မည်းမှောင်ပြီး စိတ်ဆင်းရဲစရာ ကောင်းပါတယ်။ ပြင်သစ်ပြည်ကို ပြန်ရောက်လာတဲ့ ဘာဘွန်းမင်းဆက်များဟာ ထီးနန်းအာဏာကို သိမ်းပိုက်မိကြပေမယ့် ဘိုနာပတ်နောက်လိုက်တွေ သမ္မတနိုင်ငံ ဂိုဏ်းသားတွေရဲ့ ရန်ကို ကြောက်ပြီး အထိတ်ထိတ် အလန့်လန့် နေကြရတယ်။ စတင်ဒယ်ဟာ သူကိုယ်ပိုင် မှတ်တမ်းတွေအဖြစ် သူရေးချင်တာတွေကို ရေးပစ်ခဲ့ပါတယ်။

ပါရီမြို့တော်ကြီးဟာ သူ့အဖို့ သာယာရွှေပြည်ကြီး မဟုတ်တော့ဘူးလေ။ သူ နေချင်တဲ့နေရာ မဟုတ်တော့ဘူးလေ။ စတင်ဒယ်ဟာ သူ အင်

မတန် ချစ်မြတ်နိုးတဲ့ အီတလီပြည်ကို ပြန်လာပြီး မီလန်မြို့မှာ ဆင်းဆင်းရဲရဲ နေရင်း စာအုပ်တွေ ရေးခဲ့ပေမယ့် အောင်မြင်မှု မရခဲ့ပါဘူး။ သူ့စိတ်ထဲမှာတော့ သူ့ခေါင်းဆောင် သူရဲကောင်း နပိုလီယန်ကိုပဲ အမြဲလိုလို သတိရနေတယ်။

ဒီလိုနဲ့ မီလန်မြို့မှာ နှစ်ရှည်လများ နေထိုင်ရင်း စတင်ဒယ်ရဲ့ စရိုက်ဟာ တဖြည်းဖြည်း ပီပြင်ဖွံ့ဖြိုးလာခဲ့ပါတယ်။

ဒါဖြင့်ရင် 'အနီနဲ့အနက်' ဆိုတဲ့ ဝတ္ထုမျိုးကြီးတွေကို ရေးနိုင်တဲ့ စတင်ဒယ်ရဲ့ စရိုက်ဟာ ဘယ်လိုရှိသလဲ။ စတင်ဒယ်ဟာ ဘယ်လိုလူစားမျိုး လဲ။

စတင်ဒယ်ရဲ့ စရိုက်မှာ အထူးခြားဆုံး၊ အထင်ရှားဆုံးကတော့ စိတ် သဘောထားကြီးမြင့်မှုပါပဲ။

စတင်ဒယ်မှာ ဘဝမြင့်တာမျိုး မရှိဘူး။ ပကာသန မမက်ဘူး။ သူ တွေ့ကြုံခဲ့တဲ့ ရက်စရာကောင်းတဲ့၊ စိတ်မချမ်းမြေ့ဖွယ်ကောင်းတဲ့၊ မနှစ်မြို့ စရာကောင်းတဲ့ အကြောင်းတွေကို အလေးအနက် ပွင့်ပွင့်လင်းလင်း ပြောရာမှာ ဖြင့် စတင်ဒယ်ကို လိုက်လို့မီတဲ့သူ ရှိမယ်တောင် မထင်ပါဘူး။ လူတစ် ယောက်ရဲ့ တစ်သက်တာမှာ ရေးတဲ့ အပွင့်လင်းဆုံး၊ အရိုးသားဆုံး မှတ်တမ်း တွေအနက် သူ့ နေ့စဉ်မှတ်တမ်းဟာ တစ်ခု အပါအဝင်ဖြစ်ပါတယ်။ သူစာရေး ဆရာ ဖြစ်တာကိုလည်း ဘဝမြင့်ခြင်း၊ ဂုဏ်ယူခြင်း မရှိပါဘူး။ သူဟာ သူ့ စာအုပ်တွေကို ကစားစရာတွေလို သဘောထားပါတယ်။ စာအုပ်တစ်အုပ် ပုံနှိပ် ထုတ်ဝေပြီးလို့ ဝေဖန်ရေးဆရာတွေက ဝိုင်းဝန်းဝေဖန်တဲ့အခါမှာ စတင်ဒယ်ဟာ သူတို့ဝေဖန်ချက်တွေကို ဖတ်ပြီး သူ့စာအုပ်တွေကို ပြန်ပြင်ပါတယ်။ ပြန်ရေး ပါတယ်။ စာအုပ်တစ်အုပ်မှာဆိုရင် ဘောလ်ဇက်ရဲ့ ဝေဖန်ချက်ဖတ်ပြီး အကြမ်း ဖျင်း ရေးထားတာတွေကို သွားတွေ့ရပါတယ်။ ဒါ သူ့ စာဖတ်ပရိသတ်ဖတ်ဖို့ ပြန်ပြီး ပြင်ရေးထားတာတော့ မဟုတ်ပါဘူး။ သူ့ဘာသာဖတ်ဖို့ ပြန်ရေးထား တာတွေပါ။ ဂရီနိုဘယ်မြို့က ပြတိုက်မှာ စတင်ဒယ်ရဲ့ လက်ရေးစာမူတွေ ဘေး က ကွက်လပ်မှာ ရေးထားတဲ့ မှတ်ချက်တွေ၊ မှတ်စုတွေကတော့ တော်တော် ပြင်းထန်ပါတယ်။ ဥပမာ စာတစ် ပုဒ်မှာဆိုလို့ရှိရင် 'ဤအကြောင်းအရာမှာ လုံးဝအဓိပ္ပါယ်မရှိသော အကြောင်းအရာဖြစ်သည်။ သို့ရာတွင် ထိုအတိုင်းပင် ထားလိုက်တော့မည်။ ပရိသတ်ကမူ သဘောကျနေလိမ့်မည်' လို့ ရေးထားပါ တယ်။

အချစ်နဲ့ပတ်သက်ရင်လည်း စတင်ဒယ်ဟာ တော်တော် ပွင့်လင်းပါ တယ်။ သူချစ်ခဲ့မိတဲ့ မိန်းမအားလုံးလောက်ဟာ သူ့ကို ပြန်မချစ်ကြပါဘူး ဆိုတာကို ပွင့်ပွင့်လင်းလင်းပဲ ဝန်ခံခဲ့ပါတယ်။ သူဟာ အဲဒီမိန်းမတွေကို အချိန်

ကုန်ခံပြီး ဘယ်လောက် ပိုးပန်းခဲ့ရကြောင်း၊ ဒါပေမယ့် မစွံခဲ့တဲ့အကြောင်း၊ အဲဒီအထဲက သူ့ကိုပြန်ပြီး ချစ်ခဲ့တဲ့ မိန်းမပျိုတစ်ချို့ ရှိခဲ့ပေမယ့် သူတို့ကိုတော့ သူ တကယ်ချစ်ခဲ့တာမဟုတ်ကြောင်း၊ သူ့ကို မချစ်တဲ့ မိန်းမများကိုသာ သူ ချစ်ခဲ့တဲ့အကြောင်း စသဖြင့် ပွင့်ပွင့်လင်းလင်းပဲ ရေးခဲ့ပါတယ်။

စတင်ဒယ်ဟာ ရုပ်ရည်မှန်းချက်ကြီးသူ တစ်ယောက်လည်း မဟုတ်ပါဘူး။ သူ့မှာ နပိုလီယန်ဘိုနာပတ်ကို ထောက်ခံခဲ့လို့ ကြီးကြီးကျယ်ကျယ် ချီးမြှင့်မြှောက်စား ခံရတာလို့လည်း မရှိပါဘူး။ အမြင့်ဆုံး ခံစားရတဲ့ ချီးမြှင့်မှုဟာ စီဗီတာဗက်ချီးယားမှာ ပြင်သစ်ကောင်စစ်ဝန်အဖြစ် လုပ်ရတဲ့ ဒုတိယ တန်းစား ရာထူးကလေးတစ်ခုလောက်သာ ဖြစ်ပါတယ်။ သူကလည်း ဒီလောက်ကလေးရတာကိုပဲ ကျေနပ်ပါတယ်။ ဒီထက်ပိုပြီး ကြီးကြီးကျယ်ကျယ် မလိုချင်ပါဘူး။ 'အဆွေ စာဖတ်သူ၊ ကိုယ့်ဘဝကို မုန်းတီးခြင်း၊ ကြောက်ရွံ့ခြင်း စသည်တို့ဖြင့် မကုန်ဆုံးပါစေနှင့်' လို့ သူက ရေးခဲ့ဖူးပါတယ်။ ပြီးတော့ 'ဘဝဆိုသည်မှာ တိုတိုကလေးသာ ဖြစ်ပါတယ်။ ထိုဘဝ တိုတိုကလေးတွင် ဘာမှမဟုတ်သည့် အနုတ်စုတ် ဂုတ်စုတ်တို့၏ ဖိနပ်ကို သွားလျက်မနေပါနှင့်' ဆိုတဲ့ စာမျိုးတွေကိုလည်း ရေးခဲ့ပါသေးတယ်၊ အတို ချုပ်ပြောရရင်တော့ စတင်ဒယ်အောင်မြင်ခဲ့တာဟာ သူ့ရဲ့ ဉာဏ်ပညာနဲ့ စိတ်သဘောထား ကြီးမြင့်မှုတို့ကြောင့်သာ ဖြစ်ပါတယ်။ သာမန်လူတွေကို နှိပ်စက်ကလူပြုနေတဲ့ စိတ်တွေကို အောင်နိုင်ခဲ့တဲ့ စိတ်သဘောထားကြီးမြင့် မှုတို့ကြောင့်သာ ဖြစ်ပါတယ်။

စတင်ဒယ်ရဲ့ အတွေးအခေါ်တွေကကော။ ဘာတွေလဲ . . .။

စတင်ဒယ်ဟာ ဆယ့်ရှစ်ရာစုနှစ် ပြင်သစ်လူမျိုးတစ်ဦး ဖြစ်ပါတယ်။ ဒါကြောင့်မို့ သူဟာ ကျိုးကြောင်းဆင်ခြင်တုံတရားနဲ့ ယုတ္တိဗေဒကို လေးစားယုံကြည်ပါတယ်။ တွေးခေါ်ရှင် ဒဿနဆရာတစ်ယောက်ယောက် ဖြစ်ချင်ရင် ဗော်လ်တဲယားလို ရှင်းရှင်းလင်းလင်း စဉ်းစားတတ်ရမယ်။ အမြင်မှားမှုတွေမရှိဘဲ ကြည်ကြည်လင်လင် ကြည့်မြင်နိုင်ရမယ်လို့ သူက ပြောခဲ့ဖူးပါတယ်။ သူဟာ အဲဒီ ယုတ္တိဗေဒကို နပိုလီယန်ရဲ့ 'ကဗျာ'၊ အီတလီ လူမျိုးတို့ရဲ့ စနစ်တစ်ခုဖြစ်တဲ့ 'နေနည်းအနုပညာ' နဲ့ ပေါင်းစပ်ခဲ့ပါတယ်။ သူက ပြင်သစ်ဆိုတဲ့ လူမျိုးဟာ ပကာသနကြောင့်ရတဲ့ ပျော်ရွှင်မှုမျိုးကို အလွန်ကြိုက်တဲ့ လူမျိုးတဲ့။ ဒါပေမယ့် သူတို့ဟာ အီတလီပြည်သားတွေလိုတော့ ပျော်ရွှင်မှုကို မရခဲ့ကြဘူးတဲ့။ စတင်ဒယ်ဟာ ကိုယ့်ရဲ့ အာရုံခံစားမှုတွေကို အထိန်းအချုပ်မရှိ လွှတ်ပေးတဲ့ အီတလီလူမျိုးတွေကို တော်တော် သဘောကျတတ်ပါတယ်။ အထူးသဖြင့် အချစ်အတွက် အထိန်းအချုပ်မရှိ လွှတ်ပေးတဲ့ လူမျိုးတွေကို သဘောကျတတ်တယ်။ အချစ်နဲ့ပတ်သက်လို့လည်း ရေးခဲ့ပါတယ်။

အချစ်နဲ့ပတ်သက်လို့ သူက အမျိုးအစား လေးမျိုးခွဲပြပါတယ်။ တစ်မျိုးကတော့ အာရုံ ရမ္မက်ပြင်းထန်တဲ့ အချစ်မျိုးပါ။ သူက အာရုံရမ္မက်ပြင်းထန်တဲ့ ချစ်သူဟာ သူချစ်တဲ့အရာတစ်ခုကိုပဲ ဦးစားပေးတယ်။ သူ့အဖို့ အချစ်မှလွဲလို့ ကျန်အရာအားလုံးဟာ ဘာမျှ အဓိပ္ပါယ်မရှိတဲ့အရာလို့ ယူဆတယ်။ ဂုဏ်တို့၊ ပကာသနတို့ဟာလည်း အချစ်မှာ အရေးမကြီးဘူးလို့ ယူဆတယ်။

နောက်တစ်မျိုးကတော့ ယေဘုယျအားဖြင့် အရာရာကို ချစ်တတ်တဲ့ သဘောလို့ ဆိုပါတယ်။ အဲဒီ အချစ်မျိုးမှာတော့ ချစ်တဲ့သူဟာ ကိုယ့်ချစ်သူကို သာမကဘဲ အခြားသောအရာများဖြစ်တဲ့ ပကာသနတို့၊ ငွေကြေးတို့ စတဲ့ အရာတွေကို တွယ်တာစုံမက်တဲ့ သဘောလည်းပါတယ်။ တတိယ အမျိုးအစားကတော့ ကိုယ်ခန္ဓာ အတွေ့အာရုံတွေကို တောင့်တတဲ့ အချစ်မျိုး ဖြစ်ပါတယ်။ နောက်ဆုံး အမျိုးအစားကတော့ သွေးသားဆန္ဒဖြည့်စွမ်းဖို့ သက်သက်ကို ရည်ရွယ်တဲ့အချစ်မျိုးဖြစ်ပြီး အဲဒီ အချစ်မျိုးကိုတော့ သူက အထင်သေးရှုတ်ချပါတယ်။

သူ့ရဲ့ အချစ်ဒ္ဒိကာထဲမှာ အရေးကြီးတဲ့ အယူအဆတစ်ရပ်ကတော့ 'ပုံဆောင်ခဲ အသွင်ဆောင်ခြင်း' ဆိုတဲ့ အယူအဆဖြစ်ပါတယ်။ ဒီအယူအဆ အကြောင်းကို အကျဉ်းချုပ်ပြီး ပြောပါ့မယ်။

အဲဒီအယူအဆရဲ့ သဘောကတော့ အချစ်ဆိုတာဟာ အချစ်ခံရသူ အပေါ်မှာ မတည်ဘဲ ချစ်တဲ့သူရဲ့ စိတ်ဆန္ဒစွဲအပေါ်မှာ တည်တယ်လို့ ယူဆပါတယ်။ မိန်းကလေးတစ်ယောက်ကို ချစ်တယ်ဆိုပါစို့။ အဲဒီအချစ်ဟာ အချစ်ခံရတဲ့ မိန်းကလေးကို ကိုယ့်စိတ်ထဲမှာ ပေါ်လာတဲ့အတိုင်း ချစ်တဲ့အချစ်မျိုးလို့ ဆိုပါတယ်။ ဆယ်လာဘတ် ဆားတွင်းတွေထဲကို အရုပ်ဆိုး အကျည်းတန်တဲ့ သစ်ကိုင်းခြောက်မည်းမည်းတစ်ခု ချကြည့်ပါ။ နောက်တစ်နေ့ သွားကြည့်လို့ ရှိရင် အဲဒီသစ်ကိုင်းခြောက်ဟာ မည်းမည်းခြောက်ခြောက် သစ်ကိုင်းခြောက် တစ်ခု မဟုတ်တော့ဘဲ ဆားပွင့်တွေဖုံးလို့ ပြိုးပြက်တောက်ပနေတဲ့ သစ်ကိုင်းတစ်ကိုင်း ဖြစ်နေတာကို တွေ့ရလိမ့်မယ်။

ချစ်စရာကောင်းနေတာကို တွေ့ရ လိမ့်မယ်။ ဒီလိုပဲတဲ့။ ကိုယ်ချစ်တဲ့ မိန်းကလေးတစ်ယောက်ဟာ အဲဒီသစ်ကိုင်းခြောက်နဲ့ တူတယ်တဲ့။ အဲဒီမိန်းကလေးဟာ ဘာမှအရည်အချင်းမရှိတဲ့ မိန်းကလေး၊ အဆင်းမရှိတဲ့ မိန်းကလေး တစ်ယောက် ဖြစ်ချင်ဖြစ်မယ်။ ဒါပေမယ့် ကိုယ်နဲ့ဝေးကွာမှု၊ ကိုယ့်အပေါ်မှာ ချစ်မှချစ်ပါ့မလား ဆိုတဲ့ သံသယရှိမှုတို့ကြောင့် အဲဒီ မိန်းကလေးဟာ အချစ်ဆိုတဲ့ ဖြူလွှတဲ့ပုံဆောင်ခဲတွေဖုံးပြီး လှပနေတာကို တွေ့ရလိမ့်မယ်တဲ့။ ဒါဟာ

စတင်ဒယ် ဖော်ထုတ်စပ်လိုက်တဲ့ အချစ်ပုံဆောင်ခဲ အသွင်ဆောင်ခြင်းဆိုတဲ့ အချစ်ဒဿန တစ်ခုပါပဲ။

ဒဿနသဘောကို နောင်မှာ ပရစ်ကလည်း လက်ခံခဲ့တယ်။ ကဗျာဆရာ အာလိန်းကလည်း လက်ခံခဲ့ပါတယ်။

'မိန်းမတို့အဖို့ ယောက်ျားတို့အပေါ်တွင် ဩဇာညောင်းအောင်လုပ်သည့် အကောင်းဆုံးနည်းမှာ ချိန်းထားသည့်အချိန်တွင် နောက်ကျ၍ရောက်လာခြင်း၊ သို့မဟုတ် ချိန်းထားသည်ကို ပျက်ကွက်ခြင်းဖြစ်သည်' လို့ အာလိန်းက ပြောခဲ့ပါတယ်။

စတင်ဒယ်ဟာ ဒီသဘောတရားကို တော်တော် သဘောကျဟန်တူပါတယ်။ ဒီနည်းအားဖြင့် သူ့အဖို့ အချစ်ဟာ ပုံဆောင်ခဲအသွင်ကို ဆောင်လာတယ်လို့ သူ ယူဆပါတယ်။

ဒါကြောင့်မို့ စတင်ဒယ်ရဲ့ အမြင်မှာ အချစ်ဟာ ဆန္ဒစွဲအပေါ်မှာ တည်တဲ့အရာ၊ ကိုယ့်စိတ်ထဲပေါ်မှ တည်တဲ့အရာရယ်လို့ ယူဆပါတယ်။ အမှန်ကတော့ ဒီအယူအဆဟာ ရူးသွပ်ခြင်းတစ်မျိုးပါပဲ။ ဘာဖြစ်လို့လဲဆိုတော့ တခြားသူတစ်ယောက်ကို အရှိကို အရှိအတိုင်း မမြင်နိုင်ဘဲ တိမ်သလ္လာဖုံးပြီး မြင်နေတာကိုး။ ဒါပေမယ့် စတင်ဒယ်ကတော့ ဒီလိုအချစ်မျိုးဟာ ရူးသွပ်ခြင်းတစ်မျိုးဖြစ်တယ်ဆိုရင် အဲဒီ ရူးသွပ်ခြင်းဟာလည်း ကြည်နူးစရာကောင်းတဲ့ ရူးသွပ်ခြင်းတစ်မျိုး ဖြစ်တဲ့အတွက် ဘဝကို နေပျော်အောင် လုပ်ပေးတဲ့အရာဖြစ်တယ်လို့ ယူဆပါတယ်။

စတင်ဒယ်ဟာ အဲဒီ အချစ်ဒဿနအပေါ်မှာ မူတည်ပြီး သူ့ ဇာတ်ကောင်တွေကို ရေးခြယ်ပြခဲ့ပါတယ်။ ဒီနေရာမှာ စတင်ဒယ်ဟာ ကျွန်တော်တို့ ကျေးလက်တွေမှာ သေတ္တာကလေးကို ထမ်းပြီးပြနေတဲ့ ရုပ်သေးဆရာနဲ့ တော်တော်တူပါတယ်။ ရုပ်သေးဆရာဟာ သူ့သေတ္တာထဲမှာ အရုပ်ကလေးတွေ အကုန်ထည့်လာပါတယ်။ ရုပ်သေးဆရာရဲ့ သေတ္တာထဲမှာ ဘုရင်ရုပ်၊ မိဖုရားရုပ်၊ လူကြမ်းရုပ်၊ ဂုံးရုပ်၊ မင်းသားရုပ်၊ မင်းသမီးရုပ် စသဖြင့် အကုန်ပါပြီး အဲဒီအရုပ်တွေကို တစ်ရုပ်ပြီးတစ်ရုပ် ထုတ်ပြတော့တာပါပဲ။ စတင်ဒယ်ဟာ အဲဒီ ရုပ်သေးဆရာနဲ့ တော်တော်တူပါတယ်။

ဒါဖြင့် သူ့ရုပ်သေးရုပ်တွေက ဘယ်လိုအရုပ်မျိုးတွေပါလဲ . . .။

* * *

# စာရေးဆရာရဲ့ ဒဿနနဲ့ သူ့ဇာတ်ဆောင်များ

စတင်ဒယ်ရဲ့ ဇာတ်ရုပ်တွေဟာ ဘယ်လိုအရုပ်မျိုးတွေလဲ။ (သူ့ဝတ္ထု တွေထဲက ဇာတ်ဆောင်စရိုက်တွေဟာ ဘယ်လို ဇာတ်ဆောင်တွေလဲ။)

ပထမအမျိုးအစားကတော့ သူ့လောကမှာ သူကိုယ်တိုင်ဖြစ်ချင်တဲ့ လူတွေရဲ့ ပုံသဏ္ဌာန်တွေပါပဲ။

သူ့ဇာတ်လိုက်ဟာ ငယ်ရမယ်။ ချောရမယ်။ တစ်ဖက်သားမြင်ရင် ချစ်ချစ်စရာဖြစ်ရမယ်။ ဒါပေမယ့် ရှက်တတ် ကြောက်တတ်တယ်။ သူကိုယ် တိုင်ကလည်း ဒီလိုချစ်တတ်ပြီး ရှက်တတ်ကြောက်တတ်တာကိုး။

ကိုယ်ချစ်တဲ့သူရဲ့ အလှ၊ ကိုယ်ချစ်တဲ့သူရဲ့ အရှိန်အဝါကို ထင်ထင် ရှားရှား သိမြင်လာရလေလေ၊ ကျွန်တော်တို့ဟာလည်း ရှက်သလိုလို ကြောက် သလိုလို ဖြစ်လာလေလေပဲ' လို့ စတင်ဒယ်က ပြောခဲ့ဖူးတယ်။

ဒါပေမယ့် စတင်ဒယ်ရဲ့ ဇာတ်လိုက်ဟာ ချစ်မိပြီဆိုတာနဲ့ သတ္တိ ကောင်းလာတယ်။ ပြတ်သားလာတယ်။ ဒီနည်းအားဖြင့် သူ့ဇာတ်လိုက်ဟာ အတားအဆီးတွေကို ကျော်လွှားလာနိုင်တယ်။ စတင်ဒယ်ဟာ သူ့ဇတ်လိုက် ကို အခြေအနေအမျိုးမျိုးမှာ၊ နောက်ခံပတ်ဝန်းကျင်အမျိုးမျိုးမှာ လှုပ်ရှား ကပြ ခိုင်းရတာကို သဘောကျတယ်။ ဥပမာအားဖြင့် 'အနီနဲ့အနက်' မှာ သူ့ဇာတ် လိုက်ဟာ ကျမ်းစာသင်ကျောင်းဆရာ။ တစ်နည်းပြောရလျှင် လူထု ချစ်ခင်

လေးစားတဲ့လူ။ 'လူစွန်း' ဝတ္ထုမှာ သူ့ဇာတ်လိုက်ဟာ သူ့အဖေက သူ့ကို ဖြစ်စေချင်တဲ့လူမျိုး။ ဘဏ်တိုက်လုပ်ငန်းရှင်။ 'ရှားထရ' ဝတ္ထုမှာတော့ သူသာ အီတလီမင်းသားတစ်ပါးအဖြစ် မွေးဖွားခဲ့လျှင် ဘယ်လို မင်းသားမျိုးဖြစ်အောင် လုပ်မယ်ဆိုတဲ့ သူ့စိတ်ကူးထဲက ဇာတ်ဆောင်မျိုး။ ဒါကြောင့် စတင်ဒယ်ရဲ့ ဝတ္ထုများဟာ သူစိတ်ပျော်အောင် အပျင်းပြေကစားတဲ့ ကစားနည်းမျိုးတွေနဲ့ တူနေတယ်။ အဲဒီ ဝတ္ထုတွေထဲမှာ သူ့စိတ်ကူးထားတဲ့ စတင်ဒယ်ဟာ ဇာတ်လိုက်ချည်းပဲ။

ဒုတိယ အမျိုးအစားဖြစ်တဲ့ ဇာတ်ရုပ်တွေကတော့ စတင်ဒယ် ချစ်ချင်တဲ့ မိန်းမတွေရဲ့ ပုံသဏ္ဍာန်ပဲ။

စတင်ဒယ်ချစ်ချင်တဲ့ မိန်းမမျိုးက စိတ်ကူးယဉ်ဆန်လွန်းပြီး လောကမှာ တကယ်မရှိနိုင်တဲ့ မိန်းမမျိုး။ အဲဒီ မိန်းမဟာ ရုပ်ရည် ရူပကာရအားဖြင့်လည်း လုံးဝခြောက်ပြစ်ကင်းရမယ်။ အချင်းအားဖြင့် လုံးဝ သန့်စင်ရမယ်။ မြင့်မြတ်တဲ့ စိတ်ထားသာလျှင် တကယ် ချစ်အပ်တဲ့အရာဖြစ်တယ်လို့ သူက ပြောခဲ့တယ်။ 'အနီနဲ့အနက်' ထဲက မဒမ်ရီနယ်လို မိန်းမမျိုး။ 'ရှားထရ' ဝတ္ထုထဲက ဆယ်လီလီယာလို မိန်းမမျိုးတွေဆိုပါတော့။

စတင်ဒယ်ရဲ့ တတိယဇာတ်ရုပ် အမျိုးအစားကတော့ သူသာ မိန်းမဖြစ်ခဲ့လျှင် သူဖြစ်ချင်တဲ့ မိန်းမတွေရဲ့ ပုံသဏ္ဍာန်ပါ။ အဲဒီမိန်းမမျိုးဟာ 'အနီနဲ့အနက်' ထဲက မာသီဒါလို မိန်းမမျိုးပါပဲ။ အဲဒီ မိန်းမဟာ သူ့လိုပဲ ဂန္ထဝင်ပြန်လည် ဆန်းသစ်ရေးခေတ်က အားမာန်မျိုး၊ ခွန်အားမျိုးရှိရမယ်။ စိတ်ဓာတ်ခိုင်မာရမယ်။ ဒါပေမယ့် သူကိုယ်တိုင်ကတော့ စိတ်ဓာတ်ပျော့ညံ့တဲ့ မိန်းမတွေ၊ အလွမ်းမိုးခံတဲ့ မိန်းမတွေကိုသာ ချစ်တတ်တာပါ။ 'လာမီးယေး' ဆိုတဲ့ ဝတ္ထုထဲမှာ သူ့ကိုယ်သူ မိန်းမတစ်ယောက်အဖြစ် ပြောင်းကြည့်လို့ရလျှင် ဘယ်လောက်များ ပျော်စရာကောင်းမလဲလို့ သူက ရေးခဲ့ပါတယ်။ စာရေးဆရာကြီး ဖလောဘေးကို တစ်ခါတုန်းက 'မဒမ်ဗိုဝါရီဆိုတာ ဘယ်သူလဲ' လို့ မေးတော့ ဖလောဘေးက 'အဲဒါ ကျုပ်ပေါ့' လို့ ပြန်ပြောဖူးတာကို ကြားဖူးပါလိမ့်မယ်။ ခုလည်း 'လာမီယေးဆိုတာ ဘယ်သူလဲ' လို့ မေးလျှင် 'အဲဒါ ကျွန်တော်ပဲ' လို့ စတင်ဒယ်က ဖြေလိမ့်မယ်ထင်တယ်။

စတုတ္ထဇာတ်ရုပ်ကတော့ နှစ်ခွ လက္ခဏာဆောင်တဲ့ ဇာတ်ရုပ်မျိုး ဖြစ်ပါတယ်။ စတင်ဒယ်ဟာ သူ့ဝတ္ထုတွေထဲမှာ ခွန်အားကောင်းပြီး စိတ်ကောင်းရှိတဲ့ ဇာတ်ဆောင်များကို ထည့်ရေးလေ့ရှိပါတယ်။ မျက်လှည့်ဆရာဟာ သူ့ရဲ့ ပဉ္စလက်ကြိမ်လုံးနဲ့ လူတွေကို အသစ်ဖြစ်သွားအောင် ဖန်ဆင်းသလို စတင်ဒယ်ဟာလည်း သူ့ဝတ္ထုထဲတွေမှာ လူတစ်ယောက်ကို ချမ်းသာ

သွားပြီး ဂုဏ်သရေ တိုးတက်သွားတဲ့ လိုတရတဲ့ လူတစ်ယောက်ကို ထည့်သွင်း ဖန်တီးရေးလေ့ရှိပါတယ်။ အဲဒီလိုလူဟာ 'အနီနဲ့အနက်' ဝတ္ထုမှာ ဒီလာမိုး ဆိုတဲ့လူ ဖြစ်ပါတယ်။ သူဟာန် ဂျူလီယန်ဆိုတဲ့လူကို အတွင်းရေးမှူးခန့်ပြီး သူ့ကို အလျင်အမြန် ကြီးပွားလမ်းကို ရောက်အောင် ပို့ခဲ့ပါတယ်။ ဒါဟာ တကယ်ကတော့ သူလိုချင်တဲ့အရာပါ။ 'လူစန်း' ဝတ္ထုမှာတော့ အဲဒီ လူဟာ ဘဏ်သူဌေးကြီး လျူဝင်ဖြစ်ပြီး 'ရှားထရ' ဝတ္ထုမှာတော့ အဲဒီလူဟာ မြို့ စားကြီး မော်စကာဖြစ်ပါတယ်။

အဲဒီလို အားကောင်းပြီး စိတ်ကောင်းရှိတဲ့ စရိုက်ကို တစ်ဘက်က ပြပြီး အခြားတစ်ဘက်က မိမိရဲ့ စိတ်ကောင်းသဘောထားကို လှောင်ပြောင် သရော်မှုအောက်မှာ ဖုံးကွယ်ထားတတ်တဲ့ သူတစ်ယောက်ရဲ့ စရိုက်ကိုလည်း ရေးပြထားတတ်ပါသေးတယ်။ သူဟာ အကောင်းကို ဆန့်ကျင်ဘက်ပြုနေတဲ့ စရိုက်တစ်ခုဖြစ်ပြီး ဇာတ်လိုက်ကို သူလိုချင်တဲ့အရာတွေ မရအောင် နှောင့် ယှက်ဖျက်ဆီးတတ်သူဖြစ်ပါတယ်။

ဒါကြောင့်မို့ စတင်ဒယ်ရဲ့ ဝတ္ထုတွေရဲ့ ပုံစံဟာ နှိုင်းယှဉ်ချက်အားဖြင့် ကြည့်လျှင် အမြဲလိုလို ရိုးစင်းနေတတ်ပါတယ်။ ဒီလိုပြောတဲ့အတွက် သူ့ဝတ္ထု တွေဟာ ဝတ္ထုကောင်းကြီးအဖြစ်က ရွေ့လျော့မသွားပါဘူး။ အခြေခံ ပုံသဏ္ဌာန် ဟာ နည်းနည်းပါးပါး ပြောင်းလဲသွားတယ်ဆိုတဲ့ သဘောကို ပြောတာပါ။ သူ့ဝတ္ထုဟာ အမြဲလိုလို လူ့လောကထဲကို တိုးဝင်နေတဲ့ လူငယ်တစ်ယောက်ရဲ့ အတွေ့အကြုံတွေ၊ ကလေးဘဝက တွေ့ခဲ့ရတဲ့ နတ်သမီးပုံပြင်ထဲက ကမ္ဘာ လောကနဲ့ တကယ့်ပြင်ပ ကမ္ဘာလောကကြီးရဲ့ ဆန့်ကျင် တခြားစီဖြစ်နေပုံတွေ ကို ရေးလေ့ရှိပါတယ်။ စတင်ဒယ်ရဲ့ ဇာတ်လိုက်ဟာ ရက်ရောသဘောထားကြီး တဲ့ လူငယ်ကလေးတစ်ယောက်ဖြစ်မယ်။ အဲဒီ လူငယ်ကလေးဟာ စရိုက်ချင်း မတူ ကွဲပြားခြားနားနေတဲ့ မိန်းမနှစ်ယောက်နဲ့ တွေ့မယ်။ အဲဒီနှစ်ယောက်ကြား မှာ ဗျာများနေမယ်။ ပြီးတော့ သူ့ကို ကာကွယ်ပေးတဲ့ မိတ်ဆွေတစ်ယောက် ပါမယ်။ နောက်တော့ ရန်သူအဖြစ် လူကြမ်း တစ်ယောက်ပါမယ်။ ဒါတွေဟာ စတင်ဒယ် ဝတ္ထုတွေမှာ အမြဲတွေ့ရတတ်တဲ့ ပုံသဏ္ဌာန်ဖြစ်ပါတယ်။

ဒါဟာ အထက်မှာ ကျွန်တော်ပြောတဲ့ ဘဝဒဿနတွေကို ကိုင်စွဲ ထားတဲ့ စတင်ဒယ်ရဲ့ ရုပ်ပုံလွှာဖြစ်ပါတယ်။ အဲဒီ စတင်ဒယ်ဟာ ၁၈၂၇ ခုနှစ်မှာ စောစောက ပြောခဲ့တဲ့ အင်တွိုင်းဘားသက်ရဲ့ လူသတ်မှုကို သတင်းစာတွေ ထဲမှာ သွားဖတ်မိပါတယ်။ သူဟာ အကြောင်းနှစ်ခုကြောင့် အဲဒီအဖြစ်အပျက် ကို တော်တော်စိတ်ဝင်စားသွားတယ်။ တစ်ကြောင်းကတော့ အမှုဟာ လူ့ လောကထဲကိုဝင်ကာစ လူငယ်တစ်ယောက်ရဲ့ အမှုဖြစ်လို့လဲ၊ နောက်တစ်

ကြောင်းကတော့ အဲဒီ အဖြစ်အပျက်ထဲက လူငယ်ဟာ သူ သဘောကျတဲ့ လူငယ်မျိုးဖြစ်နေလို့ပါပဲ။

စတင်ဒယ်ဟာ စွမ်းအားကို သဘောကျတတ်သူ ဖြစ်ပါတယ်။ အမှု ဖြစ်တဲ့ ဘားသက်တို့လို ငယ်ရွယ်တဲ့၊ ဆင်းရဲတဲ့၊ ပညာတတ်တဲ့၊ ပျော်စရာ မရှိတဲ့၊ ရည်မှန်းချက်ကြီးတဲ့ လူငယ်တွေရဲ့ အရည်အချင်းတွေထဲမှာ အဲဒီစွမ်း အားရှိတဲ့ အရည်အချင်းဟာ အရေးအကြီးဆုံးလို့လည်း သူ ယူဆပါတယ်။ နပိုလီယန်ဘိုနာပတ်ဟာ ပညာတတ်တယ်။ ဆင်းရဲတယ်။ ရည်မှန်းချက်ကြီး တယ်။ သမိုင်းမှာ ပုဂ္ဂိုလ်ကျော်တွေ ဖြစ်လာသူတွေဟာ အဲဒီလူမျိုးတွေ ဖြစ် တတ်ပါတယ်။ ဒါကြောင့်မို့ စတင်ဒယ်ဟာ အင်တွိုင်းဘားသက်ရဲ့ အဖြစ် အပျက်ကို စိတ်ဝင်စားသွားတာ ဖြစ်ပါတယ်။

၁၈၂၇ ခုနှစ်တုန်းက ဘားသက်ဟာ စတင်ဒယ်ရဲ့ အကြောင်းအရာ တွေထဲမှာ တစ်ခု အပါအဝင် ဖြစ်ခဲ့ပါတယ်။ စာအုပ်ဟာ နောက် အတန်ကြာ တော့မှ ရေးဖြစ်တာပါ။ စတင်ဒယ်ဟာ အဲဒီဝတ္ထုကို ၁၈၂၉ ခုနှစ်အထိ မရေး ဖြစ်သေးပါဘူး။ ၁၈၃၀ ပြည့်နှစ် တော်လှန်ရေးကြီးဖြစ်တော့မှ သူ အေးအေး ဆေးဆေး ရေးဖြစ်ပါတော့တယ်။ ၁၈၃၁ ခုနှစ်မှာ စာအုပ်အဖြစ် ပေါ်ထွက်လာ ခဲ့ပါတယ်။

စတင်ဒယ်ဟာ ကျမ်းစာသင်ဆရာရဲ့ ဇာတ်လမ်းကို ဘယ်လို ကိုင် တွယ်သလဲ။ ဘားသက်ဟာ သူကိုယ်တိုင် ဖြစ်လာပါတယ်။ ဘားသက်ရဲ့ ပထမအသက်ဖြစ်တဲ့ မဒမ်မီရှော့ကို မဒမ်ရီနယ်အဖြစ် ပြောင်းယူလိုက်ပါတယ်။ မဒမ်ရီနယ်ဟာ မဒမ်မီရှော့လောက်တော့ ခပ်ကြမ်းကြမ်းမဟုတ်ပါဘူး။ ပိုပြီး ခပ်နုနုဖွဲ့ထားပါတယ်။ မတ်ရွိုင်ဇယ် ဒီလာမီးကတော့ မတ်ရွိုင်ဇယ်ဒီကော်လွန် ကို ယူထားခြင်းဖြစ်ပါတယ်။ အဲဒီထဲက ရဟန်းတု ရေလီနီကတော့ အပြင်မှာ သူတကယ်တွေ့ခဲ့ရတဲ့ ရဟန်းတု ကာစတာနီဒီ ဖြစ်ပါတယ်။

* * *

# ဇာတ်ဆောင်နှင့် ဇာတ်လမ်း

'အနီနဲ့အနက်' ဝတ္ထုမှာ စတင်ဒယ် လုပ်တဲ့အလုပ်ကတော့သတင်းစာထဲမှာ သူဖတ်လိုက်ရတဲ့ တကယ့်အဖြစ်အပျက်ကိုယူပြီးတော့ အဲဒီ ဇာတ်ကြောင်းထဲကို သူ့မှာရှိတဲ့ ရုပ်သေးသေတ္တာထဲက ရုပ်သေးရုပ်တွေကို သူ့နေရာနဲ့သူ ကောက်ထည့်သွားတာပါပဲ။ တကယ်လို့ သူဟာ တကယ့်အဖြစ်အပျက်ကို မှန်ကန်စွာ ဖော်ပြချင်တယ်ဆိုလို့ ရှိလျှင်၊ သစ္စာရှိတယ် ဆိုလို့ရှိလျှင် ဝတ္ထုအဆုံးမှာ သူ့ဇာတ်လိုက် ဂျူလီယန်ဆိုရဲကိုမဒမ်ရီနယ်ကို အသတ်ခိုင်းရတော့မယ်။ ဒါမှမဟုတ်လျှင်လည်း သတ်အောင် ကြံစည်အားထုတ်ခိုင်းရတော့မယ်။

ဒီနေရာမှာ တကယ့် အဖြစ်အပျက်နဲ့ ဝတ္ထုတို့ရဲ့ ထူးဆန်းတဲ့အားပြိုင်မှုကို ကျွန်တော်တို့ တွေ့လာရတယ်။ စတင်ဒယ်ရေးခြယ်ပြထားတဲ့ လူ့သဘာဝအဖွဲ့အတိုင်း ဆိုလျှင် သူ့ဇာတ်လိုက်က ဇာတ်လိုက်မင်းသမီးကို သေနတ်နဲ့ ပစ်သတ်လိုက်တာဟာ မယုံနိုင်စရာ ပြဿနာကြီးဖြစ်နေတယ်။ သူရေးပြထားတဲ့ ဂျူလီယန်ဆိုရဲက သိပ်မြင့်မြတ်၊ သိပ် စဉ်းစားဉာဏ် ထက်မြက်တဲ့သူ။ ဒီလိုလူမျိုးက မိန်းမတစ်ယောက်ကို သေနတ်နဲ့ပစ်သတ်ဖို့ဆိုတာ တော်တော်ခက်တယ်။ ပြီးတော့ သူ ရေးပြထားတဲ့အတိုင်းဆိုရင် ဇာတ်လိုက်မင်းမဒမ်

ရီနက်ကလည်း တော်တော် သနားစရာကောင်းပြီး သတ်ဖို့ စိတ်ကူးရက်စရာ မကောင်းတဲ့ မိန်းမမျိုးဖြစ်နေတယ်။ ဒါပေမယ့် စတင်ဒယ်က တကယ့်အဖြစ်အပျက်ကို လွှဲပြောင်းမပစ်ချင်ဘူး။ ဒါကြောင့် သူက အပြင်မှာ တကယ်ဖြစ်သလို ဝတ္ထုထဲမှာလည်း ဒီအတိုင်းပဲ ရေးလိုက်တယ်။

ဒီနေရာမှာ ဝေဖန်စရာ နည်းနည်းလိုလာတယ်။ ဝေဖန်ရေးဆရာတော်တော်များများက ဒီအချက်၊ ဒီလို အဆုံးသတ်ပုံကို သိပ်ဘဝင်မကျကြဘူး။ အဆုံးသတ်ပုံဟာ မြန်လွန်းတယ်။ ဒီလို အဖြစ်အပျက်မျိုးကို ပြချင်လျှင် အစောကြီးကတည်းက ပြင်ဆင်လာခဲ့ရမယ်။ အိုင်ကျင်းဖွဲ့လာခဲ့ရမယ်လို့ ပြောကြတယ်။ ဝေဖန်ရေးဆရာတစ်ယောက်ကဆိုလျှင် ဂျူလီယန်ဆိုရဲရဲ့ အပြုအမူဟာ ရက်စက်ကြမ်းကြုတ်လွန်းတယ်လို့တောင် ဝေဖန်ခဲ့သေးတယ်။ ကျွန်တော်ကတော့ သူ့ပြောတာကို သဘောမတူဘူး။ ကျွန်တော်က ကဗျာဆရာ အာလိန်းဝေဖန်သလို ဒီအပိုင်းကလေးဟာ ဝတ္ထုမှာ တော်တော်လှတဲ့အပိုင်းကလေးလို့ ဖြစ်ပါတယ်။ ဝတ္ထုရဲ့ ဒီအပိုင်းဟာ မြန်ကိုမြန်မှ ဖြစ်မယ်လို့ ကျွန်တော်ထင်တယ်။ ဒီနေရာမှာ ကြာကြာစဉ်းစားနေလျှင် ဝတ္ထုဟာ ဘာမှ အဓိပ္ပါယ်မရှိဘဲ ဖြစ်သွားမှာပဲ။ ဘာဖြစ်လို့လဲဆိုတော့ ဂျူလီယန်ဆိုရဲ အနေနဲ့ ကြည့်လျှင် ဆုံးဖြတ်ချက်ချတာနဲ့ ဒီဆုံးဖြတ်ချက်ကို အကောင်အထည် ဖော်တာတို့ဟာ တစ်ခုနဲ့တစ်ခု မြန်နေမှ၊ နီးကပ်စွာ ဆက်သွယ်နေမှ သရုပ်ပေါ်နိုင်မယ်။ စာရေးဆရာဟာ ကျွန်တော်တို့ကို ပြထားတာက ဂျူလီယန်ဆိုရဲဟာ ဂျူလီယန်ဆိုရဲကို အမိန့်တွေ ထုတ်ပေးနေတဲ့ပုံကို ပြထားတာကိုး။ တစ်နေရာမှာ ဂျူလီယန်ဆိုရဲဟာ 'မနက် နှစ်နာရီမှာ ငါဟာ မဒမ်ရီနယ်ရဲ့ အိပ်ခန်းထဲကို ဝင်မယ်' လို့ ပြတ်ပြတ်သားသား ဆုံးဖြတ်ထားတာကို တွေ့ရပါတယ်။ ဒီသဘောအတိုင်းပါပဲ။ သူ့ကို မဒမ်ရီနယ်က လိမ်လည်လှည့်ဖျားတာကို တွေ့တော့ ဂျူလီယန်ဆိုရဲဟာ အကြီးအကျယ်စိတ်ဆိုးပြီး 'ဒီမိန်းမကိုတော့ သတ်မယ်' လို့ ဆုံးဖြတ်တယ်။ ဒါပေမယ့် သူဟာ မဒမ်ရီနယ်ကို ချစ်တယ်။ ဒါပေမယ့် အရေးကြီးတဲ့အချက်က သူဟာ မဒမ်ရီနယ်ကို တကယ့် အချစ်စစ်နဲ့ ချစ်တာ မဟုတ်ဘူး။ သူ့မာနဟာ တကယ့် မာနဖြစ်သလို သူ့အချစ်ဟာ တကယ့်အချစ်စစ် မဟုတ်ဘူး။ သူဟာ သူ့ကို တကယ့်အချစ်စစ်နဲ့ ချစ်ခဲ့တာ မဟုတ်သလို သူ့ကို သတ်တာဟာလည်း မုန်းလို့သတ်တာ မဟုတ်ဘူး။ တကယ်လို့ သတ်ချင်လို့ သတ်ခဲ့တာ။ သူ ဟာ မဒမ်ရီနယ်ကို သတ်ပစ်မယ်လို့ သစ္စာဆိုခဲ့တယ်။ သစ္စာဆိုခဲ့တဲ့အတိုင်းလည်း သတ်ခဲ့တယ်။ ဒါဟာ သူ့ရဲ့ လူ့ကျင့်ဝတ်ဆိုင်ရာတရား ဖြစ်တယ်။ သူ့အဖို့ သေတာဟာ ဘာမှအဆန်း မဟုတ်ဘူး။ ဘာဖြစ်လို့လဲဆိုတော့ သေတာကို သတ္တိရှိရှိ လက်ခံတာဟာ

သူ့အဖို့ ဂုဏ်သိက္ခာရှိတယ်လို့ မြင်လို့ပဲ။ နောက်တစ်ချက်ကတော့ သူဟာ ဘ၀မှာ တစ်ခါမှ မပျော်ခဲ့ဘဲ လူ့ဘ၀ကြီးကို ခင်တွယ်ခြင်း မရှိလို့ပဲ။

ဒီမှာ တော်တော်အံ့သြစရာကောင်းတဲ့ ရှုခင်းအပြောင်းအလဲကို တွေ့လိုက်ရတယ်။ ခက်ခဲတဲ့ ဒီအကြောင်းအရာနဲ့ ပတ်သက်လို့ ကျွန်တော်တို့အဖို့ စဉ်းစားစရာ တစ်ချက်ပေါ်လာတယ်။ မဒမ်ရီနယ်ဟာ သေနတ်ဒဏ်ရာကြောင့် သေဆုံးသွားခဲ့တာ မဟုတ်ဘူး။ မဒမ်ရီနယ်ဟာ တဖြည်းဖြည်းပြန်ပြီး သတိရလာတယ်။ သူ့ရဲ့ပြစ်မှုအတွက် ဂျူလီယန်ကို အာဃာတ မထားဘူး။ မထားတဲ့အပြင် သူကိုယ်တိုင် နောင်တရတဲ့၊ သူကိုယ်တိုင် သူ့ကိုယ်သူ အပြစ်တင်နေတဲ့ သူ့လုပ်ရပ်အတွက် လက်စားချေတာ ဖြစ်တဲ့အတွက် ဂျူလီယန်ဆိုရဲကို အပြစ်မတင်ဘူး။ ဒါကြောင့်မို့ မဒမ်ရီနယ်ဟာ သူကိုယ်တိုင် ထောင်ဝင်စာ သွားတွေ့ပြီး သေဒဏ်စီရင်ချက်ကို ပယ်ဖျက်ပစ်ဖို့ အယူခံလွှာတင်ဖို့ သူ့ကို သွားတိုက်တွန်းတယ်။ ဒါကို သူက လက်မခံဘူး။ မဒမ်ရီနယ်ဟာ သူ့ကို သေနတ်နဲ့ပစ်သည့်တိုင် ဂျူလီယန်ဆိုရဲကို ချစ်မြဲချစ်နေတုန်းပဲ။

'မောင့်ကို မြင်တာနဲ့ တာဝန်တို့၊ ဝတ္တရားတို့ ဆိုတာ ကျွန်မအဖို့ ဘာမှ အဓိပ္ပါယ်မရှိတော့ဘူး မောင်ရယ်။ မောင့်ကို ချစ်တဲ့အချစ်ကြောင့် ကျွန်မရင်ထဲမှာရှိတဲ့ တခြား ခံစားချက်တွေဟာ ကုန်ခမ်းသွားခဲ့ပြီလေ။ တကယ်တော့ မောင့်အပေါ်မှာထားတဲ့ ကျွန်မ သဘောထားကို အချစ်လို့ ပြောရင်တောင် အဲဒီ စကားလုံးဟာ အားနည်းနေပါသေးတယ်။ မောင့်အပေါ်မှာထားတဲ့ ခံစားချက်ဟာ ဘုရားသခင်အပေါ်မှာ ထားတဲ့ ခံစားချက်နဲ့ အတူတူပါပဲ။ အဲဒီခံစားချက်ထဲမှာ ချစ်တာလည်း ပါတယ်။ ရိုသေကိုင်းရှိုင်းတာလည်း ပါတယ်။ ကျိုးနွံတာလည်း ပါတယ်။ မောင့်ကြောင့် ပေါ်လာတဲ့ ခံစားချက်ဟာ ဘယ်လိုခံစားချက်လဲလို့ ပြောဖို့တောင် တော်တော်ခက်ပါတယ်' လို့ မဒမ်ရီနယ်က ဂျူလီနယ်ဆိုရဲကို ပြောခဲ့ပါတယ်။

မဒမ်ရီနယ်ကို ပြန်တွေ့လိုက်တဲ့အခါမှာ ဂျူလီယန်ဟာလည်း ဒီလောက် အပြစ်ကင်းစင်၊ ဒီလောက် သဘောဝကျတဲ့ မိန်းမတစ်ယောက်ကို ချစ်မိသလောက် လောကမှာ ဘယ်သူ့ကိုမှ သူ မချစ်ဖူးသေးဘူးဆိုတာကို သတိရလာတယ်။

သူ့ကို မဒမ်ရီနယ်က နေ့တိုင်းသာ လာတွေ့ပါစေ။ သူ့အဖို့ သေမိန့်ဟာလည်း ဘာမှအကြောင်း မဟုတ်တော့ပါဘူး။ ဒီလို တွတ်တီးတွတ်တာတွေ ပြော၊ အနမ်းဝေနေတဲ့ ကြင်နာမှုတွေ ပြည့်လျှမ်းနေတဲ့ အချိန်ကလေးတွေမှာ သာလျှင် ပျော်ရွှင်ချမ်းမြေ့မှုဟာ ရနိုင်ပါကလားဆိုတာကို ဂျူလီယန် သိလာခဲ့တယ်။ ကျွန်တော့်အနေနဲ့ ပြောရရင်တော့ ဒီနေရာဟာ ဝတ္ထုတစ်ပုဒ်လုံးရဲ့

အသက်ပဲလို့ ထင်ပါတယ်။ ဘာဖြစ်လို့လဲဆိုတော့ ထောင်ထဲမှာ ရောက်နေတဲ့ ဂျူလီယန်အဖို့ အနာဂတ်လည်းမရှိတော့ဘူး။ တခြား ရည်မှန်းချက်တွေလည်း မရှိတော့ဘူး။ သူ့မှာ လောလောဆယ် အသက်ရှင်နေရတဲ့ ပစ္စုပ္ပန်ပဲ ရှိတော့တယ်။ ခုတော့ အဲဒီပစ္စုပ္ပန်ကို သူ အပြည့်အဝ ခံစားနိုင်ပြီပေါ့။ မဒမ်ရီနယ် အဖို့လည်း သူ့ရဲ့ အေးဆေးငြိမ်သက်တဲ့ အချိန်ကလေးတွေကို အတူ မျှဝေခံစားနိုင်ပြီပေါ့။

ဝတ္ထုထဲမှာ ဂျူလီယန်က မဒမ်ရီနယ်ကို ဒီလိုပြောထားတယ်။

'အရင်တုန်းက ကိုယ်တို့နှစ်ယောက် ဗာဂျီတောအုပ်ကလေးထဲမှာ လက်ချင်းတွဲပြီး လမ်းလျှောက်ခဲ့ကြတယ်။ ဘယ်လောက် ပျော်စရာကောင်းသလဲ၊ အဲဒီတုန်းက ကိုယ့်ရင်ထဲမှာ ကိုယ်တို့နှစ်ယောက်ဟာ ကိုယ်တို့ ဖန်တီးစိတ်ကူးထားတဲ့ ဘုံကလေးတစ်ခုထဲမှာ သွားနေကြမယ်လို့ ကိုယ်တွေးခဲ့၊ စိတ်ကူးယဉ်ခဲ့တယ်။ ကိုယ့်စိတ်ထဲမှာ ကိုယ်တို့နှစ်ယောက် မျှော်မှန်းခဲ့တဲ့ဘုံကို ရောက်ဖို့အတွက် တွေ့ရမယ့် အခက်အခဲတွေ ရှန်းကန်မှုတွေကို ကြိုတင်စဉ်းစားခဲ့တယ်။ ဒါပေမယ့် တော်ပါပြီလေ၊ ခုလို ကိုယ်ရှိရာ အကျဉ်းထောင်ကို လာတွေ့နေရင်ပဲ ကိုယ်သေပျော်ပါပြီ။ ကိုယ်စိတ်ကူးထားတဲ့ ပျော်ရွှင်ချမ်းမြေ့မှုကို မတွေ့ရချင် နေပါစေတော့။ ကိုယ် စိတ်ချလက်ချ သေနိုင်ပါပြီ'

ဒီနေရာမှာ အချစ်နဲ့ မျှော်မှန်းချက် ကွာခြားနေကြပုံကို ကျွန်တော်တို့ တွေ့လိုက်ရပါတယ်။ အချစ်က ပစ္စုပ္ပန်မှာနေတယ်။ လွမ်းစရာတွေထဲမှာ နေတယ်။ ဒါပေမယ့် မျှော်မှန်းချက်ကတော့ အနာဂါတ်မှာ နေတယ်။ သူ စိတ်ကူးမျှော်မှန်းထားတဲ့ မတွေ့ရသေးတဲ့ ပျော်ရွှင်မှုတွေထဲမှာ နေတယ်။ ဒါပေမယ့် အနာဂါတ်ဆိုတာ လူက စိုးပိုင်နိုင်ခြင်း မရှိလေတော့ အဲဒီလမ်းခရီးမှာ စိတ်ပျက်အားငယ်စရာတွေက စောင့်ဆိုင်းနေတတ်တယ်။ မျှော်မှန်းချက်ကို ချုံခိုတိုက်ခိုက်ဖို့ စောင့်ဆိုင်းနေကြတဲ့အရာတွေက စက္ကန့်ပိုင်းကလေးအတွင်းမှာ အနှစ်သုံးဆယ်လုံးလုံး စိတ်ရှည်စွာ ကြိုးပမ်းလာခဲ့တဲ့ ကြိုးပမ်းမှုတွေကို ဖျက်ဆီးပစ်လိုက်တယ်။

လောကမှာ အကြီးကျယ်ဆုံးဆိုတဲ့ ဉာဏ်ပါရမီရှင်တွေဟာ ကြမ္မာဆိုးကို ကာကွယ်တားဆီးဖို့ အနာဂါတ်ကို ကြိုတင်မြင်နိုင်ဖို့ ခြောက်လှန့်နေတဲ့ အနာဂါတ်ကို ဖယ်ရှားရှောင်ကွင်းဖို့၊ အဲဒီ အနာဂါတ်ကို ပကတိအတိုင်း ဖယ်ရှားရှောင်ကွင်းဖို့၊ အဲဒီ အနာဂါတ်ကို ပကတိအတိုင်း မြင်နိုင်ဖို့ အမွမ်းအမံမပါဘဲ မြင်နိုင်ဖို့အတွက် အပတ်တကုတ်အားထုတ်ခဲ့ကြတယ်။ ဘယ်သူမှ မအောင်မြင်ခဲ့ကြပါဘူး။ ဒါပေမယ့် ချစ်သူကတော့ သူ့ ခြေထောက်အောက်မှာ တွေ့ရတဲ့ ပန်းပွင့်ကို ဆွတ်ခူးခဲ့တယ်။ သူ ပစ္စုပ္ပန်ပျော်ရွှင်ချမ်းမြေ့မှုကို ရမယ်လို့

ယုံကြည်တယ်။ ပြီးတော့ သူ့အတွက် အောက်မေ့သတိရစရာကလေးတွေကို စုစည်းပြီး ဘဏ္ဍာတိုက်အဖြစ် တည်ထောင်တယ်။ အချစ်မှာ စစ်မှန်တဲ့ အချစ်မှာသာလျှင် ပြည့်စုံတဲ့ ပေါင်းစည်းမှုကို တွေ့နိုင်တယ်။ စစ်မှန်တဲ့ အချစ်မှသာလျှင် တကယ့် စည်းစိမ်ဥစ္စာကို တွေ့နိုင်တယ်။ တကယ်ဆိုလျှင် ဂျူလီယန်ဆိုရဲဟာ အပေါ်ယံ ဟန်ဆောင်မှုတွေနဲ့ သူ့အသက်ဘေးက ရုန်းထွက်နိုင်စရာအကြောင်းတွေ အများကြီးရှိတယ်။ ဘာသာရေး၊ နိုင်ငံရေး ယုံကြည်ချက်တို့ ပြောင်းပြလိုက်ရုံနဲ့ သူ့ အသက်ဘေးကနေပြီး လွတ်နိုင်တယ်။

'ကိုယ့်ကိုယ်ကို စက်ဆုပ်ရွံမုန်းနေမယ်ဆိုရင် ကျုပ်မှာ ဘာကျန်တော့မှာပဲ၊ ကျုပ်ဟာ မျှော်မှန်းချက် ကြီးခဲ့တယ်။ ဒီလိုကြီးခဲ့တဲ့အတွက် ကျုပ်မှာ ဘာမှ အပြစ်မရှိဘူးလို့လည်း ထင်တယ်။ ဘာဖြစ်လို့လဲဆိုတော့ အဲဒီခေတ်က လူတိုင်းလူတိုင်း ဒီလိုပဲ မျှော်မှန်းချက် ကြီးခဲ့ကြတာပဲ မဟုတ်လား။ ခုတော့ ကျုပ်မှာ မျှော်မှန်းချက်မရှိတော့ဘူးလေ။ ကျုပ်ဟာ တစ်နေ့စာပဲ နေတော့တယ်။ ကျုပ်သာ အလွယ်လမ်းကို လိုက်ခဲ့ရင် ကျုပ်ဟာ သရဲဘောကြောင်တဲ့ လူတစ်ယောက်ပဲ ဖြစ်နေတော့မှာပေါ့' လို့ ဂျူလီယန်ဆိုရဲက ပြောခဲ့ပါတယ်။

ဂျူလီယန်ဆိုရဲဟာ အပေါ်ယံ ဟန်ဆောင်မှုတွေကိုသာ လိုက်ခဲ့ရင် သူ့မှာ ချက်ချင်း စည်းစိမ်ဥစ္စာတွေ တိုးနိုင်ပါတယ်။ ဒါမှမဟုတ်ရင်လည်း အောင်မြင်မှုတွေ ရနိုင်ပါတယ်။ ဒါပေမယ့် ပျော်ရွှင်မှုကိုတော့ မရနိုင်ဘူးပေါ့။ ဒီအချက်ဟာ စတင်ဒယ် အင်မတန်သဘောကျတဲ့ အတွေးတစ်ခုပါ။ ဒါကြောင့်မို့ စတင်ဒယ်ဟာ သူ့ဝတ္ထုထဲမှာ ဒီဒဿနကို အပြည့် ထည့်တော့တာပါပဲ။ စာရေးဆရာတွေ၊ အနုပညာသည်တွေဖြစ်တဲ့ ကျွန်တော်တို့တွေမှာ အချို့သော စိတ်ကူးတွေ၊ အချို့သော အတွေးတွေရှိနေကြတယ်။ ကျွန်တော်တို့ သိသည်ဖြစ်စေ၊ မသိသည်ဖြစ်စေ ဒီအတွေးတွေဟာ ကျွန်တော်တို့ စာအုပ်တွေ၊ ကျွန်တော်တို့ ပန်းချီကားတွေထဲမှာ ပေါ်လာတတ်ကြတယ်။ ပန်းချီဆရာဂရေဇေးဟာ ဘယ်ကိုဟန်ပြမယ်ရဲ့ မျက်နှာကိုပဲဆွဲဆွဲ အဲဒီမျက်နှာဟာ သူချစ်တဲ့ မတ်မွိုင်ဇယ်ဘာလူတီရဲ့ မျက်နှာ ဖြစ်နေတတ်တယ်။ သူ့ပုံတွေဟာ အဲဒီမျက်နှာ မပါပဲနဲ့ ဘယ်တော့မှ မပြီးဘူး။ တခြားမပြောနဲ့၊ နပိုလီယန်ရဲ့ ပုံတူကို ဆွဲရာမှာတောင် နပိုလီယန်ရဲ့ မျက်နှာဟာ ဘာလူတီနဲ့ တူပြီး မိန်းမဆန်နေတတ်တယ်။

စတင်ဒယ်ဟာလည်း သူ့ရဲ့ အသေးစိတ်တွေကို ရေးရာမှာ အံ့သြစရာကောင်းလောက်အောင် အပြောင်းအလဲမရှိ ဖြစ်နေတတ်တယ်။ သူ့ ဇာတ်လိုက်ဟာ သူ့ကို နှိမ်ချအထင်သေးခဲ့တဲ့ အမျိုးသမီးကို နောက်ဆုံးမှာ အောင်မြင်သွားတာချည်းပဲ။ သူ့ ဇာတ်လိုက်တိုင်းလိုလိုဟာ ဒီအတိုင်းချည်းပဲ ဖြစ်နေတယ်။ သူ့ဇာတ်လိုက်တစ်ယောက်ဖြစ်တဲ့ ဂျူလီယန်ဟာ သူ့ကို အထင်သေးခဲ့

တဲ့ မာသီကို နောက်ဆုံးမှာ အနိုင်ရခဲ့တယ်။ နောက်ဇာတ်လိုက် တစ်ယောက်ဖြစ်တဲ့ လူစန်းဟာ သူ့ကို အထင်သေးခဲ့တဲ့ ရှာတဲလားကို နောက်ဆုံး အနိုင်ယူခဲ့တယ်။ အဲဒီ ဝတ္ထုနှစ်ပုဒ်စလုံးမှာ မြင်းပေါ်က လိမ့်ကျတာကစပြီး ဇာတ်လိုက်နဲ့ ဇာတ်လိုက်မင်းသမီး တွေ့ကြပုံကအစ တူတောင်နေလိုက်သေးတယ်။ စတင်ဒယ်ဟာ မြင်းစီးမကျွမ်းကျင်ဘူးလို့တောင် ထင်စရာပါပဲ။

နောက်ဆုံးမှာတော့ ဇာတ်လိုက်ဟာ ထောင်ထဲက အကျဉ်းတိုက်ကလေးထဲမှာ ပျော်ရွှင်မှုကို ရှာဖွေတွေ့ရှိသွားတယ်။ ဇာတ်လိုက်တစ်ယောက်ဖြစ်တဲ့ ဖာဗရီစီ ပါမားထောင်ထဲမှာ၊ ဇာတ်လိုက်တစ်ယောက်ဖြစ်တဲ့ ဂျူလီယန်ကတီဆန်ရှန် အကျဉ်းထောင်ထဲမှာ၊ ဒါဟာ ဘာဖြစ်လို့လဲ။ အထက်မှာ ကျွန်တော် ပြောခဲ့သည့်အတိုင်း အကျဉ်းထောင်ဆိုတဲ့နေရာဟာ (အခြားသောအရာများကို ဘေးဖယ်လိုက်ရင်) အိပ်မက်မက်ဖို့၊ စဉ်းစားဖို့ စိတ်ဓာတ် အလွတ်လပ်ဆုံးနေရာ ဖြစ်လို့ပါပဲ။ ဒီအချက်ကို စတင်ဒယ်ဟာ တော်တော် သဘောပေါက်ပုံရပါတယ်။ တစ်ခုတော့ရှိရဲ့၊ စတင်ဒယ်ဟာ တစ်ခါမှတော့ အကျဉ်းသားမဖြစ်ဖူးဘူးပေါ့။ ပြီးတော့ သူပြောတဲ့ အကျဉ်းထောင်ကလည်း တကယ်တွေ့ရတဲ့ အကျဉ်းထောင်လောက် စည်းကမ်းမတင်းကြပ်တဲ့ အကျဉ်းထောင်မျိုး၊ ငြိမ်သက်အေးချမ်းတဲ့ အကျဉ်းထောင်မျိုးဆိုတာကိုတော့ ထောက်ပြရလိမ့်မယ်ထင်ပါတယ်။

*   *   *

## ဝတ္ထုနဲ့ သင်ခန်းစာ

ဆေးကုသရေးဌာနတို့၊ သီးသန့်ဆေးရုံတို့မှာ ကာလ အတန်ကြာ တက်ရောက်ခဲ့ဖူးတဲ့ လူနာများဟာ အလားတူ အံ့သြစရာကောင်းတဲ့ စိတ်ချမ်းသာမှုမျိုးကို တွေ့ဖူးကောင်း တွေ့ဖူးကြလိမ့်မယ် ထင်တယ်။ 'အနားယူကုသပါ' လို့ ပြောလိုက်တဲ့စကားဟာ လူတစ်ယောက်ကို ရုပ်ဝတ္ထုဆိုင်ရာ တာဝန်တွေက နားထားဖို့၊ လူမှုကိစ္စတွေက ဝေးဝေးနေဖို့၊ နေ့စဉ် သက်မွေးမှုဆိုင်ရာ တာဝန်တွေက နားထားဖို့ပြောတဲ့ သဘောပါပဲ။ စိုးရိမ်သောကဒဏ်ကိုခံရတဲ့ လူတစ်ယောက်ဟာ သူ့ကို တာဝန်တွေ၊ ဝတ္တရားတွေက လွတ်လပ်ခွင့်ပေးလိုက်တာနဲ့ သူဟာ အဲဒီအခြေအနေမှာ စိတ်ရဲ့ငြိမ်းချမ်းမှုကို ရသွားတော့တာပါပဲ။ ဘာဖြစ်လို့လဲဆိုတော့ တခြားသူတွေက သူ့အတွက် ဆုံးဖြတ်ချက်တွေကို ချမှတ်ပေးနေပြီကိုး။ တစ်ခါတစ်လေမှာလည်း ဖြစ်တတ်သေးတယ်။ သိပ်ပြီး မျှော်မှန်းချက်ကြီးတဲ့ လူတစ်ယောက်ဟာ ထိန်းချုပ်နိုင်စွမ်းမရှိတဲ့ အဖြစ်အပျက်တွေကြောင့် သူ့ မျှော်မှန်းချက် အကောင်အထည်ဖော်ရေးကို ရပ်တန့်လိုက်ရတယ်။ အဲဒီအခါမှာ သူဟာ အကြီးအကျယ် ပျော်ရွှင်ပြီး လွတ်လပ်မှုအသစ်ကို ခံစားသွားရတယ်။ မခံမရပ်နိုင်တော့လောက်အောင် တင်းနေတဲ့ သူ့အာရုံကြောများဟာ တင်းကြပ်မှု တွေ ပြေလျော့သွားတာကို ဝမ်းမြောက်ဝမ်းသာနဲ့ တုံ့ပြန်ကြတယ်။

ခုလည်း ဒီအတိုင်းပါပဲ။ စတင်ဒယ်ရဲ့ ဝတ္ထုထဲက အကျဉ်းကျနေကြတဲ့ ဂျူလီယန်နဲ့ ဖေးဗရစ်တို့ဟာ အကြီးအကျယ် ပျော်နေကြတယ်။ ဂျူလီယန်က မြင့်မားတဲ့ ရည်မှန်းချက်တွေက လွတ်မြောက်သွားလို့ ပျော်တာ၊ ဖေးဗရစ်ကတော့ စွန့်စားခန်းတွေက အနားရသွားလို့ ပျော်တာ။ သူတို့နှစ်ယောက်စလုံးဟာ သူတို့ရဲ့စရိုက်တွေကြောင့် ပေါ်ပေါက်လာရတဲ့ အခက်အခဲတွေကနေပြီး လွတ်မြောက်သွားကြသူတွေပါပဲ။ သူတို့အဖို့ အကျဉ်းထောင်ကြီးဟာ လွတ်မြောက်တဲ့နေရာနဲ့ အတူတူပါပဲ။

ဂျူလီယန်ကတော့ ထောင်မှူးတွေ၊ အမှုထမ်းတွေကို လာဘ်ထိုးနိုင်တဲ့ ကျေးဇူးကြောင့် သူ့အဖို့ ခါတိုင်းထက်တောင် ပျော်စရာကောင်းနေပါသေးတယ်။ သူ ချစ်တဲ့ မဒမ်ရီနယ်ဟာ တစ်နေ့ကို နှစ်ခေါက်လာပြီး ထောင်ဝင်စာ တွေ့တယ်။ ပြီးတော့ ဇာတ်လမ်းတစ်ခုလုံးမှာ သူ့ရဲကောင်းပီသမှုကို ပြသခဲ့တဲ့ ကိုယ်ဝန်ရှိနေတဲ့ မာသီကလည်း လာပြီး တွေ့နေတယ်။ ဒါပေမယ့် သူ့ကို ဒီလို ကိုယ်ဝန်ကြီးနဲ့ လာတွေ့တဲ့အတွက် ဂျူလီယန်စိတ်ထဲမှာတော့ ဘယ်လိုမှ မခံစားရပါဘူး။ မခံစားရတဲ့အပြင် သူ့ကို လာတွေ့ချိန်ဟာ မဒမ်ရီနယ်ရဲ့ အချိန်တွေကို ခိုးယူနေတာဖြစ်တယ်လို့တောင် ထင်မိပါသေးတယ်။ ဒီလိုနဲ့ သူ့ကို စက်တုံးပေါ်တင်မယ့်နေ့ကို ရောက်လာတဲ့အခါမှာ ဂျူလီယန်ဟာ ရဲရင့်စွာ ရင်ဆိုင်သွားခဲ့ပါတယ်။

'ကိစ္စအားလုံးသည် လွယ်လွယ်ကူကူ၊ သိက္ခာရှိရှိနှင့်ပင် ပြီးဆုံးသွားခဲ့သည်။ သူ့ဘက်မှလည်း ထူးထူးခြားခြား သရုပ်ဆောင်မှု မရှိချေ' လို့ အံ့သြစရာကောင်းလောက်အောင် တိုတိုကလေးပဲ ရေးထားပါတယ်။

ကောင်းပြီ။ ဒီတော့ ဒီဝတ္ထု (စတင်ဒယ်ရဲ့ အနီနဲ့ အနက်ဝတ္ထု) က ပေးချင်တဲ့ သင်ခန်းစာဟာ ဘာလဲ။

သင်ခန်းစာကတော့ တစ်ခုထက် ပိုတယ်လို့ ထင်ပါတယ်။

ပထမသင်ခန်းစာကတော့ လူတစ်ယောက်မှာ ရမ္မက်တွေ၊ စွဲလန်းမှုတဏှာတွေ ရှိနိုင်တယ်။ ဒီလို ရှိတဲ့အတွက် ဘာမှ နောင်တရစရာ မလိုဘူးဆိုတဲ့ အချက်ဖြစ်ပါတယ်။ လူတစ်ယောက်ဟာ လူဖြစ်လာရတဲ့အတွက် နောင်တရချင် ရနိုင်တယ်။ ဒါပေမယ့် ရမ္မက်တွေရှိတဲ့အတွက်တော့ နောင်တ မရသင့်ပေဘူးလို့ စတင်ဒယ်က ဆိုလိုချင်ဟန်တူပါတယ်။ ဂျူလီယန်မှာ အချစ်ရှိတယ်။ ကြီးမြင့်လိုတဲ့ ရည်မှန်းချက်ရှိတယ်။ ဒါတွေမရှိရင် ဂျူလီယန်ဟာ ဘာဖြစ်ဦးမှာလဲ။ ကိုယ့်ကိုယ်ကို ကျေနပ်နေတဲ့ သမားရိုးကျ လယ်သမားတောသား တစ်ယောက်ဖြစ်ပြီး ဒီလိုနဲ့ပဲ အရိုးထုတ်သွားတော့မှာပေါ့။ ရမ္မက်များကသာလျှင် လူတစ်ယောက်ကို တိရစ္ဆာန်တစ်ကောင်ထက်မြင့်တဲ့ အမြင့်ကို ရောက်စေနိုင်

တယ်။ ဒီတော့ ဒီလို တိရစ္ဆာန်ထက် သာတဲ့ဘဝကို ရောက်ဖို့အတွက် လူဟာ ကြီးမြင့်လိုတဲ့ ရည်မှန်းချက်ကို ထားရမယ်။ ဒီရည်မှန်းချက်ကို မထားနိုင်ခင် တုန်းမှာတော့ လူဟာ အသက်ရှင်နေရလိမ့်ဦးမယ်။ ဖေးဗရစ်ဟာ အချစ်ရယ်လို့ မရှိရင် သူဟာ သာမန်လူဆိုးတစ်ယောက်၊ လူသွမ်းတစ်ယောက်ပဲ ဖြစ်နေမှာ ပေါ့။ မြို့စားမော်စကာမှာ ခံစားချက်ရယ်လို့ မရှိရင် သူဟာ မင်းသားအဆင့် လောက်ပဲ ရှိနေတော့မှာပေါ့။ ရမ္မက်ရယ်လို့မရှိရင် လူစန်းဟာ အသေးအဖွဲ ဝါသနာကလေးတွေထဲမှာပဲ နစ်မြုပ်နေတော့မှာပေါ့။

စတင်ဒယ်ဟာ သူ့ဇာတ်ဆောင်တွေရဲ့ စရိုက်ကို ရေးရာမှာ အီတလီ ပုံစံထဲထည့်ပြီး ရေးလေ့ရှိပါတယ်။ သူဟာ အေးစက်စက် စရိုက်တွေကို မကြိုက် ဘဲ ပြင်းထန်အားကောင်းတဲ့ စရိုက်မျိုးတွေကို သဘောကျတတ်ပါတယ်။

စတင်ဒယ်ပေးချင်တဲ့ ဒုတိယသင်ခန်းစာကတော့ ပထမသင်ခန်းစာ ထက်ပိုပြီး မြင့်ပါတယ်။ အဲဒီ သင်ခန်းစာကတော့ ရမ္မက်ရဲ့အထက်မှာ ခံစား ချက်ရှိတယ်ဆိုတဲ့ သင်ခန်းစာဖြစ်ပါတယ်။ ရမ္မက်ဟာ ရောဂါတစ်မျိုး ဖြစ်ပါ တယ်။ မရှိမဖြစ်တဲ့ ရောဂါတစ်မျိုးဖြစ်ပါတယ်။ အဲဒီရောဂါကို ပျောက်ကင်း အောင် ကုသနိုင်ခဲ့ရင် စိတ်ဓာတ်ဟာ အရိအရွဲတွေ (နီဝရဏတွေ) ကင်းစင်ပြီး ကြည်လင်သန့်ရှင်းသွားပါတယ်။ အဲဒီရောဂါကို ခွဲစိတ်ပြီး ပျောက်ကင်းအောင် ကုသနေတုန်းမှာတော့ တော်တော်ကလေးကို ဝေဒနာခံစားရတတ်ပါတယ်။ ဒါပေမယ့် ခံစားချက်ကတော့ သန့်ရှင်းစင်ကြယ်ပြီး ခိုင်မြဲတဲ့ အခြေအနေတစ်မျိုး ဖြစ်ပါတယ်။ အဲဒီအခြေအနေကို တော်ရုံတန်ရုံနဲ့ မရောက်ပါဘူး။ ရမ္မက်တွေကို ထိန်းသိမ်းနိုင်ပြီ၊ ချုပ်တီးနိုင်ပြီ၊ ဖယ်ရှားနိုင်ပြီဆိုမှ အဲဒီ အခြေအနေမျိုးကို ရောက်တာပါ။ ရမ္မက်အဆင့်မှာ ရည်မှန်းချက်ကြီးခြင်းဟာ အခြားသူများကို လွှမ်းမိုးလိုချင်တဲ့ ဆန္ဒဖြစ်ပါတယ်။ ခံစားချက်အဆင့်ကို ရောက်တဲ့အခါမှာ ရည်မှန်းချက်ကြီးခြင်းဟာ မိမိကိုယ်မိမိ လွှမ်းမိုးအုပ်စိုးဖို့ ပိုင်းဖြတ်ခြင်းဖြစ်ပါ တယ်။ စတင်ဒယ်ရဲ့ ဇာတ်လိုက်ဖြစ်တဲ့ ဂျူလီယန်ရဲ့ ရည်မှန်းချက်ကြီးပုံ၊ စိန့် ဟယ်လီနာကျွန်းကို ရောက်တော့ နပိုလီယန်ရဲ့ ရည်မှန်းချက်ကြီးပုံများဟာ အဲဒီလို အဆင့်မြင့်တဲ့ ရည်မှန်းချက်ကြီးပုံမျိုးဖြစ်ပါတယ်။

အလားတူပါပဲ။ အချစ်မှာလည်း အဆင့်နှစ်ဆင့် ရှိပါတယ်။ ရမ္မက် အဆင့်မှာသာရှိတဲ့အချစ်နဲ့ အဲဒီ အဆင့်ကိုကျော်ပြီး ခံစားချက်အဆင့်ကို ရောက်သွားတဲ့အချစ်တို့ ဖြစ်ပါတယ်။ ရမ္မက်ချစ်ကတော့ သူသူငါငါ ခံစားတွေ့ ရတဲ့ တဏှာချစ်မျိုးဖြစ်ပြီး ခံစားချက်အချစ်ကတော့ ခြိမ်းခြောက်မှုတွေ အား လုံးက ကင်းလွတ်ပြီး မိမိကိုယ်တွင်းမှာသာ မိမိစိတ်သန္တာန်အတွင်းမှာသာ တွေ့နိုင်တဲ့ အတွေ့အကြုံတစ်မျိုးဖြစ်ပါတယ်။ လူ့ဘဝမှာ တွေ့ရတဲ့ အဖြစ်တွေ

သနစ်တွေကို ကျော်လွှားသွားနိုင်တဲ့ အချစ်မျိုး ဖြစ်ပါတယ်။ အချစ်ရဲ့ ပျော်ရွှင်မှုတွေနဲ့ ပတ်သက်လို့တော့ စတင်ဒယ်ရဲ့အမြင်ဟာ နည်းနည်းလှောင်ပြောင်တဲ့ သဘော သက်ဝင်နေတယ်လို့ ထင်ပါတယ်။ သူက လူတွေဟာ အချစ်ရဲ့ ပျော်ရွှင်မှုတွေ၊ အရသာတွေကို လိုက်လံရှာဖွေကြတယ်။ ရှာလည်း ရှာသင့်တယ်။ ဒီလိုရှာမှသာလျှင် ကိုယ်စိတ်နှစ်ပါး ချမ်းမြေ့မှုကို ရနိုင်တယ်လို့ သူက ဆိုပါတယ်။

ဒါပေမယ့် ဒီလို အချစ်ရဲ့ပျော်ရွှင်မှုမျိုးတွေဟာ အရေးလည်း မကြီးဘူး၊ ရေရှည်လည်း မခံဘူးဆိုတာ သူသိပါတယ်။ သူသိသလို သူ့ဇာတ်ဆောင်တွေလည်း သိကြပါတယ်။ ပြီးတော့ အချစ်ကို ရည်မှန်းချက်ကြီးတစ်ရပ်အဖြစ် ထားရှိတာနဲ့ အခြောက်တိုက် ဘဝင်မြင့်တာမျိုးကို နှစ်သိမ့်မှုပေးဖို့ ရည်မှန်းတဲ့ အချစ်ဟာ (ဂျူလီယန်က မာသီကို ချစ်တဲ့အချစ်မျိုး)ဟာ ခွန်အားလည်း နည်းတယ်၊ သေးဖွဲရာလည်း ရောက်တယ်။ မယုံသင်္ကာဖြစ်ရာလည်း ရောက်တယ်လို့ သူ ယူဆပါတယ်။ ဒီလိုအချစ်မျိုးဟာ သိက္ခာပျက်မှာတို့၊ ဂုဏ် ပျက်မှာတို့ကို သိပ်စိုးရိမ်နေတတ်တဲ့ အချစ်မျိုးဖြစ်ပါတယ်။ အဲဒီအချစ်မျိုးဟာ သူချစ်တဲ့ အရာဝတ္ထုပစ္စည်းကိုလည်း သိပ်အရေးမစိုက်ပါဘူး။ တခြားလူတွေက အဲဒီ အရာဝတ္ထုအပေါ် ဘယ်လိုသဘောထားသလဲဆိုတာလောက်ကိုပဲ ဂရုစိုက်နေပါတယ်။

အချစ်စစ် အချစ်မှန်ဟာ သူချစ်နေတဲ့ အရာဝတ္ထုကို ကြောက်ရွံ့ခြင်းမရှိဘူး။ 'အနီနဲ့အနက်' ဝတ္ထုအဆုံးမှာ မဒမ်ရီနယ်ဟာ ဂျူလီယန်ကို စိတ်ဒုက္ခမရောက်စေချင်ဘူး။ စိတ်ဒုက္ခရောက်အောင်လည်း မလုပ်ရက်ဘူး။ (ကျွန်တော့်ရဲ့ ဝတ္ထုတစ်ပုဒ်ထဲက 'မစ္စဘယ်ဟာ သူ့ချစ်သူကို စိတ်ဒုက္ခရောက်အောင် မလုပ်ရက်သလိုပေါ့။) ဒီလို မိန်းမတွေဟာ သူတို့အတွက် ယောကျ်ားတွေ မနာလိုဝန်တိုဖြစ်အောင် ဘယ်တော့မှ မလုပ်တတ်ဘူးဆိုတာ ယောကျ်ားတွေ သိကြတယ်။ ဒီလို မိန်းမတွေရဲ့ အချစ်ဟာ ရမ္မက်တွေနဲ့ ရှုးမူးနေတဲ့ အချစ်မျိုး မဟုတ်ဘူး။ သူတို့အချစ်ကို သူတို့ကိုယ်တိုင် ယုံကြည်တဲ့အချစ်မျိုး ဖြစ်တယ်။ ဒီလိုအချစ်မျိုးဟာ ပြည့်စုံသွားတယ်။ ကြီးကျယ်မြင့်မြတ်တဲ့ မေတ္တာတရားဖြစ်သွားတယ်။ ခံစားချက်ဟာ မြင့်မြတ်တဲ့အဆင့်တစ်ဆင့်ကို ရောက်သွားတာနဲ့ တစ်ပြိုင်နက် အဲဒီခံစားချက်ဟာ ပြည့်စုံခြင်းမရှိတဲ့ လူ့သဘာဝကို ကျော်သွားပြီး အနိုင်ယူသွားတော့တာပဲ။ အချစ်ဟာ အဲဒီလိုမြင့်မြတ်တဲ့ အဆင့်ကို ရောက်သွားလို့ရှိရင် ကြီးကျယ်ခမ်းနားတဲ့အဖြစ်ကို ရောက်သွားပြီး သံသယ ဟူသမျှကို ပယ်ဖျက်လိုက်တော့တာပါပဲ။ စတင်ဒယ်ရေးပြချင်တဲ့ အချစ်မျိုးဟာ အဲဒီလို အချစ်မျိုး ဖြစ်ပါတယ်။ သူတို့ တန်ဖိုးထားတဲ့အချစ်ဟာ ရိုမန်းတစ်

လပ်ဖ်လို့ ခေါ်တဲ့ စိတ်ကူးယဉ်အချစ်မျိုး မဟုတ်ပါဘူး။ စိတ်ကူးယဉ်အချစ်ဟာ အရေးမကြီးတဲ့ အသေးအဖွဲတွေမှာ ဇာချဲ့ပြီး စိတ်ကူးထဲမှတင်ရှိတဲ့ အချစ်မျိုး အာလိန်းပြောသလို စိတ်ကူးယဉ်အချစ်ဟာ စိတ်ကူးထဲမှာ စံပြအဖြစ်သာ ထားလို့ရပြီး လူ့အဖွဲ့အစည်းရဲ့ နိယာမတွေ အပြင်ဘက်မှာ၊ အထက်မှာသာရှိတဲ့ အချစ်မျိုး။ ဒီလို စံပြအချစ်။ စိတ်ကူးထဲမှာသာရှိနိုင်တဲ့ အချစ်မျိုးကို လိုချင်ရင်တော့ အမြင့်မှာ နေဖို့မလိုပါဘူး။ အကျဉ်းထောင်ထဲမှာ သွားနေဖို့လည်း မလိုပါဘူး။ ဒီလို စိတ်ကူးယဉ် စံပြအချစ်မျိုးကို တကယ်စုံမက်တဲ့ သူများဟာ သူတို့ရဲ့ လျှို့ဝှက်တဲ့ နှလုံးသားတောင်ကုန်းပေါ်မှာ သူတို့ဘာသာ သူတို့ ကိုယ်ပိုင်အကျဉ်း ထောင်ဆောက်ပြီး ထားနိုင်ကြပါတယ်။

ဒီအချက်ဟာ 'အနီနဲ့အနက်' က ပေးလိုက်တဲ့ သင်ခန်းစာပါပဲ။ ဒီသင်ခန်းစာကို စာဖတ်သူတို့ နားလည်စေချင်ပါတယ်။ ဒီလိုနားလည်ပြီး ရမ္မက်တွေကို ကျော်လွှားကာ ရမ္မက်တွေရဲ့ အထက်သို့တက်ကာ ကျွန်တော်တို့ရဲ့ တကယ့်ခံစားချက်တွေတည်ရှိရာ သန့်စင်သော မျှော်မှန်းချက်များရှိရာ၊ နူးညံ့သိမ်မွေ့သော ချစ်မေတ္တာတရား ကိန်းဝပ်ရာ ဘုံအမြင့်ကို ရောက်လိမ့်မယ်လို့ ထင်ပါတယ်။ ပျော်ရွှင်ချမ်းမြေ့မှုရဲ့ သော့ချက်ဟာ အဲဒီနေရာမှာ တည်ရှိပါတယ်။ လူတစ်ယောက်ဟာ ထင်မြင်ချက်တွေကို ဂရုစိုက်နေရင်၊ အသေးအဖွဲတွေကိုသာ ဂရုစိုက်နေရရင် သူဟာ အမြဲလိုလို စိုးရိမ်ထိတ်လန့်နေပြီး မလိုအပ်ဘဲနဲ့ စိတ်မချမ်းမသာဖြစ်နေရတတ်တယ်။ ဝီဂယ် ပြောခဲ့သလို ဝတ္ထုရဲ့ ရည်မှန်းချက်ဟာ ဇာတ်ဆောင်ကို ကိုယ်စားပြုထားတဲ့ နှလုံးသားရဲ့ ကဗျာနဲ့ လောကကြီးရဲ့ ငြီးငွေ့ဖွယ်ကောင်းတဲ့ အစစ်အမှန်တွေရဲ့ ပဋိပက္ခကို ပြသဖို့ဖြစ်ပါတယ်။ သူရဲကောင်းတွေ ခေတ်တုန်းကတော့ ဇာတ်လိုက်တွေဟာ ဘာသာတရားမဲ့သူများနဲ့ လေရဟတ်များကို ဆန့်ကျင်တိုက်ခိုက်ကြပါတယ်။ စတင်ဒယ်တို့ခေတ်မှာတော့ စတင်ဒယ်ရဲ့ ဇာတ်လိုက်များဟာ 'လူကြောင်' တွေကို ဆန့်ကျင်တိုက်ခိုက်ခဲ့ပါတယ်။

ဒီနေ့မှာလည်းပဲ စတင်ဒယ်တို့ ခေတ်ကလိုပါပဲ။ 'ကျွန်တော်တို့အားလုံးသည် အဓိပ္ပါယ်ကင်းမဲ့သော ကမ္ဘာလောကကြီးကို ရင်ဆိုင်နေကြရသည်။ မကောင်းမှုကြီးစိုးနေသည့် ကမ္ဘာကြီးကို ရင်ဆိုင်နေကြရသည်။ ထိုကမ္ဘာလောကကြီးကို တိုက်ဖျက်ပစ်ရပေလိမ့်မည်။ ရုပ်ဝတ္ထုဆန်သော အစစ်အမှန်ဖြစ်သော ကမ္ဘာလောကကြီးထဲ အတင်းတိုးဝင်၍ လမ်းဖောက်ကာ အလင်းရောင်ရှိရာသို့ သွားကြရပေလိမ့်မည်' လို့ အဲဒီတုန်းက စတင်ဒယ်ရေးခဲ့သလို ဒီနေ့လည်း ဒီအတိုင်းဖြစ်နေတုန်းပါပဲ။ ဇာတ်ဆောင်ဟာ မိမိရဲ့ကိုယ်ပိုင်ဆုံးဖြတ်ချက်ကို အားကိုးနိုင်တဲ့ အခြေရောက်မှ၊ ဒါမှမဟုတ်ရင်လည်း

မိမိကိုယ်တိုင်လို စိတ်ချယုံကြည်ရတဲ့ စိတ်ဓာတ်မြင့်မြတ်သူ တစ်ဦးဦးကို အားထားနိုင်တဲ့ အခြေကိုရောက်မှ စိတ်၏ငြိမ်းချမ်းမှုကို ရနိုင်ပါလိမ့်မယ်။ အဲဒီအခါကျမှသာလျှင် သူဟာ ထွက်မြောက်မှုကို ရနိုင်ပါလိမ့်မယ်။

ဒီသဘောဟာ အမှန်တရားဖြစ်ပြီး အဲဒီ အမှန်တရားမျိုးကို စတင်ဒယ်ရဲ့ ဝတ္ထုတွေမှာသာ တွေ့နိုင်ပါတယ်။ တခြားမှာ သိပ်မတွေ့ရပါဘူး။ ဒါကြောင့်သာလျှင် စတင်ဒယ်မှာ ဒီနေ့အထိ စာဖတ်ပရိသတ်တွေ ရှိနေခြင်းဖြစ်ပါတယ်။ သူကလည်း ဒီလိုရှိလိမ့်မယ်လို့ မျှော်လင့်ခဲ့ပါတယ်။ ရှိလိမ့်မယ်လို့လည်း သူ ကြိုမြင်ခဲ့ပါတယ်။

'အဆွေ စာဖတ်သူ၊ အမုန်းပွားခြင်း၊ ထိတ်လန့်ကြောက်ရွံ့ရခြင်းဖြင့် သင်၏ ဘဝကို မကုန်ဆုံးစေပါနှင့်' လို့ စတင်ဒယ်က ရေးခဲ့ပါတယ်။

စတင်ဒယ်ရဲ့စကားကို တစ်နည်းတစ်ဖုံ ပြောခြင်းဖြင့် သူ့ရဲ့အကြံကို ကျွန်တော်တို့လိုက်နာကြပါစို့။

'အဆွေ စာဖတ်သူ၊ အချစ်ဝင်ခြင်း၊ အပြစ်မမြင်ခြင်းဖြင့် သင့်ဘဝကို ကုန်ဆုံးပါစေ'

* * *

# ဝတ္ထုရေးနည်းသစ်အစ ဘားလ်ဇက်က

စာရေးဆရာကြီး ဘားလ်ဇက်ဟာ ၁၉ ရာစုနှစ်ရဲ့ ထင်ရှားတဲ့ ဝတ္ထုရေးဆရာကြီးတစ်ယောက်သာမဟုတ်ပါဘူး။ ပြင်သစ် စာရေးဆရာများထဲမှာတော့ အကြီးကျယ် အထင်ရှားဆုံးဖြစ်တယ်ဆိုတာ ဒီနေ့ တစ်ကမ္ဘာလုံးက လက်ခံအသိအမှတ်ပြုထားရပါပြီ။ စတင်ဒယ်ဟာ ရေးဟန်ပိုကောင်းပြီး တောက်ပပြိုးပြက်ပြီး ကဗျာစကားပြေမျိုးရှိပါတယ်။ ဒါကို ဘာမှ သံသယဖြစ်စရာမလိုပါဘူး။ စတင်ဒယ်ဟာ သူ့ဇာတ်ဆောင်တွေက တစ်ဆင့် သူ့ရဲ့ကိုယ်ပိုင် ကမ္ဘာလောက ကလေးရဲ့ရုပ်ပုံကို ရေးခြယ်ပြနိုင်ပါတယ်။ ဒါပေမယ့် ဘားလ်ဇက်ကတော့ သူ့ခေတ်၊ သူ့ကာလက ကမ္ဘာလောက၊ သူ့ခေတ်က ပတ်ဝန်းကျင်ရဲ့ ရုပ်ပုံလွှာကိုသာမက ရေးခြယ်ပြနိုင်သူပါ။ ဖလောဘေးဟာ မဒမ်ဗိုဗာရီ၊ ဟိုမေး၊ ဖရက်ဒရစ်မိုရီးဟန်း၊ ဘိုးဗတ်၊ ပီကျူးချေး စတဲ့ ခေတ်တိုင်းခေတ်တိုင်းမှာရှိတတ်တဲ့ စရိုက်အမျိုးအစား အနည်းငယ်ကိုသာ ဖော်ပြနိုင်ခဲ့ပါတယ်။ ဒါပေမယ့် ဘားလ်ဇက်ကတော့ အမျိုးသား အမျိုးသမီးတို့ရဲ့ စရိုက်ပေါင်း နှစ်ထောင်လောက်ကို ရေးခြယ်ပြသွားနိုင်ပါတယ်။ သူ့ဇာတ်ဆောင်တွေဟာ သရုပ်ပီပြင်လွန်းတဲ့အတွက် လူ့ဘဝမှာ တကယ်တွေ့ ရတဲ့ လူတွေထက်တောင် ဘဝနဲ့ပိုပြီး နီးစပ်နေတယ်လို့ သူ့ပရိသတ်တွေက ပြော

ကြပါတယ်။ သူ ပီပြင်စွာ ရေးခြယ်သွားတဲ့ ဇာတ်ကောင်တွေဟာ များလွန်းလို့ ဘားလ်ဇက်ဟာ မွေးစာရင်း မှတ်ပုံတင်စာအုပ်ခွဲများ ပြိုင်နေသလားလို့တောင် တချို့က ပြောကြပါတယ်။

ဘားလ်ဇက်ရဲ့ ထူးခြားတဲ့ ပင်ကို အရည်အချင်းကတော့ တခြား မဟုတ်ပါဘူး။ လူဟာ ဝတ္ထုတွေကို ရေးနေတာမဟုတ်ဘဲ ဆရာဝန်တွေ၊ ရှေ့နေ တွေ၊ တရားသူကြီးတွေ၊ နိုင်ငံရေးသမားတွေ၊ ကုန်သည်တွေ၊ ငွေတိုးချေးစားသူ တွေ၊ မိန်းမလည်တွေ၊ ပြည့်တန်ဆာတွေ ပါဝင်နေတဲ့ လူ့အဖွဲ့အစည်းကြီးရဲ့ သမိုင်းကို တစ်တွဲပြီးတစ်တွဲ ရေးပြပြီး သူ ရေးဖွဲ့တဲ့ ကမ္ဘာလောကကြီးဟာ တကယ်ရှိ အဟုတ်ရှိတယ်လို့ ယုံကြည်လက်ခံအောင် ရေးနိုင်စွမ်းရှိတဲ့ အချက် ပါပဲ။ ဝတ္ထုတွေကို စတင်ရေးကာစတုန်းကတော့ ဒီလို ကြီးကျယ်တဲ့ ရည်ရွယ် ချက်ကြီးတွေ မရှိခဲ့သေးဘူးပေါ့။ သူ့ရဲ့ ခပ်စောစောပိုင်း ဝတ္ထုတွေဖြစ်တဲ့ ချီအန်၊ လာပေးဒီရှာဂရင်းနဲ့ ယူဂျင်နီဂရန်းဒက်နဲ့ ၁၈၃၄ ခုနှစ်မတိုင်မီရေးတဲ့ ဝတ္ထုတွေ ထဲမှာ သွားရှာရင်တော့ ဒါမျိုးတွေကို မတွေ့နိုင်သေးပါဘူး။ အဲဒီ ဝတ္ထုများဟာ အပျော်ဖတ် စာရေးဆရာတစ်ယောက်ရဲ့ ကလောင်က တစ်ခါတလေမှာ ထွက် လာတဲ့ ဝတ္ထုမျိုးတွေဖြစ်တယ်လို့ ဝေဖန်ရေးဆရာတွေက ရေးခဲ့ကြတယ်။ ဘားလ်ဇက်ဟာ ဒီဝေဖန်ချက်ကြောင့် အနာပေါ်တုတ်ကျသလို ဖြစ်သွားပါ တယ်။ ဒါကြောင့် အမြဲတစေ သိပ်သည်းပြီး ခွန်အားကောင်းတဲ့ ဝတ္ထုတွေကို ရေးချင်စိတ်ကို နှိုးဆွပေးလိုက်သလိုပါပဲ။ 'လူတစ်ယောက်ဖြစ်ရုံနဲ့ မလုံလောက် သေးဘူး။ စနစ်ကြီး တစ်ခု ဖြစ်သင့်တယ်' လို့ သူ ပြောခဲ့ပါတယ်။

သူပြောတဲ့ စနစ်ကြီးဆိုတာ တခြားမဟုတ်ပါဘူး။ စာရေးဆရာ တစ်ယောက်အနေနဲ့ ကိုယ့်ဇာတ်ဆောင်တွေကို ရေးဖွဲ့တဲ့နေရာမှာ ကိုယ်ရေး တဲ့ဝတ္ထုတိုင်းမှာလိုလို အဲဒီ ဇာတ်ဆောင်တွေကို ထပ်ခါတလဲလဲ ဖော်ပြဖို့ အစီအစဉ်ဖြစ်ပါတယ်။ ဘားလ်ဇက်ဟာ သူကြိုက်တဲ့ အမေရိကန် ဝတ္ထုရေး ဆရာဖြစ်တဲ့ ပင်နီမိုးကူးပါးရဲ့ ဝတ္ထုတွေကိုဖတ်ရင်း ဒီစိတ်ကူးကို ရလာခဲ့တာ ပါ။ ကူးပါးဟာ သူ့ရဲ့ The Last of Mohicans ဝတ္ထုထဲမှာ အိန္ဒိယတိုင်း ရင်းလူမျိုးများအကြောင်းကို ဖော်ပြခဲ့သလို ဘားလ်ဇက်ဟာလည်း အဲဒီနည်း ကိုယူပြီး သူ့ရဲ့ ဝတ္ထုတွေထဲမှာ ချိုယွမ်တွေအကြောင်းကို ဖော်ပြခဲ့ပါတယ်။ ကူးပါးရဲ့ ဝတ္ထုတော်တော်များများမှာ နာမည်ကျော်မုဆိုး Trapper ဖြစ်တဲ့ လဲသားစတော့ကင်းဟာ အမြဲပါပါတယ်။ အရုပ်အရှင်းတွေကို သူပဲ ဖန်တီး ပေးပြီး သူပဲ ဖြေရှင်းပေးခဲ့တာပါ။ ဘားလ်ဇက်ရဲ့ ပျော်ပျော်နေဝတ္ထုကြီးထဲ က ဗောထရင်းဟာလည်း ဒီအတိုင်းပါပဲ။ ဘားလ်ဇက်ဟာ လဲသားစတော့ ကင်း ဇာတ်ဆောင်လုပ်ထားတဲ့ ဝတ္ထုတွေကို တော်တော်သဘောကျခဲ့ပါတယ်။

ဘားလ်ဇက်အပေါ်မှာ ဩဇာလွှမ်းမိုးတဲ့ အင်္ဂလိပ်ဘက်ဖုံမျိုးနွယ် အခြား စာရေးဆရာတစ်ယောက်ကတော့ ဆာဝေါလတာစကော့ဖြစ်ပါတယ်။ ဒါပေမယ့် ဆာဝေါလတာစကော့ရဲ့ ဝတ္ထုတွေထဲမှာ သူ အားမရဖြစ်နေတဲ့ အချက်တစ်ချက်က ဝတ္ထုတွေထဲက အဖြစ်အပျက်တွေဟာ တစ်ခုနဲ့တစ်ခု ဆက်သွယ်မှုမရှိဘဲ တစ်သီးတစ်ခြားလို ဖြစ်နေတဲ့အချက်ပဲ။ ဒီမှာတွင် ဘားလ်ဇက်ဟာ စိတ်ကူးတစ်ခုရပြီး သူ့ဝတ္ထုတွေကို တစ်ပုဒ်နဲ့ တစ်ပုဒ် ဆက်ဖတ်လို့ရအောင် ရေးမယ်ဆိုပြီး ဒီနည်းအားဖြင့် အားလုံးကို ဆက်ဖတ်လိုက်တဲ့အခါမှာ သူနေထိုင်တဲ့ ကမ္ဘာလောကကြီး၊ သူနေထိုင်တဲ့ ပတ်ဝန်းကျင် လူ့အဖွဲ့အစည်းကြီးရဲ့ ရုပ်ပုံကားချက်ကြီးတစ်ခုလုံး ပေါ်လာအောင် ရေးမယ်လို့ ဆုံးဖြတ်လိုက်ပါတယ်။ ၁၈၃၃ ခုနှစ်တုန်းက တစ်နေ့မှာ စိတ်လှုပ်ရှားစွာနဲ့ သူ့ဆီကို ဘားလ်ဇက် ရောက်လာပုံကို သူ့ညီမက ပြောပြပါတယ်။ ဘားလ်ဇက်က သူ့ဝတ္ထုတွေကို ဇာတ်လမ်းစဉ်တစ်ခုလို ရေးမယ့် အစီအစဉ်ကို ရှင်းပြပြီး 'ငါ့ကို နင်တို့ ချီးကျူးကြပေတော့၊ ပြင်သစ် လူ့အဖွဲ့အစည်းကြီးက သမိုင်းဆရာလုပ်မယ်၊ ငါက သူအရေးခိုင်းတဲ့ မှတ်တမ်းတွေကို လိုက်ရေးမယ့် မှတ်တမ်းဆရာ၊ စာကူးစာရေးဆိုပါတော့' လို့ ဘားလ်ဇက်က ပြောတယ်။

အဲဒီ စီမံကိန်းကြီးကို ချမှတ်ပြီးတဲ့နောက် သူ ပထမဆုံးရေးတဲ့ ဝတ္ထုကတော့ ၁၈၃၄ ခုနှစ်မှာ သူရေးတဲ့ ဂိုးရီးယော့ ဝတ္ထုပါပဲ။ စောစောပိုင်းက ရေးခဲ့တဲ့ ဝတ္ထုတွေထဲက ဇာတ်ဆောင်တွေကိုလည်း သူက သူ့စီမံကိန်းနဲ့အညီ ရေးတဲ့ ဝတ္ထုတွေထဲမှာ ဇာတ်ဆောင်တွေအဖြစ် ပြန်အသက်သွင်း အသုံးချပါတယ်။ ဥပမာအားဖြင့် ခပ်စောစောက ရေးခဲ့တဲ့ ဘီယားထရစ် ဆိုတဲ့ ဝတ္ထုထဲက စီနစ်နယ်စားကြီးကို ထလေချိုယွန်း ဆိုတဲ့ ဝတ္ထုထဲမှာ ပြန်ထည့်ပါတယ်။ ပျော်ပျော်နေ ဝတ္ထုထဲမှာပါတဲ့ နယ်စားကတော်ကြီး ဒီရှောလူနဲ့ နယ်စားကြီး နယူဆင်ဂျင်းတို့ဟာ ယူဂျင်းဂရင်းဒက် ဝတ္ထုထဲမှာ ထပ်ပါလာပါတယ်။

ဒါပေမယ့် ဂိုးရီးယော့ ဝတ္ထုမှာတော့ စရေးကထဲက နည်းသစ်ကို သုံးတော့တာပါပဲ။ ထရေစီယော ဝတ္ထုမှာပါတဲ့ ဇာတ်ဆောင်အားလုံးနဲ့ အဲဒီဝတ္ထုမှာ အဓိကဇာတ်ဆောင်တစ်ဦးဖြစ်တဲ့ ထရီးယက် သမိုင်းဝတ္ထုမှာပါတဲ့ ဇာတ်ဆောင် ဒီမာဆေးဟာ ဂိုးရီးယော့ ဝတ္ထုမှာ အောင်မြင်၊ မြူးတူး၊ ရမ်းကား၊ အကျင့်ပျက်မှုအပေါင်း ကိုယ်စားပြုရာ သင်္ကေတဖြစ်လာပါတယ်။ အဲဒီဝတ္ထုထဲက အဓိကဇာတ်ဆောင်ဖြစ်တဲ့ ဒီမာဆေးဟာ ရုပ်ချောတယ်။ ငယ်ရွယ်တယ်။ ဇဝနဉာဏ်ကောင်းတယ်။ လောကကြီးကို လှောင်ပြောင်သရော်တတ်တယ်။ လူ့အဖွဲ့အစည်းကြီးရဲ့ ထုံးတမ်းစဉ်လာဟောင်းတွေကို လိုက်နာချင်ယောင်ဆောင်ပြီး လူ့အဖွဲ့အစည်းကြီးကို အတွင်းကနေ တိုက်ခိုက်တယ်။ ဒီ

မာဆေးဟာ ရှိုးကျကျဝတ်စားတတ်သူ လူတစ်ယောက်အသွင် ဖန်ဆင်းလာတဲ့ ဘိုင်ရွှန်းနစ် ပင်လယ်ဓါးပြတစ်ဦး (အင်္ဂလိပ်ကဗျာဆရာ ဘိုင်ရွှန်လို ကဗျာစာဆို ဖြစ်သော်လည်း ကြမ်းတမ်းပြီး ခွန်တိုက်အားတိုက် လုပ်ရတဲ့ဘဝကို ဖြတ်သန်း ရတဲ့လူ) ဖြစ်ပါတယ်။

ဒါပေမယ့် ဒီမာဆေးဟာ ဇာတ်ဆောင်စရိုက် အဖွဲ့တစ်ခုလို့ ပြောတာထက် သင်္ကေတတစ်ခုလို့ ပြောရင် ပိုပြီး မှန်တယ်ထင်တယ်။ ဒီမာဆေးဟာ စာအုပ်ထဲမှာ ခဏတဖြုတ်ပဲ ပေါ်လာပါတယ်။ ဂိုးရီးယော့ ဝတ္ထုကို ဆုံလည်စားပွဲလို ဘယ်ကနေ လှည့်ဖတ်ဖတ် ဖတ်လို့ရအောင် လှုပ်လိုက်တာ။ အဲဒီဝတ္ထုကို ဘားလ်ဇက်ရဲ့ အဓိကရ ဝတ္ထုကြီးတစ်ပုဒ်ဖြစ်အောင် လုပ်လိုက်တာကတော့ ဒီမာဆေး မဟုတ်ပါဘူး။ ဂိုးရီးယော့ ဝတ္ထုကြီးကြီးကျယ် ထင်ရှားလာခြင်းဟာ အဲဒီမှာပါတဲ့ အဓိကဇာတ်ဆောင် ဂိုးရီးယော့နဲ့ အခြားသူတစ်ဦး ကြောင့် ဖြစ်ပါတယ်။ အဲဒီနှစ်ဦးအကြောင်းကို နောက်မှာ ကျွန်တော်ပြောပါမယ်။ သူတို့နှစ်ဦးဟာ ဘားလ်ဇက်ရဲ့ နောက်ဝတ္ထု အပုဒ်နှစ်ဆယ်မှာလည်း ထပ်ခါတလဲလဲ ပါလာကြပါတယ်။ သူတို့နှစ်ဦးဟာ စာရေး ဆရာဘားလ်ဇက်ရဲ့ လူဝင်စားတွေများလိုလည်း ပြောလို့ရပါတယ်။ သူတို့နှစ်ဦးကတော့ ဗော်ထရင် ဆိုတဲ့လူနဲ့ ယူဂျင်းရာစတိညက် ဆိုသူတို့ ဖြစ်ပါတယ်။

ဗော်ထရင်းဟာ လူ့အဖွဲ့အစည်းကြီးရဲ့ အပြင်ဖက်ကနေပြီး လူ့အဖွဲ့အစည်းကြီးကို ဆန့်ကျင်တိုက်ခိုက်နေတဲ့ ပုန်ကန်ဆန့်ကျင်သူဖြစ် တယ်။ သူလုပ်ရမယ်လို့ သူ့ဘာသာသူ ပိုင်းဖြတ်ထားတဲ့ အလုပ်တွေကို နည်းအမျိုးမျိုးနဲ့ မဆုတ်မနစ် လုပ်တတ်တယ်။ သူက လူတွေရဲ့ပြုမှုလုပ်ဆောင်ချက်တွေကို ပြဋ္ဌာန်းပေးတဲ့ လူ့ရဲ့ ရမ္မက်နှစ်မျိုးရှိတယ်။ အဲဒီ နှစ်မျိုးကတော့ ပိုက်ဆံကို တပ်မက်တဲ့စိတ်နဲ့ ကာမဂုဏ်အာရုံကို တပ်မက်တဲ့စိတ်တို့ဖြစ်တယ်။ ဒီစိတ် နှစ်ခုဟာ လူ့ရဲ့ အပြုအမူတွေကို ဆုံးဖြတ်ပေးနေကြတယ်။ ကျန်တဲ့အရာများ အားလုံးဟာ အပေါ်ယံတွေ၊ အတုအယောင်တွေ၊ ဟန်ဆောင်မှုတွေသာ ဖြစ်တယ်လို့ သူယူဆတယ်။ တစ်နည်းပြောရရင် ဗော်ထရင်ဟာ လူမှုကျင့်ဝတ်တွေအားလုံးကို ရှုတ်ချပြစ်တင်တဲ့ သဘောပါပဲ။ ဗော်ထရင်ဟာ ပါရီတောကြီး မျက်မည်းထဲက တိရစ္ဆာန်ရိုင်းတစ်ကောင် ဖြစ်တယ်။ ပါရီစတက်မြက်ရိုင်းတောကြီးထဲက သားရဲဖြစ်တယ်။ သူဟာ ဖရေရီ မြက်ခင်းထဲက လူရိုင်းတွေရဲ့ သွက်လက်ဖျတ်လတ်မှုမျိုး၊ ကျွမ်းကျင်မှုမျိုးနဲ့ သူ့ရဲ့ သားကောင်တွေကို လိုက်လံဖမ်းဆီးခဲ့တယ်' လို့ ဘာဒီရွှေးက ရေးခဲ့ဖူးပါတယ်။

ဘားလ်ဇက်ဟာ ဗော်ထရင်ရဲ့ စရိုက်အဖွဲ့ထဲမှာ သူ့စရိုက် တော်တော်များများကို ထည့်ရေးထားပါတယ်။ သူ့ခေတ်က လူငယ်တွေရဲ့ ထုံးစံ

အတိုင်း ဘားလ်ဇက်ဟာလည်း နပိုလီယန် စွန့်စားခန်းက ပဲ့တင်သံတွေရဲ့ ခြောက်လန့်တာကို ခံရပါတယ်။ သူဟာ ခွန်အားကို ကိုးကွယ်ဆည်းကပ်သူ ဖြစ်ပါတယ်။ ကမ္ဘာလောကကြီးကို လှုပ်ရှားစေနိုင်သူ၊ ထိန်းချုပ်နိုင်သူလို့ သူ့ကိုယ်သူ ထင်ပါတယ်။ ပျော်ပျော်နေ ဝတ္ထုကြီးဟာ ကမ္ဘာကြီးကို ကိုင်လှုပ်ခဲ့တဲ့အတွက် ဒီနေရာမှာတော့ သူ့အထင်ဟာ မှန်တယ်လို့ ဆိုရမလိုပါပဲ။ သူဟာ ဝတ္ထုရေးဆရာအဖြစ်ကို ရွေးချယ်ခဲ့သည့်တိုင် တစ်ခါတုန်းကတော့ စီးပွားရေးလောကမှာ အောင်မြင်မှုတွေကိုရဖို့ စိတ်ကူးခဲ့ဖူးတယ်။ ငွေအရောင်းအဝယ်လုပ်ငန်းတွေမှာ သူဌေးဖြစ်ဖို့ စိတ်ကူးခဲ့ဖူးတယ်။ ရည်မှန်းချက်ကြီးတွေ ထားခဲ့ဖူးတယ်။ သူ့စိတ်ကူးထဲမှာတော့ သူဟာ ဖားရားဂတ်စ် (အမေရိကန် ပြည်တွင်းစစ်က သူရဲကောင်း) လည်း ဖြစ်ခဲ့ဖူးတာပဲ။ လူဆိုး ဂိုဏ်းခေါင်းဆောင်လည်း ဖြစ်ခဲ့ဖူးတာပဲ။ ဒီမာဆေးလိုလူလည်း ဖြစ်ခဲ့ဖူးတာပဲ။ ထရေလီယို လူမျိုးလည်း ဖြစ်ခဲ့ဖူးတာပဲ။ ဒီလိုဖြစ်ခဲ့တာဟာ သူက ဆိုးသွမ်းရက်စက်လို့ မဟုတ်ပါဘူး။ ဘားလ်ဇက်ဟာ ဆိုးသွမ်းရက်စက်တဲ့ လူစား မဟုတ်ပါဘူး။ တကယ်တော့ လူတစ်ယောက်ရဲ့ စိတ်ကူး၊ ဝတ္ထုရေး ဆရာတစ်ယောက်ရဲ့ ဇာတ်ဆောင်စရိုက်ဆိုတာဟာလည်း တကယ်လက်တွေ့ လုပ်တဲ့အလုပ်နဲ့ ဘာမှ မဆိုင်ပါဘူး။ စိတ်ကူးက စိတ်ကူးပဲ။ လက်တွေ့လုပ်တာမှ မဟုတ်တာ။ ဒါပေမယ့် ကိုယ့်စိတ်ကူးထဲမှာ ရှိတာကို စာထဲထည့် ရေးလိုက်ရတဲ့အတွက်တော့ စိတ်ထဲမှာ နည်းနည်းကျေနပ်မှု ရသွားတာ အမှန်ပဲ။

ဘားလ်ဇက်ဟာ သူ့ဇာတ်ဆောင် ဗော်ထရင်လို ဘယ်တုန်းကမှ မလုပ်ခဲ့ဖူးပါဘူး။ ဒါပေမယ့် သူ့မှာ ဗော်ထရင်လို စာနာစိတ်ရှိနေတယ်။ သူဖန်တီးထားတဲ့ ဗော်ထရင်လို တန်ခိုးဩဇာမျိုးကို သူ အားကျနေတယ်။ အားကျတာထက်တောင် ပိုဦးမယ်ထင်တယ်။ ဘာဖြစ်လို့လဲဆိုတော့ သူက ဟန်ဆောင်တာတွေကို လှောင်ပြောင်သရော်တာမျိုးကို သဘောကျတာကိုး။ ပိုပြီး သဘောကျတာက ဗော်ထရင်ဟာ သစ္စာရှိတယ်။ ဗော်ထရင်ဟာ ရာဇဝတ်ကောင်တစ်ယောက် ဖြစ်ချင်ဖြစ်မယ်။ ဒါပေမယ့် သူဟာ သစ္စာဖောက် တစ်ယောက် မဟုတ်ဘူး။ ဒါကို သူသဘောကျတယ်။

* * *

## ဘားလ်ဇက်နီဒါန်း

'ဂိုးရီးယော့' ဝတ္ထုထဲက ရာစတီညက်ကတော့ ခုမှ ဖွံ့စည်းစပြုနေတဲ့ ဇာတ်ဆောင်စရိုက်တစ်ခုပါ၊ သူက လူငယ်တို့ရဲ့ စိတ်ကူးယဉ်ဘဝထဲက နေပြီး ခက်ထန်ကြမ်းတမ်းတဲ့ လူကြီးဘဝကို ကူးပြောင်းနေတဲ့ သရုပ်ကို ကိုယ်စားပြုပါတယ်။ ရာစတီညက်ဟာ လူငယ်ဘဝမှာပဲ ရှိနေသေးပြီး ကြီးရင့်ခြင်း မရှိသေးဘူး။ တောကနေ ပါရီကို ရောက်လာတော့ သူ့မှာ သူ့အမေနဲ့ သူ့အစ်မတို့မှာ ရှိတဲ့ မိသားစုကို ချစ်ခင်တွယ်တာတဲ့စိတ်မျိုးတွေ ရှိနေသေးတယ်။ မိသားစုရဲ့ ချစ်ခင်တွယ်တာမှုမျိုးတွေ၊ သံယောဇဉ်တွေ ကျန်နေသေးတယ်။ ဒါကြောင့်မို့ ဗော်ထရင်က ဘာတွေပဲပြောပြော လောကကြီးဟာ သူပြောသလို ရစရာမရှိအောင် ဆိုးသွမ်းပျက်စီးနေတယ်လို့တော့ သူ မယုံကြည်သေးဘူး။ ဒါပေမယ့် ရာစတီညက်ဟာ (ဘော်လ်ဇက်လိုပဲ) အသက်နှစ်ဆယ်လောက်မှာ ပိုက်ဆံမရှိ ဘာမရှိနဲ့ အချစ်နဲ့ဂုဏ်ကို ပိုက်ဆံနဲ့ရောင်းစားရာဖြစ်တဲ့ ပါရီမြို့ကြီးကို ရောက်လာခဲ့တယ်။ ပါရီရောက်တော့ ပါရီမှာ လူငယ်လူရွယ်တွေက မိန်းမတွေကိုမှီပြီး လူရာဝင်နေကြတာ၊ မိန်းမတွေကလည်း အဘိုးကြီးတွေကိုမှီပြီး လူရာဝင်နေကြတာတွေကို တွေ့တဲ့အခါမှာ (မိန်းမတွေက အသက်အရွယ်ကြီးတဲ့ မှူးမတ်ကြီးတွေ၊ သဌေးကြီးတွေကို လင်လုပ်ပြီး သူတို့ကိုမှီစား၊ လူရွယ်တွေက

အဲဒီမိန်းမတွေရဲ့ အပျော်လင်အဖြစ် သူတို့ကို မှီစား) သူလည်း ဒါတွေကို အားကျတယ်။ သူတို့လို သည်ပုတ်ထဲသည်ပဲ ဖြစ်သွားတယ်။ သူ့မှာ အရင်းအနှီးဆိုလို့ ပျို့ရွယ်မှုနဲ့ ရုပ်ပဲရှိတယ်။ ဒီတွင် ရာစတီညက်ဟာ ဗော်ထရင်ရဲ့ နည်းနာကိုခံပြီး အဲဒီ အရင်းအနှီးတွေကို ဘယ်လိုအသုံးချရမယ်ဆိုတာကို နားလည်ထားတယ်။ ဗော်ထရင်က တောကရောက်လာတဲ့ ရုပ်ချောချော၊ ခပ်ငယ်ငယ် ရာစတီညက်ကို ပါရီမြို့တော်ကြီးမှာ လူရာဝင်အောင် သင်ပေးပုံကို ဘာလ်ဇက်က သူ့ ဝတ္ထုထဲမှာ ဒီလိုရေးထားတယ်။

'ဒီမှာ (ပါရီ) ဘယ်လို လူရာဝင်အောင်လုပ်ရသလဲဆိုတာ မင်းသိရဲ့လား၊ ငါပြောပြမယ်၊ လူရာဝင်အောင် လုပ်တဲ့နည်း နှစ်နည်းရှိတယ်။ တစ်နည်းက မင်းဟာ လူတော်ဖြစ်ရမယ်၊ လူတော်ဖြစ်အောင် ကြိုးစားရမယ်၊ ဒါမှမဟုတ်ရင်လည်း လူလည်ဖြစ်ရမယ်၊ ဒီမှာ ရိုးသားနေလို့ အလကားပဲ၊ ပါရီမှာ တစ်ယောက်ကိုတစ်ယောက် ချောက်မတွန်းလို့မရဘူး။ တစ်ယောက်ကို တစ်ယောက် 'ဖျံ' မကျလို့မရဘူး။ ဘဝဆိုတာ ဒီအတိုင်းပဲကွ၊ မီးဖိုချောင်ထက် ဘာမှ ပိုမကောင်းဘူး။ မီးဖိုချောင်လိုပဲ နံစော်နေတာပဲ။ အွန်းမလက် ကြက်ဥကြော်လုပ်ချင်ရင် ကြက်ဥကို မခွဲဘဲနဲ့ လုပ်လို့မရဘူး။ လက်မပေဘဲ လုပ်လို့မရဘူး။ အဲ . . . ပြီးရင်တော့ လက်ဆေးဖို့ မမေ့နဲ့၊ အရေးကြီးဆုံးက အဲဒါပဲ။

ခု တို့ဖြတ်သန်းနေတဲ့ ခေတ်ကြီးနဲ့ လိုက်တဲ့ကျင့်ဝတ်က အဲဒါပဲ။ ဒီလိုပြောတော့ ငါပြောတာ ရမ်းလှချည်လားလို့ ထင်လိမ့်မယ်။ မဟုတ်ဘူး။ ငါ့မှာ ပြောပိုင်ခွင့်ရှိလို့ ပြောတာ၊ ပြောစရာအကြောင်းရှိလို့ ပြောတာ၊ ဒီခေတ်ကြီးအကြောင်းကို ငါသိလို့ ပြောတာ၊ ငါက ဘေးထိုင်ပြီး သူများကို စီရင်ချက်ချနေတယ်လို့ မထင်လိုက်နဲ့၊ စီရင်ချက်ချနေတာ မဟုတ်ဘူး။ ဘဝဆိုတာ ဒီအတိုင်းပဲ။ တကယ်တော့ စာရိတ္တကို ပြုပြင်မယ်ဆိုတဲ့ နီတိဆရာတွေဟာ ဘာကိုမှ ပြင်နိုင်တာမဟုတ်ဘူး။ လူဆိုတာ မွေးကတည်းက ချို့ယွင်းချက်နဲ့ မွေးလာကြတာချည်းပဲ'

ဒီစကားတွေကို ကြည့်ရင် ဘောလ်ဇက်ဟာ လူ့လောကကြီးကို ရန်လိုတဲ့ သဘောထား၊ လူ့လောက ဆန့်ကျင်တဲ့ သဘောထားတွေရှိတယ်ဆိုတာ သိနိုင်တယ်၊ ဒီဝေဖန်ချက်ကို ရေးနေစဉ်မှာ ဘာလ်ဇက်ဟာ ဗော်ထရင်ဖြစ်နေတယ်။ ဒီလိုရေးတဲ့အတွက် (ရာစတီညက်လိုပဲ) သူ့မှာ ကြင်နာသနားတဲ့ဘက်၊ ချစ်စရာကောင်းတဲ့ဘက် မရှိတော့ဘူးလို့တော့ ပြောလို့မရဘူးပေါ့။ စာရေးဆရာမ ဂျော့ဆင်းက 'ဘာလ်ဇက်ဟာ ပင်ကိုအားဖြင့် ကောင်းတဲ့လူတစ်ယောက်ပါ၊ ဒါဟာ ကျွန်မ သူ့ကိုပေးနိုင်တဲ့ ဂုဏ်ပြုလက်ဆောင်ပါ' လို့ ပြောခဲ့သလိုပေါ့။

ဒါပေမယ့် ရာစတီညက်နဲ့ များစွာသော လူများလိုပဲ ဘားလ်ဇက် ဟာလည်း သူကိုယ်တိုင်နဲ့ ပြန်ပြီး ရန်ဖြစ်နေတဲ့ လူတစ်ယောက်ပါ။ သူဟာ အမျိုးသမီးတွေထဲမှာ ကောင်းမွန်မြင့်မြတ်မှုကို တွေ့ရင် အလွန်လေးစား တန်ဖိုး ထားတဲ့သူ ဖြစ်ပါတယ်။ ဒီအချက်ကို သူ့ရဲ့ တခြားဝတ္ထုတွေထဲမှာ တွေ့နိုင်ပါ တယ်။ ဒါပေမယ့် ရာစတီညက်လိုပဲ ဘားလ်ဇက်ဟာ အလိုမပြည့်တာတွေ၊ ဒေါသထွက်ရတာတွေနဲ့အတူ ဆင်းရဲနွမ်းပါးမှုကို ကိုယ်တွေ့ ဖြတ်သန်းကြုံ တွေ့ခဲ့ရသူဖြစ်ပြီး ဘယ်နည်းနဲ့ပဲဖြစ် ဖြစ် ဒီအဖြစ်မျိုးကိုတော့ နောက်တစ်ခါ ပြန်အဖြစ်မခံတော့ဘူးလို့ ပိုင်းဖြတ်ထားသူ ဖြစ်ပါတယ်။

'ဂိုးရီးယော့' ဝတ္ထုထဲက ရာစတီညက်ဟာ အဲဒီအချိန်အထိ ဟီရို ဩတ္တပ္ပစိတ်တွေ ရှိနေသေးတယ်။ ဗော်ထရင်က လူတွေကို ဘယ်လိုလိမ်ခဲ့ ညာခဲ့ကြောင်း ပြောပြတဲ့အခါမှာ သူဟာ နားထောင်ရင်း ကြက်သီးမွေးညင်း ထနေတယ်။ မဒမ်ညူစင်ဂျင်း ဆိုတဲ့ အမျိုးသမီးဆီက ပိုက်ဆံတွေ ညာယူတဲ့ အဖြစ်မျိုးဟာ အောက်တန်းကျတယ်လို့ထင်တယ်။ ငတ်ချင်ရင် ငတ်ပေ့စေ၊ ဒီကရေရီလိုလူမျိုးတော့ အဖြစ်မခံဘူး။ ဟိုးရေ့စဖျန်ချုံတို့ကို လူမျိုးက သူ့ကို အထင်ကြီးလေးစားတာကို သူ တန်ဖိုးထားတယ်၊ ဂိုးရီးယော့ကိုလည်း အဖ သဖွယ် ရိုသေကိုင်းရှိုင်းတယ်။ ဂိုးရီးယော့ သေတဲ့အခါကျတော့ ပူဆွေးသောက ရောက်တဲ့လူဆိုလို့ သူနဲ့ ဂိုးရီးယော့ရဲ့တပည့် ခရစ္စတိုဖီ နှစ်ယောက်ပဲရှိတယ်။

ဒါပေမယ့် . . . ဒါပေမယ့် . . . ရေရှည်ကျတော့ ရာစတီညက်ဟာ လက်မြှောက်အရှုံးပေးသွားခဲ့တယ်။ တစ်နည်းပြောရရင် လောကကြီးနဲ့ ဓေ့စပ် ရေးလုပ်ပြီး သင့်မြတ်သွားတယ်လို့လည်း ဆိုနိုင်တယ်။

ရာစတီညက်ကို နောက်တစ်ကြိမ် ကျွန်တော်တို့ပြန်တွေ့တဲ့အခါကျ တော့ သူဟာ နယ်စားကြီးတစ်ဦး၊ ဒုတိယဝန်ကြီးတစ်ဦး၊ သူ့အပျော်မယားရဲ့ ယောက်ျားနဲ့ တစ်ကျိတ်တည်း၊ တစ်ဉာဏ်တည်း သမားတစ်ဦးဖြစ်နေတာကို တွေ့ရပါတယ်။ ၁၈၄၅ ခုနှစ်မှာ သူဟာ ဝန်ကြီးတစ်ဦး၊ နယ်စားကြီးတစ်ဦးနဲ့ ပြင်သစ် သူကောင်းမျိုးရိုးနွယ်ဝင်တစ်ဦးဖြစ်နေပြီး၊ တစ်နှစ်ကို ပုံမှန်ဝင်ငွေ ပြင်သစ်ဖရန့် သုံးသိန်းရှိတဲ့ ပုဂ္ဂိုလ်ကြီးတစ်ဦးဖြစ်နေပါပြီ။ လောကမှာ အကြွင်း မဲ့ သီလနဲ့ပြည့်စုံသူဆိုတာ မရှိဘူး။ အခြေအနေအရ ကြည့်လုပ်ရတာမျိုးပဲ ရှိတယ်' လို့ ရာစတီညက်က ပြောခဲ့တယ်။ ဘားလ်ဇက်ဟာ ရာစတီညက်ကို ရေးခြယ်ပြရာမှာ ပြင်သစ်နိုင်ငံရေးခေါင်းဆောင် သိုင်းယားစ်ကို ကြည့်ရေးတယ် လို့ မကြာခဏပြောလေ့ရှိကြတယ်။

မှန်ပါတယ်။ ဘားလ်ဇက်ဟာ ရာစတီညက်ကို ဖန်တီးရာမှာ ပြင် သစ်နိုင်ငံရေးခေါင်းဆောင်ရဲ့ စရိုက်တွေကိုယူပြီး ရေးပြတာဖြစ်နိုင်ပါတယ်။ ဒါ

ပေမယ့် ရာစတီညက်ရဲ့ အဓိကကျတဲ့ စရိုက်သဘာဝတွေကတော့ တခြားဘယ်ကမှ ရှာတွေ့တာမဟုတ်ဘဲ သူ့ကိုယ်ပိုင်စရိုက်ထဲက ရှာတွေ့သွားတာပါ။ ဒက်ဖနီဒီချူစီဂျင်းရဲ့အိမ်မှာ စက်ကျပြီး အပျော်ကြီး ပျော်နေတဲ့ ရာစတီညက်။ ပထမဆုံးဝတ်ရဖူးတဲ့ အကောင်းစားဝတ်စုံကို ဝတ်ပြီး ကလေးငယ်ကလေးတစ်ယောက်လို ဝမ်းသာကြည်နူးနေတဲ့ ရာစတီညက်၊ ဘာမဟုတ်တာကလေးတွေနဲ့ ဘဝင်မြင့်ပြီး ကိုယ့်ကိုယ်ကို ကျေနပ်နေတဲ့ ရာစတီညက်ဟာ မှူးမတ်ကတော်ကြီး ဒီကတ်စထရီရဲ့ ဖြေဖျော်မှုကို သဘောကျနေတဲ့ ဘားလ်ဇက်၊ နောက်မှာ မဒမ်ဟန်စကာရဲ့ အယူအဆတွေမှာ ကျေနပ်နေတဲ့ ဘားလ်ဇက်ပဲ ဖြစ်ပါတယ်။ ကမ္ဘာမှာ ကြီးကျယ်ထင်ရှားတဲ့ ဝတ္ထုကောင်းကြီးတွေဟာ လူ့ဘဝကြီးထဲကိုတိုးဝင်ဖို့ စမ်းတဝါးဝါးနဲ့ လျှောက်လှမ်းနေရတဲ့ လူငယ်ကလေးတစ်ယောက်အကြောင်းကို ရေးခြယ်ပြတဲ့ဝတ္ထုများဖြစ်တတ်ပါတယ်။ (ဥပမာအားဖြင့် ဝီလျံမေတာ၊ အနီနဲ့အနက်၊ ဒေးဗစ်ကောပါးဖီ စတဲ့ဝတ္ထုတွေ ဖြစ်တယ်။) အဲဒီဝတ္ထုကြီးတွေရဲ့ အနှစ်ချုပ်ကတော့ လူငယ်လေးတစ်ယောက်ရဲ့ မျှော်လင့်ချက်တွေနဲ့ အကြင်နာကင်းတဲ့ လောကခံတို့ကြားက ပဋိပက္ခပဲ ဖြစ်ပါတယ်။

ရာစတီညက်ရဲ့ ဇာတ်လမ်းတစ်စိတ်တစ်ဒေသအနေနဲ့ ကြည့်လိုက်လျှင် ဂိုးရီးယော့ ဝတ္ထုဟာ အဲဒီလို လူငယ်ကလေးတစ်ယောက်ရဲ့ ဘဝတိုက်ပွဲကို ဖော်ပြတဲ့ဝတ္ထုတစ်ပုဒ်လို့ ပြောနိုင်တယ်။ အဲဒီဝတ္ထုကို ဖတ်လိုက်တဲ့အခါမှာ လောကကြီးဟာ 'သွေးတွေစွန်းပေနေတဲ့အစွယ်တွေ၊ ခြေသည်း လက်သည်းတွေရသည့်တိုင် ပျော်မြူးစရာတွေနဲ့ ပြည့်နှက်နေတဲ့ နေရာကြီး' လို့ လူငယ်စာဖတ်သူတွေကို အထင်ရောက်လာစေခဲ့ပါတယ်။ 'ဂိုးရီးယော့' ဝတ္ထုထဲမှာ ခေါင်းစဉ်ငယ်တစ်ခုဖြစ်တဲ့ 'မာယာဘုံ' ဆိုတဲ့ခေါင်းစဉ်ဟာ အဲဒီ အခန်းမှာ ဖော်ပြထားတဲ့ အဖြစ်အပျက်များနဲ့ တော်တော်လိုက်ဖက်ပြီး သရုပ်သကန်ပေါ်လှတဲ့ ခေါင်းစဉ်ဖြစ်ပါတယ်။

* * *

# ဘားလ်ဇက်နိဒါန်း

မဒမ်ဒီဗျူးဆင့်က လောကထဲကို မဝံ့မရဲနဲ့ရောက်လာတဲ့ လူငယ်ကလေးကို အထက်တန်းလွှာအသိုင်းအဝိုင်းမှာ မိတ်ဆက်ပေးပုံ၊ မဒမ်ဒီရီဆင်းက ပရစ်ရဲ့ဝတ္ထုထဲက ဇာတ်လိုက်မင်းသမီးတွေလို ချောမောလှပပြီး အန္တရာယ်များလှတဲ့ မိန်းမတောတွေထဲကို ခေါ်သွားပုံ၊ မဒမ်ဒီနျူစီဂျင်းက သူ့ကို သူဌေးသူကြွယ်လောက၊ စီးပွားရေးလောကထဲကို ဝင်ဆန့်အောင် လုပ်ပေးပုံ စသည်တို့ဟာ ၁၉ ရာစုနှစ်တုန်းကလို ဒီနေ့ခေတ်သစ်မှာလည်း တွေ့နေရပါသေးတယ်။ ကျွန်တော် ရာစတီညက်လို လူတွေ တော်တော်များများကို တွေ့ခဲ့ဖူးပြီး သူတို့ရဲ့ ဒပ်ဖနီများဟာလည်း ဘယ်လိုမိန်းမတွေဖြစ်မယ်ဆိုတာ အခက်အခဲမရှိ မှန်းဆနိုင်ပါတယ်။

အဲ . . . ဂိုးရီးယော့ကတော့ ဘားလ်ဇက်မှာရှိတဲ့ ရမ္မက်မျိုးတွေရဲ့ လွှမ်းမိုးမှုကို ခံတဲ့လူတစ်ယောက်ရဲ့ ထင်ရှားတဲ့ စံနမူနာတစ်ခုပါပဲ။ ဘာဖြစ်လို့လဲဆိုတော့ ဝတ္ထုရေးဆရာ ဘားလ်ဇက်ကိုယ်တိုင် မိမိကိုယ်ကို ပျက်စီးခြင်းကို ရောက်စေမယ့် ရမ္မက်တွေ၊ ခံစားချက်တွေကို နှစ်ခြိုက်ခုံမင်တတ်လို့ပါပဲ။ သူ့ဝတ္ထုတွေထဲက ဇာတ်ဆောင်တွေဖြစ်တဲ့ ဂရန်ဒေးရဲ့ လောဘမျိုး၊ ဟူးသော့ရဲ့ အပျော်အပါး ဝါသနာထုံပုံမျိုး၊ ကာဆင်ပိုးရစ်ရဲ့ အရူးထပုံမျိုး၊ ဟားရီးယက်ဒီမာဆော့ရဲ့ ချစ်တတ်ပုံမျိုး၊ ဂိုးရီးယော့ရဲ့ သားသမီးကို အလိုလိုက်ပုံမျိုး စသည်တို့

ဟာ ဝတ္ထုရေးဆရာ ဘားလ်ဇက်ကိုယ်တိုင် သဘောကျ နှစ်ခြိုက်တဲ့ ခံစားချက်မျိုးတွေဖြစ်ပါတယ်။ ဝတ္ထုအစမှာ ကျွန်တော်တို့ဟာ အချိန်မီကယ်လို့ ရနိုင်သေးတဲ့ ဂိုးရီးယော့ကို တွေ့ရပါတယ်။ အဲဒီအချိန်မှာ ဂိုးရီးယော့ဟာ သူ့သမီးတွေကို စည်းစိမ်ဥစ္စာ တော်တော်များများကို သုံးဖြုန်းပစ်ခဲ့ပြီးပြီ။ ဆင်းရဲသားရပ်ကွက်ကလေးထဲကို သွားနေရတဲ့အဖြစ်မျိုးကို ရောက်နေပါပြီ။ ဒါပေမယ့် သူ့မှာ ကျန်သင့်သလောက်တော့ ကျန်ပါသေးတယ်။ ဝတ္ထုရဲ့ ဇာတ်ကြောင်းအရ(ဒါဟာ ဘားလ်ဇက် ဇာတ်ကြောင်းလို့လည်း ဆိုနိုင်ပါရဲ့။) သူဟာ တစ်ခုပြီးတစ်ခု အလျှော့ပေး၊ တစ်ခုပြီးတစ်ခု စွန့်လွှတ်အနစ်နာခံပြီး နောက်ဆုံးမှာ ရှောင်လွှဲမရတဲ့ ပျက်စီးခြင်းကို ရောက်ရမှာဖြစ်ပါတယ်။

ဂိုးရီးယော့ဟာလည်း ဂရန်းဒေလို၊ ဘာလ်သာဇါလို လမ်းကို လျှောက်နေပါတယ်။ သူ့သမီးတွေကို ချစ်လိုက်ပုံကလည်း နောက်ဆုံးတော့ အရူးကြီးတစ်ပိုင်းလို ဖြစ်နေပါတယ်။ သူ့သမီးတွေကိုချစ်တဲ့ အချစ်ဟာ သိပ်ကြီးမားလေတော့ ဘာကိုမျှ မစဉ်းစားနိုင်ဘဲဖြစ်သွားပါတယ်။ သူ့ရဲ့ သားသမီးကိုချစ်တဲ့အချစ်ဟာ ကျင့်ဝတ်သိက္ခာ၊ လူမှုရေးစောင့်ထိန်းမှုတွေ အားလုံးကို ဖျက်ဆီးပစ်လိုက်ပါတယ်။ 'ဂိုးရီးယော့သည် စဉ်းစားဆင်ခြင်တတ်သူ မဟုတ်၊ ပိုင်းခြားစီစစ်တတ်သူ မဟုတ်၊ သူသည် ချစ်ရုံသာ ချစ်တတ်သူဖြစ်သည်' လို့ ဘားလ်ဇက်က ရေးခဲ့ပါတယ်။ သူဟာ ရာစတီညက်ကို ချစ်ပါတယ်။ ဘာဖြစ်လို့လဲဆိုတော့ သူ့သမီးက ရာစတီညက်ကို ချစ်တဲ့အတွက်ကြောင့်ပါ။ ဂိုးရီးယော့ဟာ မြေကြီးပေါ်မှာ လဲနေရာက သူ့သမီးရဲ့ ဝတ်ရုံကို နမ်းရှုံ့ပါတယ်။ ဘုန်းတော်ကြီးက ကြွေရည်သုတ်လက်ဝါးကပ်တိုင်ကို သူ့နှုတ်ခမ်းနားမှာ ကပ်ပေးထားတာကို အားမရလို့ ဘုန်းတော်ကြီး လက်ထဲက လက်ဝါးကပ်တိုင်ကို အတင်းလုယူပြီး တွယ်ဖက်ထားတဲ့ ဂရန်ဒေးရဲ့ ဇောကပ်ပုံမျိုးအတိုင်းပါပဲ။ ဘားလ်ဇက်ရဲ့ ကဗျာညဏ် ကဗျာစိတ်ကူးဟာ အဲဒီလို အလွန်အကျူး ထိတ်လန့်စရာကောင်းတဲ့ ခံစားချက်တွေကို သင်္ကေတနဲ့ ဖော်ပြတတ်တဲ့ ကဗျာညဏ်မျိုးဖြစ်ပါတယ်။ ဇောကပ်နေတဲ့ ဘားလ်ဇက်ဟာ အဲဒီလို ဒေါသသင့်တဲ့ သင်္ကေတမျိုးကို သဘောကျတတ် ပါတယ်။

ကယောင်ကတန်းဖြစ်နေတဲ့ အဘိုးအို ဂိုးရီးယော့ဟာ လူ့ထုံးတမ်းစဉ်လာတွေ၊ ကျင့်ဝတ်တွေ၊ လူ့အဖွဲ့အစည်းရဲ့ သတ်မှတ်ချက်တွေကို သတိမရတော့ပါဘူး။ ဒီတော့ ဘားလ်ဇက်ဟာ ဒုတိယ ဇာတ်ဆောင်တွေက တစ်ဆင့် လူ့အဖွဲ့အစည်းကြီးတစ်ခုကို တည်ဆောက်ပြပါတယ်။ သူ့ဝတ္ထု ခိုင်ခိုင်မာမာဖြစ်ဖို့အတွက် နောက်ခံပြုရမယ် မဟုတ်လား။ ဒီတော့ အရူးတစ်ပိုင်းလိုဖြစ်နေတဲ့ ဂိုးရီးယော့ကို မဏ္ဍိုင်ထားပြီး တည်ဆောက်ပြရင် သရုပ်မပေါ်မှာစိုးတဲ့

အတွက် သူ့ ဒုတိယဇာတ်ဆောင်များကို မဏ္ဍိုင်ပြုပြီး ပတ်ဝန်းကျင်နောက်ခံကို တည်ဆောက်ပြတာဖြစ်တယ်လို့ ဆိုနိုင်ပါတယ်။

'ဂိုးရီးယော့' ဝတ္ထုထဲက ကမ္ဘာလောကဟာ ပြင်ပမှာ ဘားလ်ဇက် ကျင်လည်နေတဲ့ လောကရဲ့ပုံတူ ဖြစ်ပါတယ်။ အဲဒီဝတ္ထုထဲမှာ ကျွန်တော်တို့ဟာ ဆေးကျောင်းသားကလေး ဘဝမှာပဲ ရှိသေးတဲ့ ဟိုးရေ့စ်ဗျန်ချန်ကို တွေ့ရပါတယ်။ နောက်ရေးတဲ့ သူ့ရဲ့ 'ပျော်ပျော်နေ' ဝတ္ထုကြီးထဲမှာတော့ ဟိုးရေ့ဗျန်ချန်ဟာ နာမည်ကျော် ဆရာဝန်ကြီးတစ်ယောက်ဖြစ်နေပါပြီ။ အဲဒီ ဝတ္ထုမှာပဲ ငွေတိုးချေးစားတဲ့ နှုတ်ခမ်းပါးပါးနဲ့ ဂိုးဘက်ရဲ့ ပုံသဏ္ဍာန်ကို ရိုးတိုးရိပ်တိတ် တွေ့လိုက်ရပါတယ်။ နောက်ရေးတဲ့ 'ဂိုးဘက်' ဝတ္ထုထဲမှာတော့ ကျွန်တော်တို့ဟာ ငွေတိုးချေးစားသူရဲ့ ရှုပ်ထွေးပေလီတဲ့ အိမ်ကြီးထဲမှာ ဇာတ်သိမ်းခန်းကို တွေ့ရတော့တာပါပဲ။ အဲဒီအိမ်ကြီးထဲမှာ ဂိုးရီးယော့ရဲ့ သမီးအကြီးနဲ့ မဒမ်ဒီဆရေလီတို့စနက်ကြောင့် ဂိုးဘက် ဇာတ်သိမ်းသွားရပုံကို ဖတ်ရပါတယ်။ အချစ်ကို ယုံမှတ်မိလို့ ဒုက္ခနဲ့ဇာတ်သိမ်းသွားရတဲ့ ကလဲယာဒီဗျူးဆင့်ကို တွေ့ရပါတယ်။ အဲဒီ ဝတ္ထုထဲက မုဆိုးမ ဗောကွား၊ အပျိုကြီး မီချူနောတို့ဟာလည်း မေ့နိုင်စရာမရှိတဲ့ ဇာတ်ဆောင်တွေဖြစ်ပါတယ်။ ဂိုးရီးယော့ရဲ့ ထမင်းချက်နဲ့ သူ့ တပည့်ကျော် ခရစ္စတိုဖီတို့ဟာ ဇာတ်စင်ပေါ်မှာ ခဏတဖြုတ်သာပေလာတဲ့ ဇာတ်ဆောင်တွေဖြစ်ပေမယ့် စာဖတ်သူတွေရဲ့ စိတ်ထဲမှာ တစ်ဘက်သတ်စွဲပြီး ကျန်ရစ်ခဲ့ကြတဲ့ ဇာတ်ဆောင်များဖြစ်ပါတယ်။ အဲဒီ ဇာတ်ဆောင်များဟာ မာစယ်ပရစ်ရဲ့ ဝတ္ထုတွေက ဇာတ်ဆောင်များလို သုံးဘက်မြင် ရုပ်လုံးကြွတွေဖြစ်ပြီး သူတို့ဟာ ဇာတ်လမ်းတစ်လျှောက်လုံးမှာ အမျိုးမျိုး စရိုက်ပြောင်းလဲ၊ အမျိုးမျိုး အသွင်ပြောင်းသွားကြတဲ့အတွက် စာဖတ်သူတွေရဲ့ စိတ်ထဲမှာ အချိန်ကာလရဲ့ ဖြတ်သန်းစီးဆင်းသွားမှုကို ခံစားထိတွေ့လိုက်ရပါတယ်။

ဒါပေမယ့် စာဖတ်သူရဲ့ စိတ်ထဲမှာ ဘားလ်ဇက် ဖန်တီးထားတဲ့ ကမ္ဘာလောကကြီးကို တကယ်အဟုတ်ရှိတဲ့ ကမ္ဘာလောကကြီးလို့ ထင်မှတ်သွားရတာဟာ ဇာတ်ဆောင်တွေချည်းကြောင့်တော့ မဟုတ်ပါဘူး။ နောက်ခံကားတွေကြောင့်လည်း ဖြစ်ပါတယ်။ နောက်ခံကားဆိုရာမှာလည်း ဇာတ်စင်ပေါ်မှာ ရေးထားတဲ့ နောက်ခံကား အဆင်အပြင်မျိုး သက်သက်မဟုတ်ဘဲ တကယ့်ဘဝနဲ့တူအောင် ရေးခြယ်ပြသွားပါတယ်။ ဒါကြောင့်မို့သာလျှင် 'ဂိုးရီးယော့' ဝတ္ထုဟာ ပဏာမနိဒါန်းတွေ သွယ်ပြီး ရှည်လျားနေရခြင်းဖြစ်ပါတယ်။ ဝတ္ထုရေးဆရာ အတတ်ပညာကို နားမလည်တဲ့ စာဖတ်သူများကတော့ ရှေ့ပိုင်းဟာ ရှည်လျားလွန်းတယ်လို့ ထင်ကောင်းထင်ကြပါလိမ့်မယ်။ ဒါပေမယ့် ရှေ့ပိုင်းက အိုင်ကျင်းဖွဲ့သွားပုံဟာ နှစ်သက်စရာကောင်းပြီး သရုပ်ပီပြင်လှပါ

တယ်။ နောက်ပိုင်းမှာ ဓာတ်ကို 'သယ်' ဖို့အတွက် လှုလှုပပ အိုင်ကျင်းဖွဲ့တဲ့ သဘော ဖြစ်ပါတယ်။ ဘားလ်ဇက်ဖွဲ့ပြသွားတဲ့ စိန့်ဂျီနီဗီလမ်းရဲ့ ရှုခင်းဟာ ဓာတ်ရုပ်တွေ တစ်ရုပ်ပြီးတစ်ရုပ် တင်ပြမယ့် ကားဘောင်ကြီးဖြစ်ပါတယ်။ နောင်ဖြစ်ပေါ်လာမယ့် စိတ်ညစ်ညူးဖွယ် အဖြစ်အပျက်တွေအတွက် ပြင်ဆင်ပေးတဲ့သဘောနဲ့ အရောင်မှိုင်းမှိုင်းတွေ၊ အရောင်ရင့်ရင့်တွေကို ကြိုတင်သုံးပြထားတဲ့ သဘောပါပဲ။ ဗောကားဘော်ဒါဆောင်ရဲ့ ပုံသဏ္ဍာန်ဟာ တော်တော်အသုံးတည့်ပြီး အဲဒီ ဘော်ဒါဆောင်ကို သေသေချာချာ တည်ဆောက်ပြထားပါတယ်။ 'ဘော်ဒါဆောင်သည် စာဖြင့် ဖော်ပြခြင်းငှါ မစွမ်းနိုင်သော အနံ့အသက်တို့ဖြင့် ထောင်းထောင်းထလျက်ရှိ၏။ ထိုအနံ့အသက်သည် ဘုံတည်းခိုအိမ်၏ အနံ့အသက်တစ်မျိုးဟု ဆိုနိုင်၏။ မီးခိုးနံ့၊ မှိုနံ့နှင့် ချဉ်စူးသည့် ထောပတ်နံ့တို့ဖြင့် မွှန်လျက်ရှိ၏။ ထိုအိမ်မှ ပြန်ထွက်လာသည့်တိုင် အနံ့သည် နှာခေါင်းတွင် စွဲ၍ပါလာကာ အဝတ်အစားများတွင် စွဲကပ်ပါလာ၏။ စားကြွင်းစားကျန်တွေ တိုးလိုးတန်းလန်း ထားပစ်ခဲ့သည့် အခန်းတစ်ခန်းထဲသို့ ဝင်ရသကဲ့သို့ ရှိပြီး နောက်ဖေးချောင်နံ့၊ မီးဖိုချောင်နံ့၊ သူဆင်းရဲဂေဟာနံ့တို့ နံစော်လျက်ရှိပေ၏' လို့ ဘားလ်ဇက်က ရေးခဲ့ပါတယ်။

ဒါတွင် မကသေးပါဘူး။ ဘယ်နေရာ ကြည့်လိုက် ကြည့်လိုက် ဆီချေးတွေ တက်နေတာကို တွေ့ရပါတယ်။ ကြောင်အိမ်ကို ထိုင်ကြည့်လိုက်တော့လည်း စေးကပ်ကပ်၊ စားပွဲတွေ၊ ကုလားထိုင်တွေကလည်း ဟောင်းနွမ်းယိုင်နဲ့ပြီး ခြစားတဲ့ကောင်က စားလို့။ စုတ်ပြတ်သတ်နေပုံကလည်း နည်းနည်းကလေးမှ ကဗျာဆန်ဖို့  မကောင်း။ ကပ်ကျန်မွဲတေ ဖွတ်ဘိုးအေလို့ ဆိုရမလောက် အပိန်အရှုံး၊ အဟောင်းအနွမ်း၊ အစုတ်အပြတ်တွေချည်းပါပဲ။ ဂိုးရီးယော့နဲ့ ရာစတီညက်တို့ ငိုင်တိငိုင်တိုင် ထိုင်နေကြတဲ့ စုတ်ပြတ်မည်းမှောင်ပြီး စိတ်ညစ်ညူးဖွယ်ကောင်းတဲ့ ပတ်ဝန်းကျင် အဆောက်အဦနဲ့ မဒမ်ဒီနီစင်ဂျင်းနဲ့ မဒမ်ဒီရက်စတောတို့ ဝေဆာပွင့်လန်းရာ ကြီးကျယ်ခမ်းနားပြီး ပန်းတွေဝေနေတဲ့ အိမ်ကြီး၊ ရွှေပိန်းချ ဧည့်ခန်းဆောင်၊ ပန်းနုရောင် အိပ်ခန်းတို့ရဲ့ တစ်ခုနဲ့ တစ်ခု ဆန့်ကျင်ခြားနားပုံကိုပြရာမှာ ထင်းခနဲပေါ် လာအောင် စာပန်းချီခြယ်မှုန်းသွားပါတယ်။

'ဂိုးရီးယော့' ဝတ္ထုအဆုံးဟာလည်း နာမည်ကျော် ထိုက်ပါတယ်။ နောက်ဆုံးအခန်းမှာ ရာစတီညက်ဟာ သုသာန်မှာ တစ်ယောက်တည်းကျန်ခဲ့တယ်။ သုဘရာဇာက ဂိုးရီးယော့ရဲ့ အသုဘခေါင်းကို မြေစိုင်ခဲတွေ ဖို့နေတယ်။ ရာစတီညက်ဟာ သင်္ချိုင်းကုန်းပေါ်မှာ ရပ်ပြီး အောက်က ပါရီမြို့ကြီးကို ငေးကြည့်နေတယ်။

ပါရီမြို့ကြီးကတော့ . . .

'ဆိန်းမြစ်၏ တစ်ဘက်တစ်ချက်တွင် ကုတ်ကပ်တွယ်ဖက်လျက်ရှိကာ အချို့နေရာများတွင် မီးရောင်လေးတွေ တလက်လက် ပေါ်စပြုလေပြီ။ သူ့မျက်လုံးများသည် ဗာဒွန်းရပ်ကွက်နှင့် အင်ဗာလီဒေးရပ်ကွက်အကြား တစ်နေရာကို စူးစိုက်ကြည့်နေကြသည်။ ထိုနေရာမှာ သူ ကျင်လည်ကျက်စားချင်သော အထက်တန်းလွှာအသိုင်းအဝိုင်းတို့ ပျော်စံရာ ရိပ်ငြိမ်ဖြစ်သည်။ ထိုသို့ငေးစိုက်ကြည့်ရင်း သူသည် တဝီဝီမြည်လျက်ရှိသော ပျားအုံကြီးမှ ပျားရည်တို့ကို စုတ်ယူသောက်သုံးနေသကဲ့သို့ရှိသည်။ ပါရီမြို့ကြီး ရေ . . .၊ ခုတော့ ... မင်းနဲ့ငါ နှစ်ယောက်တည်း ဆွေးကြရတော့မှာပေါ့ကွာ' ဟူသော စကားလုံးများသည် သူ့နှုတ်ခမ်းမှ အလိုလို ပေါ်ထွက်လာကြသည်။'

ဒီမှာတွင် သံသရာစက်ဝိုင်းဟာ တစ်ပတ် ပြန်လည်ပါတယ်။ ရာစတီညက်ဟာ ပျက်စီးချင်တိုင်း ပျက်စီးပြီး အပွေအရှုပ်၊ အလိမ်အကောက် ဇာတ်လမ်းစတော့တာပါပဲ။ သူ့အဖို့ နောက်ဆုံးမျက်ရည်စက် ကျခဲ့ပြီးပြီလေ။ ရာစတီညက်၊ ဘားလ်ဇက်နဲ့ စာဖတ်သူတို့ဟာ ပါရီမြို့ကြီးကို ခါးစောင်းတင်ဖို့ ခရီးစထွက်ခဲ့ကြတော့တာပါပဲ။ ဘယ်သူ့ ဘယ်သူကိုမှ အပြစ်တင်စကား တစ်ခွန်းမပြောခဲ့ကြပါဘူး။ ကျွန်တော်တို့တစ်တွေက လောကကြီးကို အရှိအရှိအတိုင်း ကြည့်ချင်ကြတာကိုး။ အာလိန်း ပြောသလို ဘားလ်ဇက်ဟာ ရိုသေကိုင်းညွှတ်မှုရှိသူတစ်ဦး ဖြစ်ပါတယ်။ သူဟာ လောကကြီးကို စီရင်ချက်ချခြင်း မပြုပါဘူး။ ကျော်ပြီး ကြည့်ပါတယ်။ သူ့အလုပ်ဟာ လောကကြီးကို တည်ဆောက်ဖို့ မဟုတ်ပါဘူး။ လောကကြီးရဲ့ပုံတူကို ရေးပြဖို့ဖြစ်ပါတယ်။

* * *

# ဂိုးရီးယော့ဝတ္ထု

(ဒီနေရာမှာ ကြားဖြတ်ပြီး ဘားလ်ဇက်ရဲ့ နာမည်ကြီးဝတ္ထုဖြစ်တဲ့ ‘အဖေဂိုးရီးယော့’ ဝတ္ထုဇာတ်လမ်းကို နည်းနည်းပြောချင်ပါတယ်။)

ဇာတ်လမ်းက ဒီလိုပါ။

ပါရီက လူစည်ကားတဲ့ ရပ်ကွက်တစ်ခုမှာ မဒမ်ဗောဗွား ဆိုတဲ့ အမျိုးသမီးကြီးတစ်ယောက်က ဘော်ဒါဆောင်တစ်ဆောင် ဖွင့်ထားတယ်။ သူ့ ဘော်ဒါက လူတော်တော်စုံတယ်။ သူ့ဘော်ဒါကို ရာစတီညက်ဆိုတဲ့ တောသားကလေးတစ်ယောက် ရောက်လာတယ်။ ရာစတီညက်က တောကနေပြီး ပါရီမြို့လာပြီး ဥပဒေကျောင်းတက်နေတဲ့ ကျောင်းသားကလေး။

အဲဒီဘော်ဒါမှာပဲ ကြာဆံစက်ပိုင်ရှင်ကြီး တစ်ဦးဖြစ်ခဲ့ဖူးတဲ့ ဂိုးရီး ယော့ဆိုတဲ့ အဘိုးကြီးတစ်ယောက်ရှိတယ်။ အရင်တုန်းကတော့ သူက တော် တော်ကလေး ပိုက်ဆံရှိတယ်။ ဒါပေမယ့် နောက်ပိုင်းမှာတော့ ဂိုးရီးယော့ ဟာ စီးပွားပျက်ပြီး ဆင်းရဲသွားတယ်။ သူက သူ့သမီးတွေကို သိပ်ချစ်တယ်။ သမီး တွေကို လင်ကောင်းသားကောင်း ရစေချင်တယ်။ တင့်တောင့်တင့်တယ် ဖြစ်စေ ချင်တယ်။ ဒီလိုနဲ့ သူ့ရှိတဲ့ ပိုက်ဆံကလေးဟာ သမီးနှစ်ယောက်ကို လင် ကောင်းသားကောင်း ရှာပေးရတာနဲ့ပဲ ကုန်သွားတယ်။ သမီးတွေကလည်း

အဘိုးကြီးကို အနိုင်ကျင့်ကြတယ်။ နွဲ့ဆိုးဆိုးကြတယ်။ ဂိုးရီးယော့ကလည်း သမီးတွေကိုချစ်တော့ အလိုလိုက်တယ်။ အစစအရာရာ မညှိုးငယ်ရအောင် ထားတယ်။ ဒီလိုနဲ့ သမီးတွေကို လင်ရှာပေးရင်း ရှိတဲ့ ပိုက်ဆံ ကုန်သွားတော့ အဘိုးကြီးခမျာ ချို့ချို့တဲ့တဲ့ နေရရှာတယ်။

သမီးအကြီးက ကောင့်လို့ခေါ်တဲ့ မှူးမတ်မြို့စားကတော်ကြီး ဖြစ်သွားပြီး၊ သမီးအငယ်က ဘေရွန်လို့ခေါ်တဲ့ နယ်စားကတော်ကြီးဖြစ်သွားတယ်။ ဒါပေမယ့် သမက်တွေက ယောက္ခမကို သိပ်လေးလေးစားစား ဆက်ဆံကြတာ မဟုတ်ဘူး။ သမီးတွေက အသုံးအစွဲ သိပ်ကြီးတော့ အကြွေးတင်တယ်။ အဖေကြီးက သမီးတွေရဲ့ အကြွေးကို လိုက်ဆပ်ရတယ်။ သမီးတွေက ပိုက်ဆံလိုချင်ရင် အဖေကြီးဆီ လာတယ်။ မလိုတဲ့အခါမှာ အဖေ့ဆီကို ယောင်လို့တောင် ခြေဦးမလှည့်ကြဘူး။ အဘိုးကြီးကလည်း သမီးတွေကို သိပ်ချစ်တော့ သမီးတွေရဲ့ အလိုကို လိုက်ခဲ့တာချည်းပဲ။ ဘယ်လောက်တောင် များလည်းဆိုရင် သမီးတွေက မျောက်မွေးပြီး အဲဒီအငယ်နှောင်းတွေရဲ့ ကြွေးတွေကိုတောင် အဘိုးကြီး လိုက်ဆပ်ရတယ်။ ဒီလိုနဲ့ အဘိုးကြီးခမျာ စီးပွားပျက်သွားပြီး ဘော်ဒါဆောင်ကလေးတစ်ခုမှာ သွားနေရတယ်။ သမီးတွေကတော့ သူတို့ယောကျ်ားတွေနဲ့ ပျော်လို့ပါးလို့ပေါ့။

ရာစတီညက်ဟာ အဲဒီဘော်ဒါဆောင်မှာ အဘိုးကြီးနဲ့ အတူနေတဲ့ ဥပဒေကျောင်းသားကလေး၊ ရုပ်ချောချော။ လူကလည်း အစွမ်းအစရှိတယ်။ သူ့ကိုယ်၌ကလည်း ကြီးပွားချင်စိတ်ရှိတယ်။ ဒီလိုနေတုန်းမှာ အဖေ့ဆီကို လာလာနေတဲ့ သမီးအကြီးနဲ့ ကြိုက်တယ်။ သမီးအကြီးက သူ့အဖေရဲ့ မိတ်ဆွေမှန်းသိတော့ ရာစတီညက်ကို ဖြတ်လိုက်တယ်။ ဒီတွင် ရာစတီညက်ကလည်း သမီးအငယ်နဲ့ ဆက်ကြိုက်ပြန်တယ်။ အဘိုးကြီးရဲ့ သမီးတွေဟာ ယောကျ်ားရှိပေမယ့် ငယ်ငယ်ချောချော ရာစတီညက်ကို တွေ့တော့လည်း ကြိုက်လိုက်ကြတာပဲ။

သမီးအငယ်နဲ့ ရာစတီညက်နဲ့ ကြိုက်နေကြတာကို အဘိုးကြီးကလည်း သိတယ်။ ဒါပေမယ့် သူက မသိချင်ယောင်ဆောင်နေတယ်။ သမီးကို သိပ်ချစ်တော့ သူ့သမီးကို သူ နေ့တိုင်းတွေ့ချင်တယ်။ ဒါပေမယ့် ခက်တာက သူ့သမီးတွေကလည်း အဘိုးကြီးဆီက ရစရာရှိမှ အဘိုးကြီးဆီကို လာတာကိုး။ ခု ရစရာမရှိတော့ မလာတော့ဘူး။ ဒီတော့ အဘိုးကြီးက သူ့သမီးတွေကို မတွေ့နိုင်ဘူး၊ မမြင်နိုင်ဘူး။ ခု ရာစတီညက်နဲ့ ကြိုက်နေတော့ သူ့သမီးက သူတို့ဆီကို နေ့တိုင်းလာနေတယ်။ ဒီလို လာနေတာဟာ ရာစတီညက်ကြောင့် လာနေတာမှန်း သူသိတယ်။ ဒါပေမယ့် မတတ်နိုင်ဘူး။ သူ့သမီးမျက်နှာမြင်ရ

ရင် တော်ပြီဆိုပြီး ရာစတီညက်နဲ့ ဖောက်ပြန်နေတာကို မမြင်ချင်ယောင်ဆောင်၊ မသိချင်ယောင်ဆောင်နေတယ်။ သားသမီးကို ချစ်လွန်းတဲ့ အဖေတစ်ယောက်ရဲ့ ဝဋ်ကြွေးလို့ပဲ ဆိုရတော့မယ် ထင်တယ်။

ဂိုးရီးယော့နဲ့ ရာစတီညက်တို့နေတဲ့ ဘော်ဒါဆောင်မှာ လူရှုပ်လူပွေ၊ လောကကြီးရဲ့ မျက်ခုံးမွေးပေါ်မှာ စက်ြွေ့လျှောက်နေတယ်လို့ ပြောလို့ရတဲ့ လူ တစ်ယောက်လည်း ရှိတယ်။ အဲဒီလူက ဗေါ်သရင်တဲ့။ သူကတော့ ပိုက်ဆံရရင် ဘာမဆိုလုပ်မယ့် လူစားမျိုး။ အဲဒီ ဘော်ဒါမှာပဲ ဗစ်တိုရင်းဆိုတဲ့ ကောင်မလေး တစ်ယောက်လည်း ရှိတယ်။ ကောင်မလေးက သူဌေးကြီး တစ်ယောက်ရဲ့ သမီး။ အဖေက သူ့သမီးအစစ် မဟုတ်ဘူးထင်လို့ သူ့ကို ခပ်ဝေးဝေးမှာပဲထား တယ်၊ ဒါကြောင့်မို့ ဗစ်တိုရင်းဟာ ဘော်ဒါဆောင်မှာ ဆင်းဆင်းရဲရဲ၊ ချို့ချို့ငဲ့ငဲ့နဲ့ လာနေရတာ။

တစ်နေ့တော့ ဗေါ်ထရင်က ရာစတီညက်ကို အကြံတစ်ခုပေးတယ်။ သူ့အကြံက ရုပ်ချော၊ လူငယ်၊ ဥပဒေကျောင်းသားဖြစ်တဲ့ ရာစတီညက်က ဗစ်တိုရင်းကို ပိုး၊ ပိုးရင်စွံမှာလည်း သေချာတယ်။ တစ်နေ့မှာ ဗစ်တိုရင်းရဲ့ အဖေကြီးသေရင် အမွေတွေရမယ်။ ဒီအမွေကို ဗစ်တိုရင်းနဲ့ သူ့အစ်ကိုတစ် ယောက်တို့ နှစ်ယောက်ခွဲယူရမယ်။ ဒါပေမယ့် ကိစ္စမရှိဘူး။ ဗစ်တိုရင်းတစ် ယောက်တည်းရအောင် သူ့အစ်ကိုကို ဗေါ်ထရင်က သေကြောင်းကြံမယ်။ ဒီ တော့ ရှိသမျှအမွေတွေကို ဗစ်တိုရင်းတစ်ယောက်တည်းရမယ်။ ရာစတီညက် က ဗစ်တိုရင်းကိုရော၊ ပစ္စည်းတွေကိုရော အပိုင်စီးလိုက်ရုံပဲ။ ဒါကြောင့် ဗစ်တို ရင်းကို ပိုးဖို့ ဗေါ်ထရင်က ရာစတီညက်ကို အကြံပေးတယ်။ ပစ္စည်းတွေရရင် သူ့ကို ငါးပုံတစ်ပုံခွဲပေးရမယ်လို့လည်း ပြောတယ်။ ကြီးပွားချင်တဲ့ ရာစတီ ညက်ကလည်း ဒါကို သဘောကျတယ်။ ဒါပေမယ့် ရာစတီညက်ဟာ ဗေါ်ထ ရင်လို ရက်ရက်စက်စက် မလုပ်ရဲဘူး။

ရာဇဝတ်အိုးကို တုတ်နဲ့ထိုးတဲ့ကိစ္စကြီး။ ဒီကိစ္စကြီးထဲမှာ သူမပါရဲ ဘူး။ ကြီးပွားချင်ပေမယ့် ဒီလောက်အထိတော့လည်း မလုပ်ရဲဘူး။ မလုပ်ရက် ဘူး။ အဘိုးကြီး ဂိုးရီးယော့ရဲ့သမီး အငယ် ဒယ်လဖင်းနဲ့ နေရတာကမှ တော် ဦးမယ်။ ဒါကြောင့် သူ တွန့်ဆုတ်နေတယ်။ ဒါပေမယ့် ဗေါ်ထရင် အတင်း တိုက်တွန်းတော့ ရာစတီညက်ဟာ ဗစ်တိုရင်းကို သူ့ရုပ်နဲ့ မြူဆွယ်ပြီး ချစ် ကြိုက်ဟန်ဆောင်နေရတယ်။

ဒီတုန်းမှာ ဗစ်တိုရင်းရဲ့အစ်ကို သေသွားတယ်။ ဗေါ်ထရင်လည်း အဲဒီကိစ္စနဲ့ အဖမ်းခံရတယ်။ ရာစတီညက်လည်း ကောင်မလေးကို လက်မထပ် ရဲဘဲ ဖြစ်နေတယ်။

အဲဒီလိုဖြစ်နေတုန်းမှာ အဘိုးကြီး ဂိုးရီးယော့ဟာ ဘော်ဒါဆောင်မှာ နေထိုင်မကောင်းဖြစ်နေတယ်။ သေကောင်ပေါင်းလဲဖြစ်နေတယ် ဆိုပါတော့။ ဒါကို သမီးတွေကလည်း သိတယ်။ အဲဒီတုန်းမှာ သမီးကြီးက သူ့ လင်ငယ် ဖဲရှုံးတာကို ယောက္ခမရဲ့ ပစ္စည်းတွေပေါင်နှံပြီး အကြွေးဆပ်ပေးတယ်၊ ယောက္ခမ က သူ့ လက်ဝတ်လက်စားတွေပြန်တောင်းတော့ အဖေကြီး ဆီလာပြီး နားပူ တယ်။ ယောက္ခမကြွေးတွေကို ပြန်ဆပ်ဖို့ပြောတယ်။ ဒါတွင် မကသေးဘူး။ ကပွဲသွားရင် ဝတ်ဖို့ အဖေကြီးဆီကို အင်္ကျီသစ်ချုပ်ချင်တယ်ဆိုပြီး ပိုက်ဆံ တောင်းတာမျိုးလည်း ရှိသေးတယ်။

အဘိုးကြီးဆုံးကာနီးတော့ သမီးတွေနဲ့တွေ့ချင်တယ်။ ဒါကြောင့်မို့ သမီးတွေကို အခေါ်လွှတ်လိုက်တယ်။ ခေါ်တဲ့သူရောက်လာတော့ သမီးအကြီး က ယောက်ျားနဲ့ရန်ဖြစ်နေတယ်။ သမီးအငယ်က ကပွဲကပြန်လာလို့ အိပ်ချင် တယ်ဆိုပြီး လိုက်မလာဘူး။ သမီးတွေကို သူဖျက်ဆီးခဲ့တာပဲဆိုပြီး ဂိုးရီးယော့ နောင်တရနေတယ်။ သားသမီးဆိုတာ ကိုယ်က ဘဝပေးခဲ့ရပြီး သူတို့က ကိုယ့်ကို သေခြင်းကို ပြန်ပေးတဲ့သတ္တဝါတွေလို့ သူ နာနာကျည်းကျည်း ထင် သွားတယ်။ ဒီလိုနဲ့ပဲ ဂိုးရီးယော့ဟာ ကွယ်လွန်သွားခဲ့တယ်။

သူသေတော့ အသုဘကိုပို့တဲ့လူဆိုလို့ ရာစတီညက်နဲ့ သူ့တပည့် ခရစ္စတိုဖီတို့ နှစ်ယောက်ပဲ ရှိတယ်။

ဒါကတော့ 'အဖေဂိုးရီးယော့' ရဲ့ ဇာတ်လမ်းအကျဉ်းချုပ် ဖြစ်ပါ တယ်။

* * *

# ဝတ္ထုကောင်းတို့မည်သည်

တစ်စုံတစ်ခုသော ရာသီဥတု အခြေအနေမှာ တိရစ္ဆာန်လောကနဲ့ အပင်လောကကြားမှာ ဟန်ချက်ညီတဲ့ ဆက်ဆံရေးတစ်ခုကို တည်ဆောက်ရတယ်။ ဒီလို တည်ဆောက်ခြင်းမပြုနိုင်လျှင် အဲဒီ တိရစ္ဆာန်၊ အဲဒီ အပင်ဟာ ကြာကြာမခံဘဲ သေဆုံးသွားမှာပဲ။ ဒီလို ဟန်ချက်ညီမှုကို တည်ဆောက်တဲ့ အခါမှာ တရားသလား၊ မတရားဘူးလား ဆိုတာတွေကို ရွေးမနေနိုင်ဘူး။ တစ်နည်းပြောရရင် လူ့ကျင့်ဝတ်နဲ့ ညီရဲ့လား၊ မညီဘူးလား ဆိုတာတွေကို စဉ်းစားမနေနိုင်ဘူး။

ဒီသဘောကို သဘာဝ သိပ္ပံပညာရှင်တွေ နားလည်အောင် ကြိုးစားရှာဖွေကြရတယ်။ လူ့အဖွဲ့အစည်းမှာလည်း အလားတူပဲ။ လူ့အဖွဲ့အစည်းတိုင်းဟာ အလုပ်ရှင်နဲ့ စေခိုင်းခံရသူ၊ ဆရာဝန်နဲ့ လယ်သမား၊ ကပ်ပါးရပ်စားနဲ့ လူကြွား၊ ငွေတိုးချေးစားသူနဲ့ အပြစ်ကျူးရာဇဝတ်ကောင်၊ ရှေ့နေနဲ့ မိန်းမလည်၊ အိမ်ကြီးရှင်နဲ့ အိမ်စေ စသည်ဖြင့် လူတန်းစားအသီးသီးနဲ့ ဖွဲ့စည်းထားပြီး အဲဒီလူတန်းစားတွေရဲ့ လှုပ်ရှားမှုဖြင့် လူ့လောကကြီးဟာ မောင်းနှင်ရှင်သန်နေတာ ဖြစ်တယ်။ လူမှုပုံသဏ္ဌာန်တွေ ဘယ်လိုပဲ ပြောင်းပြောင်း အဲဒီမျိုးနွယ်တွေကတော့ ပြောင်းလဲခြင်းမရှိဘဲ ကျန်ရစ်ခဲ့တယ်။ ဂိုးရီးယော့ရဲ့ သမီးတွေဟာ

ဘီလူးသဘက်မတွေ မဟုတ်ဘူး။ သူတို့ဟာ သူလိုကိုယ်လို သမီးတွေနဲ့ သူလိုကိုယ်လို ဇနီးမယားတွေသာ ဖြစ်တယ်။

'ငါ့သမီးတွေမှာ အလုပ်တွေကလည်း များတယ် မဟုတ်လား။ အလုပ်မရှိရင်လည်း အိပ်ချင်အိပ်နေကြမှာပေါ့ကွယ်။ သူတို့ ငါ့အနားကို လာချင်မှလည်း လာကြတော့မှာပါ။ လူဆိုတာ သေခါနီးမှပဲ ကိုယ့်သားသမီးတွေရဲ့ အကြောင်းကို ကောင်းကောင်း သိရတော့တာပါကွယ်။ အေး မင်းတို့လည်း ယောင်လို့မှ မိန်းမ မယူကြလေနဲ့။ သားသမီးတွေ မမွေးကြနဲ့။ သားသမီးဆိုတာ ကိုယ်က ဘဝတစ်ခုလုံး ပေးခဲ့ရတာ။ သူတို့ကတော့ ကိုယ့်ကို သေခြင်းကိုပဲ ပြန်ပေးတာ။ ခုနေ ငါသာ ချမ်းသာကြီး ဖြစ်ကြည့်စမ်းပါလား၊ ငါသာ စည်းစိမ်ဥစ္စာတွေနဲ့ ရှိနေစမ်းပါလား၊ ငါ့အနားမှာ လာပြီး ငိုကြယိုကြ လုပ်နေကြမှာ။ အဖေတစ်ယောက်ရယ်လို့ ဖြစ်လာရင် ချမ်းသာမှ၊ ပစ္စည်းရှိမှဖြစ်မှာ။ မြင်းဆိုးကို ကိုင်သလို သားသမီးကိုလည်း ဇက်ကြိုး တင်းတင်းနဲ့ ကိုင်နိုင်မှဖြစ်မှာ။ လောကကြီးဟာ လှပတဲ့နေရာ မဟုတ်ပါဘူးကွာ' လို့ သေခါနီးမှာ ဂိုးရီးယော့က စိတ်နာနာနဲ့ ပြောသွားပါတယ်။

ဟုတ်တယ်။ လောကကြီးဟာ လှပတဲ့နေရာ မဟုတ်ဘူး။ သမီးတွေကို သေမလောက်ချစ်ခဲ့သည့်တိုင် သေခါနီးမှာ စွန့်ပစ်တာကို ခံရတဲ့၊ သမီးတွေ သတ်လို့သေရတဲ့ အဘိုးအိုဂိုးရီးယော့ အနားမှာ ရောက်နေတဲ့ ရာစတီညက်ဟာ သူတွေ့လိုက်ရတဲ့ ကြောက်ဖွယ်အဖြစ်အပျက်တွေကို မြင်လိုက်ရပြီး ထိတ်လန့်တုန်လှုပ်နေတယ်။ သူ့ကိုမြင်လိုက်တော့ ဗျန်ချန်က 'ဘာဖြစ်လို့လဲဟင်၊ ခင်ဗျားမျက်နှာက စက္ကူတစ်ရွက်လို ဖြူလို့ပါကလား' လို့ မေးတယ်။ ဒီတော့ ရာစတီညက်က 'အော်သံတွေ၊ ငိုသံတွေကို ကျွန်တော့်နားထဲမှာ ကြားနေရတယ်ဗျာ၊ ဘုရားသခင်တော့ ရှိပါသေးတယ်နော်၊ ဟုတ်တယ်နော်။ ဘုရားသခင်တော့ ရှိပါသေးတယ်နော်။ ဘုရားသခင်ဟာ ကျွန်တော်တို့အတွက် ပိုပြီး သာယာကောင်းမွန်တဲ့ ကမ္ဘာလောကတစ်ခုကိုတော့ ဖန်ဆင်းပေးမှာပါနော်။ ဒီလိုသာ မဟုတ်ရင်တော့ လောကကြီးမှာ ခက်ရချည့်ရဲ့ဗျာ' လို့ ညည်းပါတယ်။ သဘောကတော့ လောကကြီးရဲ့ အကျိုးမဲ့ အချည်းနှီးဖြစ်ပုံတို့ကို မြင်ရာမှာ ဘားလ်ဇက်ဟာ ပထမဦးဆုံး မဟုတ်ဘူးဆိုတဲ့ အချက်ပါပဲ။ လောကကြီးဟာ ဘာမှ အဓိပ္ပါယ်မရှိဘူးလို့ မြင်ရာမှာ သူဟာ ပထမဆုံး မဟုတ်ပါဘူး။ သူ့အလျင် ဒဿနဆရာတွေ၊ စာရေးဆရာတွေလည်း မြင်ခဲ့ကြပြီပဲ။

ဒါပေမယ့် ထူးခြားတာက ဘားလ်ဇက်ဟာ လောကကြီးကို အချီးနှီး အကျိုးမဲ့လို မြင်ရုံတင်မကဘူး အဲဒီလို သူမြင်တဲ့ လောကကြီးကို ဆက်လက်ခံမင်ဆဲ၊ ဆက်လက်ဖက်တွယ်ထားဆဲဆိုတဲ့ အချက်ပဲ ဖြစ်ပါတယ်။ ဒါက

တော့ ဘားလ်ဇက်ရဲ့ ထူးခြားချက်ပါပဲ။ သူဟာ ကမ္ဘာကြီးကို ချစ်တယ်။ အဲဒီလောကကြီးမှာရှိတဲ့ လူဆိုးလူယုတ်တွေကိုတောင် လိုက်ချစ်နေလိုက်ပါသေးတယ်။ ဒါကြောင့်မို့ ကဗျာဆရာအာလိန်းက ဘားလ်ဇက်ဟာ စတင်ဒယ်ထက် သူတော်ကောင်းတရားနဲ့ ပိုနီးတယ်၊ ပုထုဇဉ်သူမြတ်များလို လောကကြီးကို ဥပေက္ခာသဘောနဲ့ ရှုနိုင်တယ်၊ သူ့ရဲ့ ဒုစရိုက်ဝန်ခံချက်ကိုလည်း မြန်မြန်ပေးနိုင်တယ်လို့ ရေးခဲ့ပါတယ်။ ဘားလ်ဇက်ဟာ သူတစ်ပါးပေါ်မှာ ဗွေမယူဘဲ မြန်မြန်ခွင့်လွှတ်တတ်သူ ဖြစ်ပါတယ်။ ဒီလို သူတစ်ပါးကို မြန်မြန်ခွင့်လွှတ်ရတာကတော့ (သူ့ဝတ္ထုထဲက ဇာတ်ဆောင်တစ်ယောက်ဖြစ်တဲ့ ဗော်ထရင်ရဲ့ စကားအတိုင်းဆိုလျှင်) ဘုရားသခင် ကိုယ်တော်တိုင်က လူကို ခွင့်လွှတ်တဲ့အတွက် သူကလည်း လူတွေကို ပြန်ခွင့်လွှတ်ခြင်းဖြစ်ပါတယ်။ တခြားကို မကြည့်နဲ့လေ။ ဂိုးရီးယော့ သေလို့ ယူကျုံးမရဖြစ်ခဲ့ရတဲ့ ရာစတီညက်ဟာ အဲဒီညနေမှာပဲ မဒမ်နီစင်ဂျင်းနဲ့ ညစာသွားစားပြီး ပျော်ပါးလားဝါးလားနေလိုက်တယ် မဟုတ်လား။ ဒါဟာ ခွင့်လွှတ်တတ်တဲ့ သဘော။ တစ်နည်းပြောရရင် မေ့ပျောက်ပြီးဖြစ်သမျှကို အကောင်းဆိုပြီး လက်ခံတတ်တဲ့ သဘောပဲ မဟုတ်ဘူးလား။

ဝတ္ထုကောင်းကြီး တစ်ပုဒ်၊ သို့မဟုတ် အနုပညာလက်ရာကောင်း တစ်ပုဒ်ဟာ မကြာခဏဆိုသလို ငြင်းခုန်ဝေဖန်စရာ ဖြစ်လာလေ့ရှိတယ်။ ဝတ္ထုကြီး တစ်ပုဒ်၊ အနုပညာလက်ရာ တစ်ပုဒ်ကောင်းပြီဆိုရင် ထူးခြားတာက အဲဒီဝတ္ထု၊ အဲဒီ အနုပညာလက်ရာထဲက ဘယ်လိုမှ ပြောင်းလို့၊ ပြင်လို့၊ ဖြုတ်လို့၊ ရွှေ့လို့မရဘူး။ ကဗျာဆရာတစ်ယောက် ပြောဖူးတယ်။ ကျွန်တော့် စိတ်ထဲမှာ ဗါလေရီလို့ ထင်တာပဲ။ အနုပညာလက်ရာကောင်းတစ်ပုဒ်၊ ဝတ္ထုကောင်းကြီး တစ်ပုဒ်ဟာ ကောင်းစွာ ဖွဲ့စည်းတည်ဆောက်ထားတာ ဖြစ်တယ်။ အဲဒီ ဝတ္ထု၊ အဲဒီ အနုပညာလက်ရာဟာ အဆက်မပြတ်တဲ့ အရှိန်နဲ့ ရှေ့ကို ဆက်လက်တိုးတက်နေတယ်။ တစ်ခုနဲ့တစ်ခု ဆန့်ကျင်ဘက်ဖြစ်နေတဲ့ အရာနှစ်ခုကို ပြရာမှာတောင် အဲဒီ အရာနှစ်ခုဟာ ပေါင်းစည်းနေကြတယ်။ ဒွန်တွဲနေကြတယ်။ အဲဒီ ဇာတ်လမ်းဟာ အရှိန်လည်း လျှော့မသွားဘူး။ ဘေးကိုလည်း ချော်ထွက်မသွားဘူး။ ရှင်းလင်းပြတ်သားစွာ သတ်မှတ်ထားတဲ့ ပုံသဏ္ဍာန်ရှိတယ်။ ဖလောဘေးရဲ့ 'မဒမ်ဗိုဗာရီ' ဝတ္ထုကြီးဟာ ပြည့်စုံတဲ့ဝတ္ထုကောင်းကြီးတစ်ပုဒ်ရဲ့ စံနမူနာပဲ။ အဲဒီ ဝတ္ထုကြီးဟာ လုံးဝန်းပြီး ပြေချောနေတယ်။ ငေါထွက်လာတာ၊ အစွန်းထွက်လာတယ်ရယ်လို့ မရှိဘူး။ အဖျားရှုးသွားတာရယ်လို့ မရှိဘူး။ 'ညီမဝမ်းကွဲ ဘက်တီ' တို့ 'အဘိုးအို ဂိုးရီးယော့' တို့ 'ယူဂျင်းဂရင်းဒက်' တို့ စတဲ့ ဘားလ်ဇက်ရဲ့ ဝတ္ထုကြီးတွေဟာ အဲဒီလက္ခဏာတွေ အပြည့်ရှိတဲ့ ဝတ္ထုကြီးတွေ ဖြစ်တယ်။ စာကောင်းပေကောင်းကို

ဖတ်တဲ့ စာဖတ်သူတစ်ယောက်ဟာ အခြားသော စာအုပ်အမျိုးအစားများကို ကြိုက်ချင်ကြိုက်မယ်။ ဒီလောက် အဖွဲ့မကောင်းတဲ့ ဝတ္ထုတွေကို ဖတ်ပြီး ကျေနပ်အားရမှု ရှိချင်မှရှိမယ်။ ဒါပေမယ့် စောစောက ကျွန်တော်ပြောခဲ့တဲ့ ဝတ္ထုကြီးတွေလောက် 'အစကောင်း' တာ 'အဆုံးကောင်း' တာမျိုးကတော့ သိပ်မရှိလှပါဘူး။

ဒါတွေအပြင် စာပေသမိုင်းမှာ အထူးခြားဆုံး ဝတ္ထုကြီးမှန်သမျှရဲ့ အစအဦး ပကတူးဖြစ်ခဲ့တဲ့အတွက်ကြောင့် တစ်ကြောင်း၊ လူ့လောကကြီးရဲ့ အဓိကကျတဲ့ ဇာတ်ဆောင်တွေကို ပေါင်းရုံးဖော်ပြနိုင်တဲ့အတွက်ကြောင့် တစ်ကြောင်း၊ စာရေးဆရာ ဖရန်ဆွာမောရီယေး ပြောသလို 'ဤဗဟိုလမ်းမကြီး လမ်းဆုံကြီးမှနေ၍ ဘားလ်ဇက်သည် လူတောအုပ်ကြီးကို ဖြတ်သန်းကာ လမ်းသေးလမ်းမွှာ အသီးသီးတို့ကို ဖောက်လုပ်နိုင်သည့်အတွက်' ကြောင့် တစ်ကြောင်း၊ ဒီအထဲမှာ ဝတ္ထုဇာတ်လမ်းပေါင်း တစ်ရာခန့် စုပေါင်းပါဝင်နေပြီး အဲဒီ တစ်ခုစီဟာလည်း သီးခြားကြည့်ရင် ပြည့်စုံတဲ့ ဝတ္ထုဇာတ်လမ်းကောင်းတွေ ဖြစ်တဲ့အတွက်ကြောင့် တစ်ကြောင်း စတဲ့ အကြောင်းများကြောင့် ...

'အဘိုးအို ဂိုးရီးယော့' ကို ကျွန်တော် အကျယ်တဝင့် ဋီကာချဲ့ခြင်းဟာ ဋီကာချဲ့သင့်ရုံမျှမက လိုလည်း လိုအပ်တယ်လို့လည်း ယူဆကြောင်း။

* * *

# ကိုယ့်ကိုယ်ကို ရဲရဲကြည့်ခြင်း

'ခုတစ်လောမှာ တော်တော်အရေးကြီးတဲ့ စာတစ်ပုဒ်ကို ရေးနေတယ်။ အဲဒါကတော့ 'ဆီးဇာဘီရှော့တေး' ဆိုတဲ့ ဝတ္ထုပဲ။ ခင်ဗျား တွေ့ခဲ့ဖူးတဲ့ လူရဲ့ညီပေါ့။ သူ့အစ်ကိုလိုပဲ သူလည်း သားကောင်တစ်ယောက်ဖြစ်ခဲ့ရတယ်။ ဒါပေမယ့် သူ့အစ်ကိုလို လူတစ်ယောက်ရဲ့ သားကောင်တော့ မဟုတ်ဘူး။ ပါရီယဉ်ကျေးမှုကြီးရဲ့ သားကောင်ဖြစ်ခဲ့ရတာ။ နောက်ခံက ပါရီနောက်ခံပဲ။ သူ့ခွက်ထဲက အဆိပ်ရည်ကို တစ်စက်ချင်း တစ်စက်ချင်းသောက်နေတဲ့ မိုက်မဲတဲ့ ဆိုကရေးတီးတစ်ယောက်ရဲ့အကြောင်း၊ ရွံ့ဗွက်ထဲမှာ ချအနင်းခံလိုက်ရတဲ့ နတ်တမန်တစ်ပါးအကြောင်း၊ အလွဲသုံးစားပြုခြင်း ခံလိုက်ရတဲ့ ရိုးဖြောင့်တဲ့ လူတစ်ယောက်အကြောင်းလို့ဆိုပါတော့။ အဲဒီဝတ္ထုကတော့ ပိုပြီး ကျယ်ကျယ်ပြန့်ပြန့်၊ ခမ်းခမ်းနားနားရေးထားတဲ့ ကင်းဘတ်ကြီးတစ်ခုပဲဗျ။ ဒီလောက်ကြီးတဲ့ ကင်းဘတ်ပေါ်မှာ ကျွန်တော် တစ်ခါမှ မရေးဖူးသေးဘူး' လို့ ဘားလ်ဇက်က မဒမ်ဟာစကားဆီကို ရေးခဲ့ဖူးတယ်။

တော်တော်အရေးကြီးတဲ့ စာတစ်ပုဒ်လို့ သူက ပြောသွားပါတယ်။ ဒီဝတ္ထုကြီးဟာ သူ့နှလုံးသားနဲ့ တော်တော်နီးပါတယ်။ ဘာဖြစ်လို့လဲဆိုတော့ သူ့ဘဝနဲ့ စပ်နေလို့ပါပဲ။ ဆီဇာဘီရှော့တေးဟာ ဘားလ်ဇက်ကိုယ်တိုင် ပြန်

ရေးတဲ့ အတ္တာရုပ်ပုံလွှာဖြစ်ပါတယ်။ အဲ ဘားလ်ဇက်လိုတော့ ပါရမီရှင်တစ်ဦး မဟုတ်ဘူးပေါ့။ ဒါပေမယ့် ဘီရော့ဘေးကို ဖိစီးနှိပ်စက်နေတဲ့ သောကတွေဟာ ဘားလ်ဇက်ရဲ့ သောကတွေပါပဲ။ ဘားလ်ဇက်ဟာ နေ့ရော ညပါ အရှုံးအမြတ် ငွေစာရင်းတွေကို တွက်ချက်ခဲ့ရဖူးပါတယ်။ ဘားလ်ဇက်ဟာ ဒေဝါလီခံရ လောက်အောင် မွဲတေဆင်းရဲမသွားခဲ့ပေမယ့် ဒီလိုဘဝဟာ ဘယ်လောက် ဆိုး ကြောင်း၊ ဘယ်လောက်ကြောက်စရာကောင်းကြောင်းကို ကောင်းကောင်းနား လည်သွားသည်အထိ အဲသည်လို ဘဝနားကို ရောက်ခဲ့ဖူးပါတယ်။ သူ့ဘဝမှာ ငွေတိုး ချေးစားသူတွေ၊ သံသယဖြစ်စရာကောင်းတဲ့ ဘဏ်လုပ်ငန်းရှင်တွေ၊ ညစာစားပြီး နောက်တစ်နေ့မနက်မှာ အကြွေးစာရင်း စာရွက်ကိုင်ပြီး ပေါက် လာတဲ့ ကပ်စေးနဲ့ ကော်တရာကုန်သည်တွေနဲ့ တွေ့ခဲ့ဖူးပေါင်း များလှပါပြီ။ သူ့ဝတ္ထု တော်တော်များများဟာ သူ့အတွေ့အကြုံနဲ့ ခပ်ဆင်ဆင် အတွေ့ အကြုံတွေကို အခြေခံပြီး ရေးထားတာတွေဖြစ်ပါတယ်။ ဘီရော့တေးလိုပဲ ဘားလ်ဇက်ဟာလည်း ပိုက်ဆံအိတ်က မတတ်နိုင်တဲ့ အကောင်းစား တိုက်ခန်း မျိုးမှာ နေခဲ့ဖူးတယ်။

ဘီရော့တေးလိုပဲ ဘားလ်ဇက်ဟာလည်း စိတ်ကူးယဉ်တဲ့ စီးပွားရေး လုပ်ငန်းရှင်တစ်ယောက် ဖြစ်ခဲ့ဖူးတယ်။ စိတ်ကူးယဉ်တဲ့ ဘီရော့တေးကို လက် တွေ့ကျတဲ့ ဇနီးဖြစ်သူ စတင့်က ထိန်းပေးသလို ဘားလ်ဇက်ကိုလည်း ဉာဏ် အမြော်အမြင်ရှိပြီး ချစ်စရာကောင်းတဲ့ ဇူလ်မာကားရော့က ထိန်းပေးပါတယ်။ ဘီရော့တေးဟာ မယ်စလိန်းရပ်ကွက်နားမှာ အဆောက်အဦဆောက်ဖို့ မြေ ကွက်လပ်တွေ ဝယ်သလို ဘားလ်ဇက်ဟာလည်း အိမ်ပွဲစား မြေပွဲစား လုပ်ခဲ့ဖူး ပါတယ်။

ဒါပေမယ့် ဘီရော့တေးနဲ့ ဘားလ်ဇက် ကွာခြားတာတစ်ချက်တော့ ရှိတယ်။ ဘီရော့တေးဟာ သူ့အမှားတွေကို ဘယ်တော့မှ ကျော်နင်းလွန် မြောက်ခြင်း မပြုနိုင်ခဲ့ပေမယ့် ဘားလ်ဇက်ကတော့ သူ့ဝတ္ထုရဲ့ ကုန်ကြမ်းတွေ အဖြစ် ပြောင်းလဲပစ်ခြင်းဖြင့် သူ့အမှားတွေကို ကျော်နင်း လွန်မြောက်နိုင်ခဲ့ပါ တယ်။ ဘီလ်ရော့တေးရဲ့ စရိုက်နဲ့ ပတ်သက်လို့ ဘားလ်ဇက်က ရေးခဲ့ရာမှာ 'သနားစရာကောင်းသည့် ဘီရော့တေးတွင် ကိုယ့်ကိုယ်ကို ပြန်ကြည့်ရဲသော ပွင့်လင်းမှုမျိုး မရှိချေ။ ထိုပွင့်လင်းမှုမျိုးသည် ကြီးမြတ်သူများကို ဖြစ်စေ၊ လူယုတ်မာများကိုဖြစ်စေ ကိုယ့်ကိုယ်ကို ပြန်ကြည့်ရဲသော သတ္တိမျိုးကိုပေး တတ်ပေ၏' လို့ ရေးခဲ့ပါတယ်။

ဘားလ်ဇက်ကိုယ်တိုင်ကတော့ အဲဒီလို ကိုယ့်ကိုယ်ပြန်ကြည့်ရဲတဲ့ သတ္တိမျိုးရှိပါတယ်။ ဘားလ်ဇက် သူ့စရိုက်မျိုးကို ဇာတ်လိုက်ဖြစ်တဲ့ ဘီရော့

တေးလို လူစားမျိုးထဲမှာသာ ထည့်ရေးတာမဟုတ်ပါဘူး။ ရွံ့စရာကောင်းတဲ့ ဗီလိန်ဖြစ်တဲ့ ဒူတီးလီတို့လို လူမျိုးတွေထဲမှာလည်း ထည့်ရေးတတ်ပါသေးတယ်။ ဥပမာအားဖြင့် ပရိဘောဂ ခမ်းခမ်းနားနား ကြီးကြီးကျယ်ကျယ်တွေကို ဒူတီလီ မက်မောတတ်ပုံဟာ သူ့စရိုက်တွေဖြစ်ပါတယ်။ ဒူတီလီဟာ မဒမ်ရိုဂွင်ကို မှီစားပြီး သူပေးတဲ့ ပိုက်ဆံကို သုံးဖြုန်းနေသလို ဘားလ်ဇက်ဟာလည်း မဒမ်ဒီဘာနီပေါ်မှာ မှီစားပြီး သူပေးတဲ့ပိုက်ဆံကို သုံးဖြုန်းပစ်နေခဲ့တာပါ။ ကိုယ့်အရည်အချင်းမျိုး၊ ကိုယ့်နှစ်သက်မှုမျိုးကို သူခိုးတစ်ယောက် သစ္စာဖောက်တစ်ယောက်၊ လူယုတ်မာတစ်ယောက်ရဲ့ စရိုက်ထဲမှာ ထည့်သွင်းရေးတာမျိုးကတော့ ဘားလ်ဇက်ရဲ့ ထူးဆန်းတဲ့ နှစ်ကိုယ်ခွဲဇာတိစိတ်ရဲ့ လက္ခဏာလို့ပဲ ဆိုရတော့မယ် ထင်တယ်။ သူဟာ ဇာတ်လိုက် ယူဂျင်း ဂရန်ဒေးကိုချစ်သလို လူယုတ်မာ ဒူတီလီကိုလည်း ချစ်နေတာကို တွေ့နေရတယ်။

ကြီးကျယ်တဲ့ ဝတ္ထုရေးဆရာတစ်ယောက်ဟာ စိတ်အခြေအနေအမျိုးမျိုးတွေကို ဖော်ပြနိုင်စွမ်း ရှိရမယ်။ အချို့သော စိတ်အခြေအနေများဟာ သူရင်းနှီးကျွမ်းဝင်တဲ့ စိတ်အခြေအနေမျိုးတွေ ဖြစ်ချင်မှ ဖြစ်မယ်။ အချို့သော စိတ်အခြေအနေများဟာလည်း ကိုယ့်စိတ်နဲ့ တူချင်တူနေမယ်။ ကိုယ့်အားနည်းချက်၊ ချွတ်ယွင်းချက်နဲ့ ဆင်ချင်ဆင်နေမယ်။ ဒီလို ကိုယ့်အားနည်းချက်မျိုးနဲ့တူတဲ့ စိတ်အခြေအနေတွေကို ရေးပြနိုင်ရင် တစ်နည်းအားဖြင့် ကိုယ့်ကိုယ်ကို မညှာမတာ ဖော်ထုတ်ရဲရင် အဲဒီစာရေးဆရာဟာ စာဖတ်သူတွေရဲ့ ခံစားချက်ကို ပိုပြီး နှိုးဆွနိုင်တဲ့ စွမ်းအားရှိတတ်ကြတယ်။ ဘားလ်ဇက်ဟာ 'ဆီဇာဘီရော့တေး' ကို ရေးရာမှာ သူ့ဝေဒနာတွေ၊ သူ့သောကတွေ၊ သူ့ဒုက္ခတွေကို ပြန်လည်အောက်မေ့ပြီး ရေးပါတယ်။ ဒီလိုရေးခြင်းဖြင့် သူ့စာဟာ ခွန်အားပိုကောင်းလာပြီး အသစ်အဆန်းတောင် ဖြစ်လို့နေပါသေးတယ်။

၁၉ ရာစု ပြင်သစ်ဝတ္ထုရဲ့ ချွတ်ယွင်းချက်ကြီးတစ်ခုကတော့ လိင်မှုကိစ္စတွေကို အလွန်အမင်း အသားပေးရေးတဲ့ အချက်ပါပဲ။ အချစ်ကို ဒီလောက် အသားပေးနေကြတာဟာ လူ့ဘဝကြီးနဲ့ မညီဘူးလို့ ယူဆရပါတယ်။ လောကမှာ အချစ်အပြင် မာန၊ လောက၊ ဒေါသ၊ မောဟ ဆိုတဲ့ ရမ္မက်တွေလည်းရှိတယ်။ ဒီအရာတွေဟာလည်း အချစ်လိုပဲ ဝတ္ထုကြီးတစ်ပုဒ်ကို အလေးချိန်စီးစေတယ်လို့ သူ ယူဆတယ်။ 'ဘဝဆိုတာ ငွေဆိုတဲ့အရာကြောင့် လည်ပတ်နေရတဲ့ စက်ကြီးတစ်ခုမဟုတ်လား' လို့ သူ့ဇာတ်လိုက် ဂူးဆက်က တစ်နေရာမှာ ပြောခဲ့တယ်။

ခမ်းနားကြီးကျယ်တဲ့ ဝတ္ထုကြီးများဟာ ဇာတ်လိုက်ရဲ့ စိတ်ကူးမျှော်မှန်းချက်တွေနဲ့ ဘဝရဲ့ ကြမ်းရှတဲ့ အစစ်အမှန်တွေကြားက တိုက်ပွဲကို ဖော်

ပြကြတယ်။ စီးပွားရေးလုပ်ငန်းရှင်၊ ဘုန်းတော်ကြီး၊ စေးနဲ့သူတို့ဟာလည်း ချစ်သူလိုပဲ ဝတ္ထုတစ်ပုဒ်ရဲ့ ကုန်ကြမ်းတွေကို ထုတ်လုပ်ပေးတာပါပဲ။ မိသားစုတစ်စု ချွတ်ချုံကျပြီး မွဲသွားတဲ့အကြောင်းဟာလည်း အတွဲဆယ့်လေးငါးတွဲ လောက်ရှိတဲ့ ဝတ္ထုကြီးတစ်ပုဒ်ကို မွေးဖွားပေးနိုင်ခဲ့တာပါပဲ။ 'ဆီဇာရော့တေး' ဝတ္ထုမှာ အချစ်အကြောင်းဟာ နည်းနည်းကလေးပဲ သာမန်လောက်ပါ။ ဒါပေမယ့် အဲဒီဝတ္ထုကြီးက လောကဇာတ်ခုံကြီးပေါ်မှာ တင်ပြတဲ့ ပြဇာတ်များစွာ အနက် အလှပဆုံး၊ ကြောက်စရာအကောင်းဆုံး ပြဇာတ်ကြီးတစ်ပုဒ်တော့ ဖြစ် လာခဲ့တာပါပဲ။

အဲဒီဝတ္ထုဟာ ဘားလ်ဇက်ရဲ့ စာရေးခြင်း အတတ်ပညာကို လေ့လာရာမှာလည်း အလွန်အသုံးကျတဲ့ ဝတ္ထုဖြစ်ပါတယ်။ အဲဒီဝတ္ထုရဲ့ ခေါင်းစဉ် အမှန်က 'ဆီဇာရော့တေး၏ အောင်မြင်မှုနှင့် ကျဆုံးမှု သမိုင်းဖြစ်ပါတယ်။ လူတစ်ယောက်ရဲ့ ကံကြမ္မာမှာ နိမ့်တုံ မြင့်တုံဖြစ်နေတဲ့အကြောင်းကို ရေးပြရာမှာ ဘားလ်ဇက်ဟာ ထူးချွန်သူဖြစ်ပါတယ်။ ဘားလ်ဇက်ဟာ သူ့ရဲ့ဇာတ်လိုက် လိုတရရဲ့ ဆန္ဒတွေကို ပထမ ဖြည့်ပေးပါတယ်။ ဇာတ်လိုက်က လိုတရပေါ့။ ပြီးတော့ လူ့အသိုင်းအဝိုင်း၊ လူ့လောကမှာ အောင်မြင်ကြီးပွားလာပုံကို ပြပါတယ်။ ပြီးတော့မှ တစ်ဖြည်းဖြည်း သူ့ကို အောက်ကို ဆွဲဆွဲချလာတော့တာပါပဲ။ နောက်ဆုံးတော့ ငရဲကို မရောက်ရုံတမယ်ပဲ ကျန်ပါတော့တယ်။ ဘားလ်ဇက်ဟာ အဲဒီလို အစမှ ကြီးပွားပြီး နောက်ပိုင်းမှာ ကျဆုံး သွားပုံမျိုးတွေကို ရေးရာမှာ တော်တော်သဘောကျပုံရပါတယ်။ သူ့ဇာတ်ဆောင်တစ်ယောက် ဖြစ်တဲ့ နယ်စားကြီး ဟူးလေလိုပဲ ဘီးရော့တေးဟာ ဝတ္ထုအစပိုင်းမှာ ဂုဏ်သရေရှိ လူကြီးလူကောင်းတစ်ယောက်၊ အသိုင်းအဝိုင်းမှာ လေးစားခံရတဲ့ လူတစ်ယောက်။ ကပွဲကြီးတွေမှာ သူမပါရင် ပွဲမစည်ဘူး။ ပြင်သစ်အစိုးရ ဘွဲ့တံဆိပ်တွေ ချီးမြှင့်ခံရသူ၊ သူ လုပ်ကိုင်တဲ့ စီးပွားရေး လုပ်ငန်းကလည်း ကြီးမားတဲ့ လုပ်ငန်းကြီး။ ဒါတွေကတော့ သူ့ဘဝမှာ အထွတ်အထိပ်ရောက်တဲ့ အပိုင်းတွေပေါ့။ အဲဒီ အထွတ်အထိပ်ပိုင်းမှာ မကောင်းဆိုးဝါးဟာ သူ့ကို ထိုင်စောင့်နေတာကို တွေ့ရတယ်။ ဘားလ်ဇက် ဟာ သူ့ကို ဖြုတ်ချတော့မယ်၊ ဆွဲချတော့မယ်။

တစ်ဖြည်းဖြည်းနဲ့ တစ်ဆင့်ပြီးတစ်ဆင့် အကြင်နာကင်းမဲ့စွာ သူ့ကို ဖြုတ်ချတော့မယ်။ ခြောက်ကမ်းပါးကြီးထိပ်မှာ ခပ်တည်တည် ခေါင်းမော့ရပ်နေတဲ့ သနားစရာ ရေမွှေးသူဌေးကြီးကို ဝိုင်းကူထောက်ထားတဲ့ ဒေါက်တွေ၊ အထောက်အကန်တွေကို တစ်ချောင်းပြီးတစ်ချောင်း ဖြုတ်ချတော့မယ်။ ရောမခေတ်က သစ္စာဖောက်တွေကို ဖိသတ်တဲ့ တာပီယန် ကျောက်တုံးကြီးဟာ

တဝေါဝေါလိမ့်ဆင်းလာသလို အောင်မြင်တဲ့ စီးပွားရေး လုပ်ငန်းရှင်ကြီးတွေကို ဖိသတ်တဲ့ ကျောက်တုံးကြီးတွေဟာလည်း လိမ့်ဆင်းလာနေပြီ။

ဘားလ်ဇက်ဟာ အဲဒီလို မြန်မြန်ဆန်ဆန် ဒလဟောပြိုကျ ပျက်ဆင်းသွားတာမျိုးကို တော်တော်သဘောကျတတ်ပါတယ်။

* * *

# အညတရဇာတ်ဆောင်များ

မကြာခင် ကြမ္မာဆိုးနဲ့ တွေ့မယ့် သားကောင်ဟာ အောင်မြင်ကြီး ပွားနေတယ်။ ပျော်နေတယ်။ ဒီအတောအတွင်းမှာ ဘားလ်ဇက်ကတော့ သူ့ကို ဒုက္ခတွင်းထဲကို ပို့ဖို့ အိုင်ကျင်းဖွဲ့နေပါပြီ။ ဇာတ်လိုက်က အထွတ်အထိပ် အောင်မြင်မှုတွေကိုရပြီး စည်းစိမ်တွေ ခံစားနေတုန်း၊ ပျော်နေတုန်းမှာ သူဆင်းရ မယ့် ကျောက်ဆောင်ကျောက်တုံးတွေနဲ့ ပြည့်နေတဲ့ လမ်း၊ တောင်ကမ်းပါး စောက်၊ ခရောင်းတော၊ ဖုံးကွယ်ထားတဲ့ ချိုင့်ကွင်းတွေကို ဇာတ်စင်ပေါ်မှာ ပြင်နေပါပြီ။ ကံမကောင်း အကြောင်းမလှတဲ့ ဘီရော့တေးရဲ့ ပတ်ပတ်လည်မှာ သူ့ကို နှိပ်စက်ကလူ ပြုမယ့် လူဆိုးဓါးပြတွေက အသင့် ပုန်းကွယ်နေကြပါပြီ။ ချောင်းမြောင်းနေကြပါပြီ။ ဘားလ်ဇက်ဟာ သူ့လူမိုက်တွေ၊ လူဆိုးတွေကို ခေါ်ပြီး ထုတ်ပါတော့တယ်။ ဘားလ်ဇက်ဟာ ဒီလိုလုပ်လေ့ရှိကြောင်းကို သူ့ရဲ့ 'ပျော်ပျော်နေ' ဝတ္ထုကြီးကို ဖတ်ဖူးသူတိုင်း သိကြပါတယ်။ သူတို့ဟာ အဲဒီဝတ္ထု ကြီးထဲက လူဆိုးတွေရဲ့ အမည်ကို ကြားရုံနဲ့ တောင်ဖိန့်ဖိန့်တုန်နေကြတုန်းပဲ ရှိပါသေးတယ်။ ဘီရော့တေးဟာ အဲဒီလို လူဆိုးတွေကို တွေ့ရတော့မှာပါ။ ပါလ်မာတို့လို၊ ဂျီဂိုနက်တို့လို၊ ဝါဘရတို့လို၊ ဂေါ့ဘဆက်တို့လို ငွေတိုးချေး စားသူတွေ . . .။ ကလက်ပီရွှန် တို့လို လူလိမ်တွေ။ ရိုဂွင်တို့လို ကောက်ကျစ် စဉ်းလဲတဲ့ ရှေ့နေတွေကို တွေ့ရပါတော့တယ်။

ဒါပေမယ့် များစွာသော စက်ယန္တရားများလိုပဲ ငွေစက်ယန္တရားကြီး ဟာလည်း ဘယ်ဘက်ကိုမှ မျက်နှာမလိုက်ပါဘူး။ အလွန်မုန်းထားတတ်တဲ့

လူတစ်ယောက်ဟာ သူ့ကို အသုံးချတော့မှပဲ သူက ရန်ပြုတတ်ပါတယ်။ သူ့အပေါ်မှာ အလွန်ရန်ငြိုးကြီးသူတွေက အကောက်ကြံတဲ့အတွက် ဘီးရော့တေးတို့ ညီအစ်ကိုတစ်တွေဟာ ဒုက္ခလှလှကြီး တွေ့ကြရတယ်။ ရေမွှေးကုန်သည်ကြီး ဘီရော့တေးအဖို့ဆိုရင် သူ့ကို မပြေနိုင်အောင် ရန်ငြိုးထားတတ်တဲ့ ရန်သူဟာ သူ့ရေမွှေးဆိုင်မှာ လက်ထောက်လုပ်ခဲ့တဲ့ ဒျူတီလေး ဖြစ်ပါတယ်။ ဒျူတီလေးဟာ သူ့ဆရာရဲ့ ပစ္စည်းကို ခိုးတုန်းမှာ လက်ပူးလက်ကြပ်မိသွားခဲ့တယ်။ ဒီမှာတွင် သူ့ဆရာအပေါ်မှာ ဘယ်တော့မှ ခွင့်မလွှတ်နိုင်၊ ဘယ်တော့မှ မမေ့နိုင်ပဲ ရန်ငြိုးကြီးဖွဲ့တော့တာပါပဲ။ ဒျူတီလေးဟာ တော်တော်ကြောက်စရာ ကောင်းတဲ့ ရန်သူဖြစ်ပါတယ်။ ဉာဏ်သွားတယ်။ ထက်မြက်တယ်။ လက်ရဲ ဇက်ရဲ ရှိတယ်။ မကောင်းတဲ့ဘက်မှာ အလွန်ထူးချွန်တယ်။

ဒီနည်းအားဖြင့် ရေမွှေးကုန်သည်ကြီး ဘီရော့တေးရဲ့ ဇာတ်လမ်းဟာ ဘားလ်ဇက်ရဲ့ ကမ္ဘာလောကကြီးနဲ့ ပူးကပ်ငြိတွယ်သွားပါတော့တယ်။ ဘီရော့တေး ကျင်းပတဲ့ ကပွဲကြီးတွေဟာ 'ပျော်ပျော်နေ' ဝတ္ထုကြီးထဲမှာ မင်းသားကြီး ဂွါမန်ထဲ ကျင်းပတဲ့ ညေ့ခံပွဲကြီးမျိုးတွေနဲ့ တူနေပါတယ်။ ဒီအချိန်ဟာ ဝတ္ထုရေးဆရာ – ဖန်တီးရှင်က ဇာတ်စင်ပေါ်မှာ ဖန်တီးအသက် သွင်းပေးခဲ့သူအားလုံးကို တစ်ယောက်ပြီးတစ်ယောက် ကန့်လန့်ကာရှေ့ ထုတ်လာတဲ့အချိန် ဖြစ်ပါတယ်။ ဘားလ်ဇက်ဟာ သူ့ဇာတ်လိုက် ရေမွှေးကုန်သည်ကြီး ဘီရော့တေးရဲ့ ညေ့ခံပွဲကို မြင်မြင်သမျှ အထက်တန်းလွှာ မင်းစိုးရာဇာတိုင်းကို ဖိတ်ပေးတာ မဟုတ်ပါဘူး။ အဲဒီအထဲက လက်ရွေးစဉ်တို့ကိုသာ ရွေးဖိတ်ပေးတာပါ။ ဒီညေ့ခံပွဲကို ဖိတ်ဖို့စာရင်းလုပ်ကြတော့ သူ့မိန်းမ ကွန်စတင့်စ်က သူ့ယောကျ်ား ဘီရော့တေးကို 'ဒီမှာနော် လူတွေကို တစ်ယောက်မှ မဖိတ်နဲ့။ ဘာလဲ၊ ဒီမာဆေးတို့ ဒါဂယ်မင့်တို့ကို ဖိတ်ဖို့ စိတ်ကူးလို့လား။ ရှင့်ဖောက်သည်တွေကိုများ စာရင်းထဲထည့်လို့။ ရှင်ဟာ တော်တော်ခက်ပါလား' လို့ သတိပေးတယ်။ နောက်တော့ သူ့ညေ့ခံပွဲကို ဘယ်သူတွေလာတယ် ထင်ပါသလဲ။ ဘုရင်ဧကရာဇ်ရဲ့ အတွင်းဝန်ချုပ်မင်း ဖိလစ်ဗင်ဒက်နက်ဆီ ရောက်လာပါတယ်။ အကြွေးတင်၊ အမှုတွေ ရှုံးပြီးလို့ လူဆင်းရဲအဖြစ် တရားရုံးက ကြေညာခံရပြီးတဲ့နောက် လူဆင်းရဲအဖြစ်က လွတ်ပြီလို့ ပြန်ပြီး အသိအမှတ်ပြုခြင်း ခံရတဲ့အတွက် ၁၈ ဆက်မြောက် လူဝီဘုရင်က သူ့ကိုချီးကျူးတဲ့ သဝဏ်လွှာကိုလည်း ယူဆောင်လာပါတယ်။

အဲဒီဝတ္ထုဟာလည်း 'ပျော်ပျော်နေ' ဝတ္ထုကြီးလိုပဲ ပြင်သစ်ပြည်သမိုင်းကို နောက်ခံပြု ရေးသားထားပါတယ်။ ဝတ္ထုကတော့ ပြင်သစ်ဘုရင်မင်းမျိုးမင်းနွယ်များ ပြန်လည်စိုးမိုးလာတဲ့အကြောင်းကို ရေးသားထားတဲ့ ဝတ္ထု

ပါ။ ဘီရော့တေးဟာ တော်လှန်ရေးကာလ အတွင်းတုန်းက ဘုရင်ဝါဒကို လိုလားသူတစ်ဦး ဖြစ်ပါတယ်။ ဒီလိုဖြစ်သွားတာကလည်း သူ့ရဲ့ စိတ်နေစိတ်ထားကြောင့် တစ်ကြောင်း၊ မတော်တဆ ကြုံကြိုက်တဲ့အတွက်ကြောင့် တစ်ကြောင်း ဖြစ်သွားရတာပါပဲ။ သူ့ရဲ့ ပထမဆရာဖြစ်တဲ့ အမ်ရာဂွန်ဟာ တော်တော်အယူသီးတဲ့ ဘုရင်ဝါဒတစ်ဦး ဖြစ်တယ်။ ဘီရော့တေး ကိုယ်တိုင်ဟာလည်း ဘိုနာပတ် ဂိုဏ်းသားတွေကို ခုခံတိုက်ခိုက်ခဲ့တဲ့အတွက် ဒဏ်ရာအနာတရဖြစ်ခဲ့ဖူးပါတယ်။ ဒီအဖြစ်အပျက်ကလေးဟာ သူ့ဘဝလမ်းကြောင်းကို အဆုံးအဖြတ် ပေးလိုက်တာပါပဲ။ ပြင်သစ်တော်လှန်ရေးမှာ ပါခဲ့ဖူးတဲ့အတွက် တော်လှန်ရေးအောင်တဲ့အခါမှာ ဘီရော့တေးဟာ မြူနီစပယ် ကောင်စီလူကြီးဖြစ်လာခဲ့ပါတယ်။ နောက်ပြီးတော့ 'လိဂျင်းအော့အော်နား' ဘွဲ့ဟာ သူ့ကို ကြီးကျယ်တဲ့ ပုဂ္ဂိုလ်ကြီးအဖြစ် ရောက်စေခဲ့သလို သူ့ကို ကျဆုံးအောင်လည်း လုပ်ပေးလိုက်ပါတယ်။

ဘားလ်ဇက်ဟာ 'ဆီဇာဘီရော့တေး' ကို ရေးတဲ့နေရာမှာ ဘူဇွာကုန်သည်လူတန်းစားရဲ့ စရိုက်ကို ဖော်ပြထားပါတယ်။ ဒီမှာ ဘားလ်ဇက် ကြုံတွေ့ရမယ့် အန္တရာယ်ကတော့ ဘာမျှ တတ်သိနားလည်ခြင်းမရှိတဲ့ လူတန်းစားကို လှောင်ပြောင်အထင်သေးစွာနဲ့ ရေးတဲ့နည်းက လွတ်အောင် ရှန်းမထွက်နိုင်ခြင်းပဲ ဖြစ်ပါတယ်။ ဘားလ်ဇက်ဟာ သူ့ရဲ့ဇာတ်လိုက် ဘူဇွာကုန်သည် တစ်ယောက်ဖြစ်တဲ့ ဆီဇာဘီရော့တေးကို ရေးရာမှာ ပုံတူတစ်ခုကို ရေးခြင်းမဟုတ်ဘဲ ကရိကေးချားကို ရေးဆွဲချင်ပုံ ရပါတယ်။ ဒီသဘောကို သူကိုယ်တိုင်လည်း သတိထားမိပုံရပါတယ်။ သူ့မိတ်ဆွေတစ်ယောက်ဆီ ကို ပေးတဲ့စာကိုကြည့်ရင် ဒီသဘောကို တွေ့နိုင်ပါတယ်။

'ဆီဇာဘီရော့တေးကို ပုံကြမ်းလောင်းထားတာကတော့ ခြောက်နှစ်လောက်ရှိပြီ။ ချက်ချင်း မရေးဖြစ်ခဲ့ဘူး။ အကြောင်းကတော့ ဘာမှမဟုတ်တဲ့ ပါရီမြို့က သာမန်ကုန်သည်ကလေး။ မိုက်လည်းမိုက်မဲ၊ စိတ်ဓာတ်အရလည်း အားနည်းတဲ့ သာမန်ကုန်သည်ကလေးတစ်ယောက်ရဲ့ သာမန်အဖြစ်အပျက်တွေဖြစ်နေတဲ့အတွက် စာဖတ်ပရိသတ်ကို ဘာမှမဟုတ်တဲ့အကြောင်းကို တင်ပြရမှာ မရဲဘဲဖြစ်နေတယ်။ ဒါပေမယ့် ကျုပ်စိတ်ကူးတစ်ခု ပေါက်သွားတယ်။ ကျုပ်ရဲ့ ဘာမဟုတ်တဲ့ ပါရီက ကုန်သည်ပေါက်စကလေးဟာ စိတ်ဓာတ်အရ တည်ကြည်ဖြောင့်မတ်တဲ့ လူတစ်ယောက်ဖြစ်သွားပုံကို ပြရင် မကောင်းပေဘူးလားဆိုတဲ့ စိတ်ကူးပါ' လို့ သူက ရေးခဲ့ပါတယ်။

ဒါကတော့ ဘားလ်ဇက်ရဲ့ ဉာဏ်ပါရမီလို့ ဆိုထိုက်ပါတယ်။ ဘာဖြစ်လို့လဲဆိုတော့ ဘာမဟုတ်တဲ့ ရွက်ကြမ်းရေချို လူတစ်ယောက်ကို ဝတ္ထု

တစ်ပုဒ်မှာ အဓိက ဇာတ်ဆောင်တစ်ယောက်အဖြစ် ထားရေးဖို့ ဘယ်စာရေးဆရာမှ စိတ်မကူးခဲ့သေးလို့ပါပဲ။ အဲဒီအချက်ကတော့ ခေတ်သစ်ဝတ္ထုရေးဆရာတွေ ကျော်သွားခဲ့တဲ့အချက် ဖြစ်ပါတယ်။ မှန်ပါတယ်။ ဝတ္ထုရေးဆရာဖလောဘေးဟာ ဘိုးဗရီဝတ္ထုထဲမှာ တောက်ပပြိုးပြက်ပြီး တော်တော်ပီပြင်တဲ့ ကာရိုက်တာတွေ ရုပ်ပြောင်တွေကို ရေးခဲ့ပါတယ်။ ဒါပေမယ့် သူ့ဇာတ်ကောင်တွေဟာ သာမညသောင်ညတွေ မဟုတ်ပါဘူး။ ရိုးသားမှုအရာမှာ စံပြဖြစ်တဲ့ ဇာတ်ဆောင်တွေဖြစ်ပါတယ်။ သူ့ရဲ့ မဒမ်ဘိုဘာရီဟာလည်း ရွက်ကြမ်းရေချိုထဲက မဟုတ်ပါဘူး။ အဘိုးအိုဂိုးရီးယော့နဲ့ အဘိုးအို ဂရန်ဒေးတို့ဟာလည်း ကြီးကျယ်တဲ့ ပုဂ္ဂိုလ်တွေ ဖြစ်ကြပါတယ်။ ဆီဇာဘီရော့တေးကတော့ သူတို့လို မဟုတ်ပါဘူး။ ယဉ်ကျေးမှုနဲ့ မျိုးရိုးနောက်ခံအရ ပြောရရင် သူဟာသာမန် အညတရပါ။ သူကြီးကျယ် အောင်မြင်လာရတာကတော့ သူ့ရဲ့အံ့သြလောက် တဲ့ ရိုးဖြောင့်မှုကြောင့်ပဲ ဖြစ်ပါတယ်။ သူပိုင်ဆိုင်သမျှကို သူ့ရဲ့ကြွေးရှင်တွေကို ပေးဆပ်ပုံဟာတော်တော်စိတ်သဘောထားကြီးမြင့်ရာ ရောက်ပါတယ်။ စိတ်ထိ ခိုက်စရာလည်း ကောင်းပါတယ်။ သူဟာ ရှိသမျှကို ရက်ရက်ရောရော ပစ်ပေးပါတယ်။ သူ့ကို ပင်ပီနော့က ပေးတဲ့ပန်းပုရုပ်တွေ၊ သူ့ရဲ့ကျောက်မျက်ရတနာ တွေ၊ သူ့ရဲ့ ရုပ်အင်္ကျီ ရွှေရင်ထိုးတွေ၊ သူ့ရဲ့ ရွှေဖိနပ်ကွင်းတွေ၊ သူ့ရဲ့ အဖိုးတန် ရွှေနာရီတွေကို ရက်ရက်ရောရောကြီး ပေးလိုက်ပါတယ်။ သူ့ကို ဆုတော်အဖြစ် ချီးမြှင့်ထားတဲ့ လီးဂျင့်အော့အော်နာဘွဲ့ကိုလည်း သူ လူဆင်းရဲအဖြစ် ကြေညာ ခံနေရသမျှ တပ်ဆင်ခြင်း မပြုဘူးလို့ ငြင်းပုံကလည်း တော်တော်စိတ်ထိခိုက်စရာ ကောင်းပါတယ်။ သူ့ဇာတ်လိုက် ဘီရော့တေးဟာ ဒီလိုနဲ့ သူ့ရဲ့ ဂုဏ်သိက္ခာကို အကျမခံဘဲ အာဇာနည်တစ်ယောက်ရဲ့သေခြင်းမျိုးနဲ့ သေသွားခဲ့ပါတယ်။

ဘားလ်ဇက်ရေးပြတဲ့ ပြင်သစ်ဘူဇွာ ကုန်သည်လူတန်းစားရဲ့ ရုပ်ပုံလွှာဖွဲ့စည်းပုံ၊ အဲဒီ ရုပ်ပုံလွှာရဲ့ အရောင်အသွေး၊ ဆေးချက်အထူအပါး စသည်တို့အားလုံးဟာ အဓိက ဇာတ်ဆောင်ရဲ့ ရုပ်ပုံပေါ်မှာ အမှီပြုနေကြပါတယ်။ ဘားလ်ဇက်ဟာ ဘီရော့တေးကို ခမ်းနားအောင် ရေးချယ်ပြပြီးတဲ့နောက် သူ့လောက် အဆင့်အတန်းမမြင့်တဲ့ ဘူဇွာကုန်သည် လူတန်းစားကိုတော့ စုတ်ချက်ပေါ့ပေါ့ကလေးနဲ့ သာမန်လောက်ပဲ ရေးခြယ်ပြသွားပါ တယ်။

သူတို့တွင် ကျေးလက်၌ တောအိမ်ကလေးများ ရှိကြ၏။ သူတို့သည် ထင်ပေါ်ကျော်ကြားလိုကြ၏။ ဘွဲ့ထူးဂုဏ်ထူးများကို ရချင်ကြ၏။ ထိုသူတို့ကား လူတိုင်း၊ အရာတိုင်းကို မနာလိုဝန်တို ဖြစ်ကြ၏။ တစ်ချိန်တည်းမှာပင် သူတို့သည် စိတ်သဘောကောင်းကြ၏။ သစ္စာရှိကြ၏။ သနားတတ်

ကြ၏။ ရိုင်းပင်းကူညီတတ်ကြ၏။ သူတို့မှာ ချို့ယွင်းချက်တွေ့လျှင် သူတို့ထက် အထက်တန်းကျသူတို့၏ လှောင်ပြောင်သရော်ခြင်းကို ခံကြရရှာ၏။ ထိုစိတ်ကောင်းရှိသည့် လူတန်းစားသည် သူတို့သမီးငယ်များအား မိုင်းကောင်းကျောက်ဖိဖြစ်ရန်၊ အလုပ်ကြိုးစားရန်၊ လင်ယောကျ်ားကို ရိုသေရန် ဆုံးမသွန်သင်ကြ၏။ ထိုမိန်းမပျိုများမှာ သာမန်မိန်းမများသာဖြစ်လာကြပြီး သူတို့ကိုလည်း သာမန်ယောကျ်ားများကသာ လက်ထပ်ကြလေသည်လို့ ဘားလ်ဇက်က ရေးခဲ့ပါတယ်။

ဘားလ်ဇက်ရဲ့ မင်းစိုးရာဇာ လူတန်းစားတွေထဲမှာ ဘီရော့တေးလို၊ ကွန်းစတင်စ်လို၊ ပိုပီနော့လို၊ ဦးလေးပီရာလော့လို ကြီးကျယ်မြင့်မြတ်တဲ့ ပုဂ္ဂိုလ်ကြီးမျိုးတွေကတော့ တော်တော်ရှားပါတယ်။

* * *

# ကြီးပွားရေးဝတ္ထုကြီးတစ်ပုဒ်

အဲဒီမြင့်မြတ်တဲ့ ဇာတ်ဆောင်များဟာ ဘယ်တော့မှ အသက်ကင်းမဲ့ မနေပါဘူး။ သူတို့ရဲ့ လေးနက်တဲ့ လူ့စရိုက်ဟာ အခြားသောသူများနဲ့မတူ ထူးခြားနေပါတယ်။ ပီလာရိုးစာ ဉာဏ်ရှိတယ်။ သိတတ်တယ်။ အလွန်ရက် ရောတတ်ပြီး ရိုးသားတယ်။ ဒါကြောင့် ကျွန်တော်တို့မှာ သူ့ကို စွဲလမ်းရတယ်။ 'ဦးလေး . . . ဦးလေးဟာ သိပ်အံ့ဩစရာကောင်းတဲ့ အရာတွေကို ရိုးရိုးလေးပဲ ပြောတတ်တယ်နော်။ ဦးလေးကို ကျွန်တော် သိပ်ခင်သွားပြီ' လို့ ဘီရော့တေး က ပြောပါတယ်။ ဒါပေမယ့် ပီလာရိုးဟာ ရောင်စုံမှန်စီ နတ်သူတော်စင် ရုပ် တစ်ရုပ်မဟုတ်ပါဘူး။ သူဟာ အလွန်အကွက်မြင်တဲ့ စီးပွားရေးသမားကြီး တစ်ယောက်ပါ။ လူလိမ်လူကောက်တွေ ငွေတိုးချေးစားသူတွေရဲ့ ကလိမ်ဉာဏ် တွေကို ကောင်းကောင်းသိတဲ့ လူတစ်ယောက်ပါ။ လိုအပ်လာလို့ရှိရင် လူမွဲ ကြေညာပြီး ဘယ်လို ဒေဝါလီခံရမယ်ဆိုတာမျိုးတွေကို အကြံပေးတတ်သူ တစ်ဦးပါ။ အခြေအနေက တောင်းဆိုလာရင် ကကျိကကြောင်နိုင်ပြီး ခွတိုက် တတ်သူတစ်ဦးပါ။ ဒီအတိုင်းပဲ ကွန်းစတင့်စ်ဘီရော့တေးဟာလည်း အပြစ်ပြော စရာမရှိတဲ့ မယားကောင်းတစ်ယောက်ပါပဲ။ သူက သာမန်စဉ်းစားဉာဏ်ဟာ ကျရောက်လာမယ့် ဘေးအန္တရာယ်ကြီးတွေကို ကြိုမြင်တတ်ပါတယ်။ ဒါပေ မယ့် စိတ်ကောင်းနှလုံးကောင်းရှိသူဖြစ်လေတော့ ဒီလို ကျရောက်လာမယ့်

အန္တရာယ်တွေကို မပြောရက်ဘူး။ မပြောဖြစ်ဘူး။ တစ်ပြိုင်နက်တည်းမှာ သူ့မှာလည်း သူ့လျှို့ဝှက်ချက်တွေ ရှိပါတယ်။ တစ်ခါတုန်းက ဒျူတီလေးက သူ့ကို ရိသဲ့သဲ့ လုပ်ဖူးပါတယ်။ ဒါပေမယ့် ဒီအကြောင်းကို သူ့ယောက်ျားကို တစ်ခါမှ မပြောဖူးပါဘူး။ သူ့ယောက်ျားရဲ့ တပည့်ဖြစ်တဲ့ အဲဒီလူကို သတိထားလို့သာ ယောက်ျားကို သတိပေးပါတယ်။ ဒါပေမယ့် သူ့ယောက်ျား ဘီရော့တေး သူ့ကို တစ်ခါမှ မပြောဖူးတဲ့ စကားလုံးတွေနဲ့ ရေးထားတဲ့ တီလေးရဲ့ ရည်းစားစာတွေကိုတော့ သိမ်းထားပါတယ်။ 'အချစ်ရယ်၊ ကိုယ်မင်းကို ဘယ်လောက်ချစ်သလဲဆိုတာ မင်းသိပါတယ်' ဆိုတဲ့ စာမျိုးတွေပါ။ တီလေးဆိုတဲ့ လူက လူပွေလူရှုပ်၊ ဒါပေမယ့် ရုပ်က ဖြောင့်တယ်။ ကွန်းစတင့်စ်ဟာ လူပွေလူရှုပ်ကို အထင်လည်းသေး၊ တစ်ဘက်ကလည်း ဒီလိုရုပ်ဖြောင့်တဲ့ ယောက်ျားတစ်ယောက်က သူ့ကို သဲကြီးမဲကြီး ဖြစ်နေတာမျိုးကို တွေ့ရတော့ ဝမ်းသာချင်သလိုလို ဂုဏ်ယူချင်သလိုလို ဖြစ်နေတယ်။ ကွန်းစတင့်စ်ဟာ အဲဒီလောက်ရိုးတဲ့ မိန်းမပါ။ ဒီလို ရုပ်ထွေးတဲ့စရိုက်ကို ပြနိုင်တဲ့အတွက် ဘားလ်ဇက်ရဲ့ ဇာတ်ဆောင်များဟာ သုံးဘက်မြင်ဖြစ်နေပါတယ်။ ဒါကြောင့်မို့သာလျှင် ဘားလ်ဇက်ရဲ့ ကမ္ဘာလောကကြီးဟာ တကယ့်ဘဝရဲ့ ခိုင်မာမှုမျိုး ရှိနေခြင်းဖြစ်ပါသည်။

ဘားလ်ဇက်ဟာ သူ့ဇာတ်ဆောင်တွေကို တင်ပြရုံပဲ တင်ပြသွားတာပါပဲ။ အဲဒီ ဇာတ်ဆောင်တွေအပေါ်မှာ တစ်စုံတစ်ရာ ဝေဖန်အကဲဖြတ်ခြင်း မပြုပါဘူး။ သူ့ရဲ့ ထွက်သက်အနံ့ဟာ နံစော်မနေလို့ရှိရင် ရိုဂွင်ဟာ ဘယ်နည်းနဲ့မှ မရိုးဖြောင့်တဲ့ ရှေ့နေတစ်ယောက် မဟုတ်ဘူးဆိုတာ သူ ကောင်းကောင်းသိပါတယ်။ ရိုဂွင်ဟာ နောက်ဆုံးမှာ စီးပွားပျက်သွားတဲ့အတွက် သူ့မိန်းမက သူ့ကို အထင်သေးလာခဲ့ပါတယ်။ သူ့အပေါ်မှာ အထင်သေး အမြင်သေးဖြစ်ပြီး လိမ်လည်လှည့်ဖျားတာမျိုးတွေကို လုပ်လာခဲ့ပါတယ်။ အဲဒီမှာတင် ရိုဂွင်ဟာ စိတ်ပြေလက်ပျောက်ဆိုသလို ကြေးစားမိန်းမတွေနဲ့ ပျော်မွေ့တယ်။ ဒီမှာတင် ပိုက်ဆံ အမြဲလိုလာတယ်။ ဒီမှာတင် လိမ်တာကောက်တာတွေ လုပ်လာပြီး နောက်ဆုံးမှာ ထွက်ပြေးသွားတယ်။ ဘားလ်ဇက်ရဲ့ ဇာတ်ဆောင်များဟာ သူတို့ကိုယ်ကို သူတို့ဘယ်တော့မှ လှည့်ဖျားခြင်းမရှိဘူးလို့ အာလိန်းက ပြောခဲ့ဖူးပါတယ်။ သူ့ဇာတ်ဆောင်တိုင်း ဟာ သူတို့ရဲ့ အမြင်တွေကို ပွင့်လင်းရိုးသားစွာ ပြောပြကြပါတယ်။ (လူလိမ်) ဂေါ့ဗဆက်ဟာ ဂေါ့ဗဆက်ဖြစ်ရတာကို နည်းနည်းလေးမှ နောင်တသံဝေဂ မဖြစ်ပါဘူး။

'ဘားလ်ဇက်၏ ဇာတ်ဆောင်များတွင် တွေ့ရသည့်အပြစ်မှာ ကိုယ်သိတာကို အမှန်ဟု ထင်နေကြခြင်းပင် ဖြစ်သည်။ သူ့ဇာတ်ဆောင်များသည်

ရိုးစင်းလွန်းသည်။ ချွတ်ယွင်းချက်တွေရှိသည်။ ထို့ကြောင့် စိတ်ယိမ်းယိုင်တတ်သည်။ ရှာမှုရှားသည်။ သို့ရာတွင် ဘားလ်ဇက်သည် သူတို့အား စရိုက်ရှင်အဖြစ် သရုပ်ဖော်ထားသည့်အတွက် သူတို့သည် အစစ်အမှန်ဖြစ်နေသည်။ သူတို့သည် အခြားသူတို့ မဖြစ်နိုင်၊ အခြားသူတစ်ယောက်အဖြစ် ပြောင်းလဲ၍ မရနိုင်သည့်အတွက် သရုပ်ပီပြင်နေကြသည်’ လို့ အာလိန်းက ရေးခဲ့ပါတယ်။

ဘားလ်ဇက်ဟာ ကောင်းမှုကုသိုလ်အတွက် သာဓုလည်း မခေါ်ချင်ဘူး။ သူတို့ရဲ့ မကောင်းမှုတွေအတွက် ငရဲကိုလည်း မပို့ချင်ဘူး။ ဒီနေရာမှာတော့ ဘားလ်ဇက်ဟာ ဒစ်ကင်းနဲ့ ခြားနားပါတယ်။ လူလိမ်လူကောက် ဖြစ်တဲ့ ဘီရော့တေးဟာ ကောင်းသောသေခြင်းမျိုးနဲ့ သေသွားရပါတယ်။ ဂေါ့ဗဆက်လည်း ထိုနည်းအတိုင်းပါပဲ။ ဒျူတီလေးဟာ ဘဝမှာ ကြီးမားတဲ့ အောင်မြင်မှုကြီးတွေကို ရဖို့အတွက် အကြီးအကျယ် ရုန်းကန်ခဲ့ရပါတယ်။ ပီလာရိုးကတော့ အာဏာရှိသည့်တိုင် စိတ်ကောင်းရှိတယ်။ အန်ဆယ်ကတော့ ရက်ရောလွန်းတဲ့အတွက် ဒုက္ခရောက်ခဲ့ရတယ်။

ဘားလ်ဇက်ရဲ့ ‘ဆီဇာပီရော့တေး’ ဝတ္ထုကြီးဟာ ကျွန်တော်တို့ကို လူကျင့်ဝတ်ဆိုင်ရာ သင်ခန်းစာကို မပေးပါဘူး။ ဒါပေမယ့် နိဿရည်းကိုတော့ ပေးပါတယ်။ အဲဒီ နိဿရည်းကတော့ အရောင်းအဝယ်လုပ်ခြင်းနဲ့ စီးပွားရေးလုပ်ငန်းတို့ကို ဘယ်လိုလုပ်ရတယ်ဆိုတဲ့ အကြောင်းပါပဲ။ စီးပွားရေးလုပ်ငန်းတွေ အကြောင်းကို ထဲထဲဝင်ဝင်သိတဲ့ လူဆိုးတွေအဖို့ ရတဲ့ရလဒ်ကတော့ ပြစ်ဒဏ်မဟုတ်ပါဘူး။ အထင်သေးခံရခြင်း ဖြစ်ပါတယ်။ စီးပွားရေးလုပ်ငန်းအကြောင်းကို လျစ်လျူရှုတဲ့ လူကောင်းတွေရတဲ့ ရလဒ်ကတော့ အကျိုးကျေးဇူးတွေ မဟုတ်ဘဲ လေးစားအထင်ကြီးခံရခြင်းပဲ ဖြစ်ပါတယ်။ စီးပွားရေးလုပ်ငန်းမှာ နိဿရည်းနဲ့ အကျင့်သီလကို မျှတအောင် ပေါင်းစပ်တတ်တဲ့ အန်ဆယ်ဟာ မြို့စားကြီးတစ်ဦး ဖြစ်သွားပြီးနောက်မှာ ဝန်ကြီးတစ်ဦး ဖြစ်သွားပါတယ်။ သူကတော့ ဘီရော့တေးလို ဒုက္ခဆင်းရဲနဲ့ သေမသွားရဘဲ ရိုးရိုးကုတ်ကုတ်၊ တည်တည်ငြိမ်ငြိမ်၊ ပျော်ပျော်ရွှင်ရွှင်နဲ့ အသက်ထက်ဆုံး နေသွားပါတယ်။

ဘားလ်ဇက်က လူ့လောကကြီးဟာ အပြောကျယ်တဲ့ သမုဒ္ဒရာကြီးတစ်စင်းနဲ့တူတယ်။ အဲဒီ သမုဒ္ဒရာကြီးထဲမှာ ရေစီးကြောင်းတွေ လာရောက်ပေါင်းဆုံကြတယ်။ ထောင်ပေါင်းများစွာသော လှိုင်းလုံးတွေ လာရောက်ရိုက်ပုတ်ကြတယ်။ အလားတူပဲ လူ့ဘဝမှာလည်း စိတ်ဝင်စားမှုတွေ၊ မျှော်မှန်းချက်တွေရှိကြတယ်။ လူဟာ ဖိမ်ရှိရှိ၊ ချမ်းချမ်းသာသာ၊ ပျော်ပျော်ကလေး နေသွားနိုင်တယ်။ ဘဝလှိုင်းလုံးကြီးတွေ၊ လောကဓံ လှိုင်းလုံးကြီးတွေ ရိုက်

ခတ်ချက်ကို ကြံ့ကြံ့ခံနိုင်တယ်လို့ ယူဆတဲ့လူဟာ တစ်နေ့မှာ အမှားနဲ့ တွေ့တတ်တယ်၊ ဒီအချက်ကို နားမလည်ခြင်းဟာ လူရဲ့ ကြီးကျယ်တဲ့အမှား ဖြစ်တယ်လို့ ဘားလ်ဇက်မြင်ပါတယ်။ (မမြဲတဲ့သဘောကို မမြင်နိုင်တဲ့လူဟာ မှားတယ်လို့ ဆိုလိုချင်တဲ့ သဘောပါ။) လောကကြီးမှာ ကိုယ့်စိတ်ဝင် စားမှုကို ကိုယ်မကြည့်ဘဲ တခြားသူတွေရဲ့ စိတ်ဝင်စားမှုကို သိဖို့ အရေးကြီးတယ်။ ဘာဖြစ်လို့လဲဆိုတော့ ကိုယ်ဟာ အခြားသူတွေရဲ့ စိတ်ဝင်စားမှုတွေပေါ်မှာ မှီပြီး အလုပ်လုပ်ရလို့ (စီးပွားရှာရလို့) ဖြစ်တယ်။ ရိုးအတဲ့ ဘီရော့တေးက ငွေရှင်ကြေးရှင်များဖြစ်တဲ့ ကဲလားနဲ့ နျူစင်ဂျင်းတို့က သူ့ကို သနားတဲ့အတွက် ငွေချေးကြလိမ့်မယ်လို့ ထင်တယ်။ ဉာဏ်ရှိတဲ့ ပီလာရိုးကတော့ ငွေရှင်ကြေးရှင်ဆိုတာ သိပ်လောဘကြီးတော့ ဒီလို သနားတာမျိုးတွေ မရှိလို့ ယူဆတယ်။ ဒါကြောင့်မို့ သူ့ဆီကိုသွားပြီး အသနားခံနေမယ့်အစား တရားဥပဒေအရ လူမွဲဖြစ်ကြောင်း ကြေညာလိုက်တယ်။ အဲဒီအချိန်ကစပြီး လူမွဲဘဝဟာ အရှင်သခင်ဖြစ်လာတယ်။ ဒါကြောင့် 'မြီစားသည် မြီရှင်ထက် အခွင့်သာပေ၏' လို့ ရေးထားခဲ့ခြင်း ဖြစ်ဟန်တူပါတယ်။

ဘားလ်ဇက်ဟာ ဒီဝတ္ထုကြီးကို ရေးဖို့အတွက် စီးပွားရေးကောလိပ်က သင်ရိုးညွှန်းတမ်း စာအုပ်တွေကို တော်တော်များများကို ဖတ်ခဲ့ရလိမ့်မယ် ထင်တယ်လို့ ရေးခဲ့ဖူးပါတယ်။ အမှန်ပါပဲ။ အဲဒီဝတ္ထုကို ဖတ်လိုက်ရင် ငွေတိုးချတဲ့ ဥပဒေတွေ၊ အရောင်းအဝယ်လုပ်ငန်းတွေ ကြော်ငြာလုပ်ငန်းအကြောင်းတွေ တော်တော်များများကို သိရပါတယ်။ အရောင်းအဝယ်လုပ်ငန်းရဲ့ နိသရည်းများနဲ့ ပတ်သက်လို့ အကောင်းဆုံးသော ဝတ္ထုကြီးတစ်ပုဒ် ဖြစ်ပါတယ်။ ဘားလ်ဇက်တို့ခေတ်တုန်းကလည်း ဒီအတိုင်းပါပဲ။ ကျွန်တော်တို့ ခေတ်ကြီးအကြောင်းကိုလည်း ကြိုပြောနေသလိုပါပဲ။

ဘားလ်ဇက်ရဲ့ အောင်မြင်ကြီးပွားရေးသမား သဘောထားကြောင့် အချို့သော ဝေဖန်ရေးဆရာတို့က ဘားလ်ဇက်ရဲ့ ဝတ္ထုဟာ အကျင့်ပျက်တဲ့ဝတ္ထု ဖြစ်တယ်လို့ ဝေဖန်ကြပါတယ်။ ဒီလိုဝေဖန်တော့ ဘားလ်ဇက် စိတ်ဆိုးပါတယ်။ ဘာဖြစ်လို့လဲဆိုတော့ သူက စာရိတ္တတရားတို့၊ အကျင့်စရိုက်တို့ဆိုတာ လူ့ရဲ့ အထက်ကရှိတယ်လို့ ယူဆတဲ့ အတွက်ကြောင့်ပါ၊ လူ့အဖွဲ့အစည်းဟာ ထောင်ပေါင်းများစွာသော အမြင့်အတန်းတွေ ဖွဲ့စည်းထားကြတယ်။ သခင်နဲ့ ကျေးကျွန်ရဲ့ ဆက်ဆံရေး၊ ရောင်းသူနဲ့ ဝယ်သူရဲ့ ဆက်ဆံရေး၊ မြီစားနဲ့ မြီရှင်တို့ရဲ့ ဆက်ဆံရေး စသည်တို့နဲ့ ဖွဲ့စည်းထားတယ်။ ဒီသဘာဝနှောင်ကြိုးတွေဟာ တရားဥပဒေရဲ့အထက်မှာ ရှိတယ်လို့ သူ ယူဆပါတယ်။ ကျေးတောသား လယ်သမားဟာ ဈေးဆစ်တတ်သလို ဘဏ်တိုက်ဟာလည်း

ဓမ္မတာ တရားထဲက အရာတစ်ခုသာ ဖြစ်တယ်လို့ သူယူဆပါတယ်။ ဒီအစစ်အမှန်အချက်ကို ထည့်သွင်းစဉ်းစားခြင်းမပြုဘဲ အသက်ရှင်နေထိုင်လို့ မရနိုင်ပါဘူး။ ဒီအချက်ကို လျစ်လျူရှုသူဟာ ပျက်စီးခြင်းဘေးကြီးထဲကို ခုန်ဆင်းနေတာနဲ့ အတူတူပါပဲ။ ဒါပေမယ့် လူ့ကျင့်ဝတ်တရားဟာလည်း သဘာဝနှောင်ကြိုးတစ်ခုပဲ ဖြစ်ပါတယ်။

ဒီအချက်ဟာ ဘားလ်ဇက်က အတိအလင်း ထုတ်ဖော်ပြောဆိုခြင်း မပြုသော်လည်း 'ဆီဇာဘီရော့တေး' ဝတ္ထုကြီးက ပေးလိုက်တဲ့ သင်ခန်းစာပဲ ဖြစ်ပါတယ်။

* * *

## ဖလောဘေးရဲ့ မဒမ်ဗိုဗာရီ

ပြင်သစ်ပြည်နဲ့ ကမ္ဘာတစ်ဝှမ်းမှာရှိတဲ့ ဝေဖန်ရေးဆရာတော်တော်များများကပဲ ဖလောဘေးရဲ့ 'မဒမ်ဗိုဗာရီ' ဝတ္ထုကြီးဟာ အနုပညာအရာမှာ ခြောက်ပြစ်ကင်းပြည့်စုံကောင်းမွန်တဲ့ ဝတ္ထုကြီးတစ်ပုဒ်လို့ ယူဆကြပါတယ်။ အဲဒီဝတ္ထုကြီးသည်မျှ ဂုဏ်သတင်းကြီးရတာဟာ ဘာကြောင့်လဲ။ တချို့ကတော့ အတတ်ပညာဆိုင်ရာ အကြောင်းများကြောင့်လို့ ပြောပါတယ်။ သည်လောက် ဆုတ်နစ်ခြင်းမရှိတဲ့ ဂရုမစိုက်မှုနဲ့ လူ့ရဲ့ စိတ်ကူးက ထုတ်လုပ်ပေးလိုက်တဲ့ အနုပညာပစ္စည်းရယ်လို့ တစ်ခုမှ မရှိသေးဘူးလို့ တချို့က ဆိုကြပါတယ်။ အဲဒီဝတ္ထုက ကိုင်တွယ်တဲ့အကြောင်းအရာကတော့ ရိုးရိုးကလေးပါပဲ။ ရှင်းရှင်းကလေးပါပဲ။ ဝတ္ထုရဲ့ လူမှုရေးနဲ့ ဒေသနောက်ခံကားကလည်း စာရေးဆရာ ကောင်းစွာကျွမ်းကျင်တဲ့ နောက်ခံကားဖြစ်ပါတယ်။ ဝတ္ထုထဲက ခမ်းနားတဲ့ ရှုခင်းကြီးတွေဟာလည်း ကျွမ်းကျင်စွာ ရေးဖွဲ့တင်ပြထားတဲ့ ရှုခင်းများဖြစ်ပါတယ်။ ဝတ္ထုထဲမှာ ဖော်ပြထားတဲ့ အသေးစိတ် အချက်အလက်များကလည်း တိကျပြီး အပိုအလိုမရှိ အံဝင်ခွင်ကျဖြစ်နေပါတယ်။ ရေးဟန်ကလည်း ဘာမှပြောစရာ မရှိသလောက်ပါပဲ။ ဖလောဘေးဟာ ဒီဝတ္ထုကြီးကို ရေးခဲ့တုန်းက ဘယ်လောက် အားစိုက်ခဲ့သလဲဆိုတာ အားလုံးသိကြပါတယ်။ စကားလုံးကလေးတွေကို ရွေးချယ်သုံးစွဲသွားပုံ၊ စာပိုဒ်တစ်ပိုဒ်ဟာ ဂီတသံလို ချိုနေပုံ၊

ကာလပုဒ်တွေကို ရွေးချယ်ပုံ စသည်တို့ကို ပြီးစလွယ် လုပ်သွားတာ မဟုတ်ပါဘူး။ သေသေချာချာ လေ့လာစဉ်းစားပြီးမှ ရွေးချယ်သုံးနှုန်းသွားတာတွေ ဖြစ်ပါတယ်။

တစ်ခါတလေမှာ စာမျက်နှာကလေး တစ်မျက်နှာ၊ စာကြောင်းကလေးတစ်ကြောင်းရအောင် သုံးရက်လောက် အချိန်ယူရတာမျိုးတွေတောင် ရှိပါတယ်။ ဝါကျအဖြတ်အတောက်၊ အထားအသိုမှာ နရီစည်းချက်မှန်နေအောင် ဂရုဓမ္မစိုက်ရေးထားတာ ဖြစ်လေတော့ သရတစ်လုံးကို ဖြုတ်ပစ်လိုက်၊ ရွှေ့ပစ်လိုက်တာနဲ့ အားလုံးပျက်စီး သွားနိုင်ပါကလားလို့တောင် ထင်ရပါတယ်။ အဲဒီထဲက နာမည်ကလေးတစ်ခုကို ရွေးတာတောင်မှ ပီယဝါစာ ဖြစ်ရဲ့လား၊ အဓိပ္ပါယ်ပြည့်စုံရဲ့လား၊ ရွတ်လို့ဆိုလို့ ကောင်းရဲ့လား စတဲ့ အချက်တွေကို ရွေးပြီးမှ နာမည်ပေးတာပါ။ အဲဒီ ဝတ္ထုထဲက ထင်ရှားတဲ့ အခန်းတစ်ခုဖြစ်တဲ့ လယ်ယာစိုက်ပျိုးရေးပြပွဲကြီး အကြောင်းဟာလည်း တေးဂီတကြီးတစ်ပုဒ်ကို လေ့ကျင့်ခန်းတီးနေသလိုပါပဲ။ နော်မန်ဒီကျေးလက်က မင်္ဂလာဆောင်အကြောင်းကို ရေးသွားရာမှာလည်း ရှေးခေတ်က ဒတ်ချ်ပန်းချီဆရာကြီးတွေရဲ့ ပန်းချီလက်ရာမြောက် ကားကြီးတစ်ကားကို ကြည့်နေရသလိုပါပဲ။ ဖလောဘေးဟာ သူ့ဘဝတစ်လျှောက်လုံးမှာ လူမဆန်တဲ့ ပြည့်စုံမှုကို လိုက်လံရှာဖွေခဲ့ပါတယ်။ မဒမ်ဗိုဗာရီ ဝတ္ထုကြီးထဲမှာတော့ သူလိုချင်တာကို ရှာတွေ့သွားခဲ့တော့တာ ပါပဲ။

ဒါပေမယ့် မဒမ်ဗိုဗာရီဝတ္ထုကြီးကျော်ကြားရတာ၊ သည်မျှလောက်သက်တမ်းရှည်ရတာကတော့ အဲဒီအတတ်ပညာပိုင်းဆိုင်ရာအကြောင်းတွေကြောင့်ချည်း မဟုတ်ပါဘူး။ အများအားဖြင့်တော့ စာပေသမိုင်းမှာ သက္ကရာဇ်တစ်ခုတိုးလိုက်တဲ့ စာအုပ်မျိုးဟာ ကျကျနန တည်ဆောက်ဖွဲ့စည်းထားတဲ့ ဝတ္ထုမျိုးတွေ မဟုတ်ဘူး။ စာပေမဟာလမ်းမကြီးပေါ်မှာ မှတ်တိုင်စိုက်တဲ့ ဝတ္ထုမျိုးတွေသာ ဖြစ်လေ့ရှိပါတယ်။ မယ်ရီမေရဲ့ ဝတ္ထုတွေဟာ ကျကျနန၊ သေသေသပ်သပ် ရေးထားတဲ့ဝတ္ထုတွေပဲ။ ဒါပေမယ့် အဲဒီဝတ္ထုတွေဟာ အောင်မြင်သလောက်အဆင့် မရောက်ခဲ့ဘူး။ ဒွန်ကွီဇော့ဟာ တော်တော် အရေးကြီးတဲ့ စာအုပ်တစ်အုပ်ဖြစ်ပါတယ်။ ဒါပေမယ့် ကျကျနန ဖွဲ့စည်းတည်ဆောက်ထားတဲ့ ဇာတ်လမ်းမဟုတ်ဘူး။

'ဒွန်ကွီဇော့' ဝတ္ထုကြီးဟာ ကမ္ဘာတစ်ဝှမ်းမှာ ယခုထက်တိုင် ဂုဏ်သတင်းကြီးနေတာကို ကြည့်ရင် 'မဒမ်ဗိုဗာရီ' ဝတ္ထုကြီး ဘာကြောင့် ဂုဏ်သတင်းကြီးရတယ်ဆိုတာကို နားလည်နိုင်လိမ့်မယ်လို့ ထင်ပါတယ်။ ထင်ရှားကျော်ကြားတဲ့ အဲဒီဝတ္ထုကြီး နှစ်ပုဒ်စလုံးဟာ အနှစ်သာရအားဖြင့် စိတ်ကူး

ယဉ်မှု ဆန့်ကျင်ရေးသဘောကို ဆောင်နေကြတယ် ဆိုတာကို သတိပြုသင့်ပါတယ်။ 'ဒွန်ကွိဇော့' ဝတ္ထုကြီးဟာ ရေးအစဉ်အဆက်ရှိခဲ့တဲ့ သူရဲကောင်းဝါဒအထင်ကြီးမှုကို လှောင်ပြောင်သရော်ရင်း အသေသတ်ပစ်လိုက်ပါတယ်။ 'မဒမ်ဗိုဗာရီ' ကတော့ လောကကို လှောင်ပြောင်အရွဲ့တိုက်တဲ့ ဝတ္ထုဖြစ်ပါတယ်။ ဒါပေမယ့် ဒီလိုအရွဲ့တိုက် လှောင်ပြောင်တဲ့နေရာမှာ စာရေးဆရာက ဝင်ရောက်ထင်မြင်ချက်ပေးတဲ့ပုံမျိုးနဲ့ အရွဲ့တိုက်တာမျိုး မဟုတ်ပါဘူး။ ဖလောဘေးဟာ ဒီဝတ္ထုထဲမှာ သူ့ကိုယ်သူ လိပ်ပြာခွာပြီး ခပ်ဝေးဝေးမှာ နေပါတယ်။ အဲဒီဝတ္ထုထဲမှာ လှောင်ပြောင်အရွဲ့တိုက်တယ်ဆိုရာမှာ စာရေးဆရာက ဝင်ရောက်ပြောတာမျိုးမဟုတ်ဘဲ အဲဒီဝတ္ထုထဲမှာပါတဲ့ ဇာတ်ဆောင်များက ပြောတဲ့စကားတွေ၊ အဲဒီဇာတ်ဆောင်တွေရဲ့ ကြမ်းတမ်းခက်ခဲတဲ့ ဘဝအဖြစ်အပျက်တွေကနေ တစ်ဆင့် လှောင်ပြောင်သွားတာမျိုး ဖြစ်ပါတယ်။

ဖလောဘေးဟာ 'အချစ်' လို့ ခေါ်တဲ့အရာကို လှောင်ပြောင်သရော်ပစ်ခဲ့ပါတယ်။ အဲဒီခေတ်တုန်းကတော့ စိတ်ကူးယဉ်ဝါဒီတွေက အထွတ်အမြတ်ထားကြတဲ့ အရာပေပဲပေါ့။ ဖလောဘေးကတော့ သူတို့ အထွတ်အမြတ် ထားတဲ့အရာကို သေးသိမ်ယုတ်ညံ့အောင် လုပ်ပစ်လိုက်ပါတယ်။ ဒါကြောင့်မို့ သူ့ကို အဲဒီခေတ်လူငယ်တွေက 'မော်ဒန်' ဖြစ်တယ်လို့ သတ်မှတ်ခဲ့ကြပါတယ်။ 'မဒမ်ဗိုဗာရီ' ဝတ္ထုကို နားလည်ချင်ရင် စိတ်ကူးယဉ်ဝါဒနဲ့ သရုပ်မှန်ဝါဒရဲ့ လှုပ်ရှားမှုအတက်အကျတွေကို ကျွန်တော်တို့ လေ့လာဖို့ လိုပါတယ်။

*

အချစ်ဆိုတာဟာ ဆာလောင်ခြင်း၊ ရေငတ်ခြင်း စတဲ့အရာတွေလို မူလအားဖြင့် လူ့ရဲ့ ပကတိစိတ်တစ်ခု ဖြစ်ပါတယ်။ အချစ်ဟာ အာသာ ဆန္ဒရဲ့ မူကွဲတစ်မျိုး၊ ထူးခြားတဲ့ ပုံသဏ္ဍာန်ကွဲတစ်မျိုး ဖြစ်ပါတယ်။ အဲဒီ ပုံသဏ္ဍာန်ကွဲတစ်ခုဖြစ်တဲ့ အာသာဆန္ဒဟာ တိရစ္ဆာန်လောကထဲကို ရောက်လာတဲ့အခါမှာ ဖိုမဆက်ဆံရေး သဘောဖြစ်လာပြီး အဲဒီနောက်မှာ ရမ္မက်အသွင်ကို ဆောင်လာပါတယ်။ ပြီးတော့ စိတ်ခံစားချက်တစ်ခု ဖြစ်လာပါတယ်။ အဲဒီအခါမှာ အချစ်စိတ်ဟာ ပုဂ္ဂလဓိဋ္ဌာန်သဘောကို ဆောင်လာပါတယ်။ ယောက်ျားတစ်ယောက်ဟာ တွေ့ရာမိန်းမတစ်ယောက်ကို မဟုတ်ဘဲ မိန်းမတစ်စုံတစ်ယောက်ကို တောင့်တလာမိတယ်။ အဲဒီမိန်းမမှာလည်း လွတ်လပ်စွာ ရွေးချယ်ပိုင်ခွင့်ရှိနေတယ်။ အဲဒီလို ယောက်ျားတစ်ယောက်က မိန်းမတစ်ယောက်ကို တောင့်တမိ၊ မိန်းမကလည်း သူ့ကိုယ်ပိုင်ရွေးချယ်မှုနဲ့ သူ့ကို တုံ့ပြန်မိတဲ့အခါကျမှသာ

လျှင် စတင်ဒယ်ပြောလေ့ရှိတဲ့ 'ပုံဆောင်ခဲအသွင်ဖြစ်စဉ်' ပေါ်ပေါက်လာဖို့ အခြေအနေတွေ ပေးလာကြခြင်းဖြစ်ပါတယ်။

အလယ်ခေတ် ခရစ်ယာန်သာသနာခေတ်တုန်းက မိန်းမတွေဟာ ခင်ကြီးရှေ့မှာ ဖွင့်ဟဝန်ခံချက်ပေးခြင်းဖြင့် သူတို့ရဲ့ ခံစားချက်တွေကို ဖော်ထုတ်ပြီး မှား၏ မှန်၏ စသဖြင့် ခွဲခြမ်းစိတ်ဖြာ ပြကြရပါတယ်။ အဲဒီမှာ ပြဿနာတက်လာတာက ယောကျ်ားတွေက ကရူးဆိတ်စစ်ပွဲတွေမှာ သွားတိုက်နေရတဲ့အတွက် သူတို့ဇနီးမယားများကို သူတို့ရဲ့ လူယုံတော်တွေနဲ့ ထားပစ်ခဲ့ရတဲ့ကိစ္စပါပဲ။ အဲဒီမှာ ပြသနာတက်ကုန်တော့တာပါပဲ။ ဒီအခြေအနေမျိုးဟာ သူရဲကောင်းဝါဒပုံပြင်တွေ (ယောကျ်ားပီပီ ရက်ရောသဘောထားကြီးပြီး ခွင့်လွှတ်တတ်တဲ့ ပုံပြင်တွေ) ပေါ်ပေါက်လာတော့တာပါပဲ။ ဒီလိုနဲ့ ရာစုနှစ်နှစ်ခုအတွင်းမှာ စိတ်ကူးယဉ်ဝါဒရဲ့ အကြမ်းဖျင်း ကောက်ကြောင်းဟာ တိကျတဲ့ ပုံသဏ္ဌာန်ကို ဆောင်လာခဲ့ခြင်းဖြစ်ပါတယ်။

ဒါပေမယ့် လက်တွေ့ကျတဲ့ လူသားဟာ သူရဲကောင်းရဲ့ သံချပ်အင်္ကျီကို ဝတ်ထားသည်ဖြစ်စေ၊ လူယုံတော်ရဲ့ ဝတ်ရုံကို ဝတ်ထားသည်ဖြစ်စေ ဒီလိုကြာရှည်ဟန်အောင် နေရတာ၊ ဒီလို အပြန်အလှန် ယဉ်ကျေးနေရတာတွေကို ငြီးငွေ့လာခဲ့ပါတယ်။ လူဆိုတာ နတ်တမန်စိတ်ချည်းလည်း ရှိသူမဟုတ်၊ အဟိတ်တိရစ္ဆာန် စိတ်ချည်းလည်း ရှိသူမဟုတ်ဘူးလေ။ အဲဒီလို စိတ်ကူးယဉ်ခေတ်တစ်ခု လွန်မြောက်တိုင်း စာပေဟာ ကြမ်းကြုတ်ရက်စက်မှု နယ်နိမိတ်နဲ့ မနီးမဝေးကို မကြာခဏရောက်လာလေ့ရှိပါတယ်။ ဘာဖြစ်လို့လဲ။ အချစ်မှာ စိတ်သဘောထားကြီးတာ၊ မြင့်မြတ်တာ၊ ခွင့်လွှတ်တာ စတဲ့အရာတွေဟာ လှောင်စရာ ပြောင်စရာဖြစ်လာခဲ့လို့ပါပဲ။ ခွင့်လွှတ်တာတို့၊ မြင့်မြတ်တာတို့၊ စိတ်သဘောထားကြီးတာတို့ စတဲ့ ခံစားချက်တွေဟာ တကယ်အမှန် စိတ်ထားမြင့်တဲ့ ပုဂ္ဂိုလ်တွေက တကယ်အမှန် တုံ့ပြန်ခံစားတဲ့အခါမျိုးမှာ အလွန်မြင့်မြတ်ပြီး အလွန်ကောင်းမွန်တဲ့ ခံစားချက်တွေ ဖြစ်ပါတယ်။ ဒါပေမယ့် အောက်တန်းစားစိတ်ထားရှိသူ၊ စိတ်ထားယုတ်ညံ့သူ တွေက ဒီလို ခံစားချက်မျိုးတွေ ရှိဟန်ဆောင်ပြလာတဲ့အခါမှာတော့ ရယ်စရာ ဖြစ်လာခဲ့ပါတယ်။

ကဗျာဆရာတွေ စတင်တီထွင်ခဲ့စဉ်တုန်းကတော့ အချစ်ရဲ့ဘာသာစကား (ရမ္မက်ရဲ့ ဘာသာစကား) ဟာ လှပမြင့်မြတ်ခဲ့ပါတယ်။ ဒါပေမယ့် အဲဒီလှပမြင့်မြတ်တဲ့စကားတွေဟာ နောင်မှာ ပုံသေကားကျ စကားလုံးတွေ ဖြစ်လာပြီး မာကျောပြောင်ချောသွားခဲ့ပါတယ်။ အချစ်ခံစားချက်က ပြောပြချင်တဲ့ ပြင်းထန်ပေါက်ကွဲမှုကတစ်ခြား၊ ဟောင်းနွမ်းဆွေးမြေ့နေတဲ့ စကားလုံးတွေက တစ်ခြားနဲ့ ကဘောက်တိကဘောက်ချာ ဖြစ်ကုန်တော့တာပါပဲ။ ဝေဒနာ

တွေကို တုံ့ပြန်ဖို့ လေ့ကျင့်သားမရသေးတဲ့ ယဉ်ပါးခြင်းမရှိသေးတဲ့ ၁၇ ရာစုနှစ်က လူတွေကတော့ သူတို့ရဲ့အချစ် ဝေဒနာတွေကို ထုတ်ဖော်ပြောဆိုဖို့ စကားလုံးတွေ ရှိကြပါသေးရဲ့။ ဒါပေမယ့် ၁၈ ရာစုနှစ် လူတွေအဖို့ကတော့ အချစ်ကို ခပ်ပေါ့ပေါ့ပဲ ပိုပြီး သဘောထားလာခဲ့ကြတယ်။ သူတို့အဖို့ အချစ်ဟာ ကစားစရာတစ်ခုသာ ဖြစ်နေပြီး နောင်မှာ ရယ်စရာတစ်ခု အဖြစ်သာ သဘောထားလာခဲ့ကြပါတယ်။

ဒီလို စကားအသုံးအနှုန်းအရာမှာ ယုတ်ညံ့သိမ်ဖျင်းသွားတာ၊ နှုတ်မှုပညာအတတ် ညံ့ဖျင်းသွားတာတွေဟာ သမိုင်းအဖြစ်အပျက်တွေရဲ့ နရီစည်းချက် အပြောင်းအလဲနဲ့ သက်ဆိုင်နေပါတယ်။ ပြည်တွင်းစစ်တွေ ဖြစ်ပွားစဉ်ကာလ၊ တိုင်းပြည်ကို ပြင်ပကျူးကျော်သူတွေ ဝင်ရောက်စဉ်ကာလများမှာ အချစ်ရဲ့ ကိုယ်ထင်ပြပုံဟာ လျင်မြန်မယ် ရက်စက်ရိုင်းပျမယ်။ အဲဒီ အချိန်မှာ မိန်းမဟာ သားကောင်ဖြစ်တယ်။ မိန်းမကို စိတ်ကူးယဉ်ပြီး ချဉ်းကပ်ဖို့ အချိန်မရဘူး။ ငြိမ်းချမ်းရေး ပြန်ရလာတဲ့အခါမှာတော့ အေးအေးဆေးဆေး နေလို့ရပြီ။ ပျော်ပျော်ပါးပါး နေလို့ရပြီ။ အဲဒီအခါမှာ အချစ်ရဲ့ အတတ်ပညာများဟာ သူတို့ ပုံမှန်အနေအထားကို ပြန်ရောက်လာကြပြီ။ ဘရန်တိုမီဟာ ကြမ်းတမ်းခက်ထန်တဲ့ ခေတ်ကြီးထဲမှာ နေခဲ့ရတယ်။ (ဒါကြောင့် သူ့အချစ်စကားတွေဟာ ကြမ်းရှခဲ့တယ်။) ဆယ့်လေးဆက်မြောက် လူဝီဘုရင်ရဲ့ နန်းတွင်းက နန်းတော်သူ နန်းတော်သားတို့ရဲ့အချစ်ဟာ တခြားခေတ်က အချစ်နဲ့ အတူတူဖြစ်ပေမယ့် နန်းတွင်းက အချစ်စကားတွေဟာ သိမ်မွေ့ယဉ်ကျေးနေတယ်။

(စာရေးဆရာမ) ဖေဒရဲဟာ ရာဘယ်လေရဲ့ ဆူညံသောင်းကျန်းတဲ့ မယားတွေပြောတဲ့ စကားလုံးတွေအတိုင်း သူ့ဝတ္ထုထဲမှာ ထည့်ရေးချင်တယ်။ ဒါပေမယ့် ရိပ်ဖမ်း သံဖမ်း၊ ဝေ့ကာဝိုက်ကာ၊ သိုးကာသီကာနဲ့ပဲ ပြောခဲ့တယ်။ သူပြောချင်တာက 'ရမ္မက်ဟာ ပြင်းထန်ဆဲ ဖြစ်တယ်' ဆိုတဲ့ သဘောပါပဲ။ ဒါပေမယ့် ၁၈ ရာစုနှစ်ရောက်တဲ့အခါမှာ ပြင်သစ်မျိုးမတ် လူတန်းစားဟာ မိမိရဲ့အင်အားဖြစ်တဲ့ ခမ်းနားထည်ဝါမှုတို့ တဖြည်းဖြည်း ပျောက်ကွယ်ခဲ့တော့တာပါပဲ။ ဒါပေမယ့် အချစ်ကတော့ ရှိမြဲ ရှိနေပါသေးတယ်။ သို့သော်လည်း အချစ်ကတော့ ယဉ်းကျေးသိမ်မွေ့မှု မပါတော့ဘဲ တော်လှန်ရေးနဲ့အတူ ရုန့်ရင်းကြမ်းတမ်းတဲ့အသွင်နဲ့ ပေါ်လာခဲ့ပါတယ်။

ဖလောဘေးဟာ အဲဒီစိတ်ကူးယဉ်ခေတ် ကုန်ကာနီးမှာ ရင့်ကျက်လူလားမြောက်လာခဲ့သူ ဖြစ်ပါတယ်။ ၁၈၁၅ ခုနှစ်နဲ့ ၁၈၄၈ ခုနှစ်အကြားမှာရှိခဲ့ကြတဲ့ ပြင်သစ်ဝတ္ထုရေးဆရာများ အားလုံး (စတင်ဒယ်၊ ဘားလ်ဇက်နဲ့ ဂျော့ဆင်း စသူတို့) ဟာ စိတ်ကူးယဉ်ဝါဒီတွေ၊ ရိုမန်းတစ်ဝါဒီတွေ ဖြစ်ခဲ့

ကြပါတယ်။ စတင်ဒယ်ဟာ လောကကြီးကို လှောင်ပြောင်သရော်ချင်တဲ့ သဘောရှိသည့်တိုင် သူ့အရေးအသားဟာ ဂန္ထဝင်ဆန်နေပြီး သူ့ရဲ့ဇာတ်ဆောင်များဟာလည်း စိတ်ကူးယဉ် ဆန်နေကြပါတယ်။ ကြီးမြတ်တဲ့ အနုပညာသည်တိုင်းဟာ လုံးဝလည်း ဂန္ထဝင် မဆန်နိုင်ပါဘူး။ လုံးဝလည်း စိတ်ကူးယဉ် မဆန်နိုင်ကြပါဘူး။ ဂန္ထဝင်ဟာ အမှန်တရားကို ထွက်ပြေးတယ်။ ကြီးမြတ်တဲ့ အနုပညာရှင်က ဟူးဂိုးနဲ့ ဗစ်ညီတို့ရဲ့ ရာဇဝင်ဝတ္ထုများမှာလို အတိတ်ကို ပြေးဝင်ခိုလှုံတတ်ပါတယ်။ တစ်ဖက်မှာလည်း ဂျော့ဆင်းရဲ့ ဝတ္ထုများမှာလို မိန်းမတွေ စွဲလမ်းနှစ်သက်ကြသော်လည်း တကယ့် ကမ္ဘာလောကမှာ မရှိနိုင်ဘဲ စိတ်ကူးထဲမှာသာ ရှိနိုင်တဲ့ ဇာတ်ဆောင်တွေကို ရေးခြယ်ပြီး အိပ်မက်ထဲကို ပြေးဝင်ခိုလှုံတတ်ကြပါတယ်။ ဘားလ်ဇက်ဟာ နယ်စားကြီး ဟူးလော့တို့လို၊ မဒမ်မားနက်တို့လို ဇာတ်ဆောင်မျိုးတွေကို ဖန်တီးတဲ့နေရာမှာ သရုပ်မှန်ဝါဒီတစ်ဦးဖြစ်ပြီး မဒမ်ဒီမောဆော့လို ဇာတ်ဆောင်မျိုးတွေကို ဖန်တီးရာမှာ စိတ်ကူးယဉ် ဝါဒီတစ်ဦးဖြစ်ပါတယ်။

၁၈၄၈ ခုနှစ် တစ်ဝိုက်လောက်တုန်းက ပြင်သစ်ပြည်မှာ လူကြိုက်များတဲ့ စိတ်ကူးယဉ်ဝါဒတစ်မျိုး ပေါ်ထွန်းခဲ့ပါတယ်။ ဂျော့ဆင်းဟာ ကြမ်းတမ်းတဲ့ ကျေးတောသားတွေရဲ့ အချစ်ဇာတ်လမ်းတွေကို ရေးပြီး ပျင်းရိငြီးငွေ့နေကြတဲ့ အထက်တန်းစား အမျိုးသမီးတွေကို ဖြေဖျော်ခဲ့ပါတယ်။ အဲဒီနောက် လူဝီဟာ နပိုလီယန်ခေတ်ကို ရောက်လာတာနဲ့ စိတ်ကူးယဉ်ဝါဒ ပုံသဏ္ဍာန် အမျိုးမျိုးကို အရသာ မတွေ့ကြတော့ဘဲ ဖြစ်လာကြပါတယ်။ နပိုလီယန်ရဲ့ နန်းတွင်းလုပ်ကြံမှုဟာ ဝတ္ထုဇာတ်ဆောင်တွေအပေါ်မှာ လက်တွေ့ကျတဲ့ မက်ခီဗီလီယန် အတွေးအခေါ်က အောင်နိုင်လိုက်တဲ့ အောင်ပွဲပါပဲ။ စိတ်ပျက်နေတဲ့ လူထုဟာ အချစ်အကြောင်းကို စိတ်ကူးယဉ်အရောင်အသွေးတွေ ခြယ်ထားတဲ့ အချစ်ဝတ္ထုတွေအစား သရုပ်မှန်တဲ့ အချစ်ဝတ္ထုတွေကို တောင့်တလာခဲ့ကြပါတယ်။ စပိန်ပြည်မှာ ဆာဗင်းတီးစ်ရဲ့ 'ဒွန်ကွီဇော့' ဝတ္ထုထွက်လာတဲ့အခါမှာ စိတ်ကူးယဉ် ဆန့်ကျင်ရေးစိတ်ဓာတ်ကြောင့် ချီးကျူးကြသလို ပြင်သစ်ပြည်မှာလည်း စိတ်ကူးယဉ်သူတို့ တစ်ခါက စွဲလမ်းနှစ်သက်ခဲ့ကြတဲ့ စိတ်ကူးယဉ် အချစ်ဝတ္ထုတွေကို မီးပုံထဲပစ်ချခဲ့ကြပါတယ်။

လောကကြီးကို လှောင်ပြောင်သရော်ချင်သူ (သို့မဟုတ် လှောင်ပြောင်သရော်တယ်လို့ ထင်ရသူ) ဟာ သူလိုချင်တဲ့ အခွင့်အရေးကို ရသွားပြီပေါ့။ ပျက်စီးယိုယွင်းမှုအပေါင်းကို ဆောင်ယူလာတဲ့ နိုင်ငံရေးစနစ်ကြီးနဲ့ စိတ်ကူးယဉ်စနစ်ကြီးကို လှောင်ပြောင်သရော်ခွင့် ရသွားပြီပေါ့။ အဲဒီအခါမှာ သူဟာ သူ့အလိုလို ပျက်စီးယိုယွင်းနေတဲ့ ကမ္ဘာလောကကြီးကို ဖျက်ဆီးပစ်တဲ့ စာရေး

ဆရာတစ်ဦးအဖြစ် စာပေသမိုင်းမှာ မော်ကွန်းထိုးခံရတော့တာပါပဲ။ ဒီလိုဖြစ်ရတာဟာ သူ့ရဲ့စမ်းသပ်မှု၊ သူ့ရဲ့စာပေနည်းနာက သူ တိုက်ခိုက်နေတဲ့ စိတ်ကူးယဉ်ဝါဒထက်ကောင်းမွန်လို့၊ သာလွန်လို့ မဟုတ်ပါဘူး။ ထန်းသီးကြွေခိုက် ကျီးနင်းခိုက်ဆိုသလို ဖြစ်သွားရတဲ့သဘောပါ။ ဒီလိုနဲ့ စာပေမှာ စိတ်ကူးယဉ်ဝါဒနဲ့ သရုပ်ဖော်ဝါဒတို့ဟာ ဘတစ်ပြန် ကျားတစ်ပြန် တစ်လှည့်စီ ခေတ်စားလာခဲ့ကြတာပါပဲ။

ဒါပေမယ့် ၁၈၅၀ ပြည့် လွန်နှစ်များအတွင်းမှာ ပြန်လည်ခေတ်စားလာတဲ့ စိတ်ကူးယဉ်ဝါဒကတော့ နည်းနည်းထူးခြားပါတယ်။ ဖလောဘေးရဲ့ 'မဒမ်ဗိုဗာရီ' ဝတ္ထုပေါ်ထွက်လာပြီးတဲ့ နောက်မှာတော့ စိတ်ကူးယဉ်ဝါဒ ဖြစ်သည့်တိုင် အမျိုးသမီးတွေအတွက် အချို့သော စိတ်ကူးယဉ်အိပ်မက် ပုံသဏ္ဌာန်များဟာ ပြန်ပေါ်မလာတော့ဘဲ စုန်းစုန်းမြုပ် ပျောက်ကွယ်သွားခဲ့ကြပါတယ်။ ဖလောဘေးဟာ သူ့ခေတ်က အထက်တန်းလွှာတွေရဲ့ အမြင်ကိုသာမက အဲဒီခေတ်က လူထုတွေရဲ့ အမြင်ကိုပါ ပြောင်းလဲပစ်လိုက်ပါတယ်။ သူ့ဝတ္ထု ပထမတန်း အရေးကြီးတဲ့အဆင့်ကို ရောက်လာရတာဟာ အဲဒီအကြောင်းကြောင့်ပဲ ဖြစ်ပါတယ်။

* * *

# စိတ်ကူးယဉ်ဝါဒနဲ့ သရုပ်မှန်ဝါဒ
# (မဒမ်ဘိုဗာရီ)

ဖလောဘေးရဲ့ မဒမ်ဘိုဗာရီဝတ္ထုကြီးဟာ အန္တိစိတ်ကူးယဉ် (စိတ်ကူးယဉ် ဆန့်ကျင်မှု) ဝတ္ထုကြီးဖြစ်ပါတယ်။ ဖလောဘေးဟာ ဒီလို အန္တိစိတ်ကူးယဉ်ဝတ္ထုကြီးမျိုးကို ဘာကြောင့် ရေးနိုင်ခဲ့ပါသလဲ။ အကြောင်းကတော့ သူဟာ တစ်ပြိုင်နက်တည်းမှာ စိတ်ကူးယဉ်တတ်ပြီး တစ်ပြိုင်နက်တည်းမှာ စိတ်ကူးမယဉ်တတ်လို့ပါပဲ။ ပိုပြီး တိတိကျကျ ပြောရဦးမယ်ဆို ရင် သူဟာ အလွန်စိတ်ကူးယဉ်တတ်ပြီး တစ်ချိန်တည်းမှာပဲ စိတ်ကူးယဉ်ဝါဒရဲ့ အနှစ်သာရကင်းမဲ့ပုံကို သဘောပေါက် နားလည်လို့ပါပဲ။ ဖလောဘေးရဲ့ ခန္ဓာကိုယ်ထဲမှာ ဗိုက်ကင်း ပင်လယ်ဓါးပြတို့ရဲ့ ကြမ်းတမ်းမှုမျိုးရှိပြီး ရှိအင်က ဘူဇွာလူတန်းစားရဲ့ နူးညံ့မှုမျိုး ရှိလို့ပါပဲ။ ဗစ်တာဟူးဂိုးရဲ့ သာဝကစိတ်ဓာတ်မျိုးရှိပြီး တစ်ဘက်မှာ မောပတ်ဆွန်းရဲ့ ဘိုးဘေးစိတ်ဓာတ် မျိုးရှိလို့ပါပဲ။

၁၈၅၂ ခု ဇန်နဝါရီလထဲက ရေးခဲ့တဲ့ သူ့ရဲ့ ပေးစာတစ်စောင်ထဲမှာ သူက ...

'အမှန်ပြောရရင်တော့ ကျွန်တော်ဟာ လူနှစ်ယောက်ကို ပေါင်းစပ်ထားတာနဲ့ တူတယ်။ တစ်ယောက်က စကားလုံး ကြီးကြီးကျယ်ကျယ်တွေ၊ လင်းယုန်ငှက်လို အမြင့်ပျံချင်ဇောတွေ၊ ချိုသာတဲ့ အသံတွေ၊ မြင့်မြတ်တဲ့ အတွေးအခေါ်တွေနဲ့ ယစ်မူးနေသူဖြစ်တယ်။ နောက်တစ်ယောက်ကတော့ အမှန်တရားတွေကို တတ်နိုင်သမျှ တူးဆွရှာဖွေသူ၊ ကြီးကြီးမားမားတွေကို

ရှာသလို အသေးအဖွဲကလေးတွေကို ရှာဖွေဖော်ထုတ်ချင်သူ၊ ကိုယ်ထုတ်ဖော်တွေ့ရှိလာတာကလေးတွေကို တစ်ဖက်သားကို ထိတွေ့ပေးချင်သူ ဖြစ်ပါတယ်။ ရယ်မောတာတွေကို သဘောကျသူ၊ လူ့လောကကြီးရဲ့ အပဟိတ်တိရစ္ဆာန်စိတ်ရှိတာမျိုးကို နှစ်သက်သဘောကျသူဟာ နောက်လူဖြစ်ပါတယ်' လို့ ရေးခဲ့ပါတယ်။

စိတ်ကူးယဉ် ဖလောဘေးဟာ တစ်ခါတုန်းက ဂါထေးနဲ့ ဟူးဂိုးတို့ရဲ့ စာတွေကိုဖတ်ပြီး ယစ်မူးခဲ့ပါတယ်။ ဂါထေးရဲ့ ဖော့စ်ဆိုတဲ့ လက်ရာကြီးကို ဖတ်လိုက်တဲ့အခါမှာ သူ့ငယ်ရွယ်စဉ်ဘဝရဲ့ ဆန္ဒကြီးတစ်ခု ပေါ်ပေါက်မွေးဖွားလာခဲ့ပါတယ်။ အဲဒီ လက်ရာကြီးကို ရိုအင်မြို့မှာ နေစဉ် ကွင်းပြင်ကြီးထဲမှာ ထိုင်ပြီး သူဖတ်ခဲ့ပါတယ်။ အနီးပတ်ဝန်းကျင်က ဘုရားရှိခိုးကျောင်း ခေါင်းလောင်းသံတွေဟာ ဂါထေးရဲ့ လက်ရာကြီးနဲ့ ရောသွားပါတယ်။ ဩော် လေးလေးပင်ပင် ညှင်းညှင်းတွဲ့တွဲ့ရှိလိုက်တဲ့ ခေါင်းလောင်းသံတွေရယ်။ အီစတာပွဲတော်ကို ရောက်ပြီလို့ မင်းတို့ ကြွေးကြော်ကြေညာ နေကြတာလား။ အထက်ကောင်းကင်ဘုံက လာတဲ့တေးဂီတ။ ဘယ်လောက် ခွန်အားရှိသလဲ။ ဘယ်လောက် ချိုမြသလဲ။ ဘာဖြစ်လို့များ ငါ့ကို မြေမှုန့်တွေထဲမှာ လိုက်ရှာနေကြလေသလဲ' လို့ သူ အဲဒီတုန်းက ရေးခဲ့ပါတယ်။ ငယ်တုန်းရွယ်တုန်း စိတ်ကူးယဉ်တုန်းကိုး။ သူ့ခေါင်းဟာ ချာချာလည်နေတယ်။ သူဟာ ရူးသွပ်သွားသူတစ်ယောက်လို အိမ်ကို ပြန်လာခဲ့တယ်။ အဲဒါကတော့ ဖလောဘေး ဘယ်လောက်စိတ်ကူးယဉ်သလဲ၊ ဆွတ်ပျံ့လွယ်သလဲ ဆိုတာပါပဲ။

ဒါပေမယ့် လက်တွေ့ကျတဲ့ ဖလောဘေးကတော့ ငယ်ငယ်ကတည်းက လူတွေရဲ့ မိုက်မဲမှုတွေ၊ အသိအလိမ္မာမဲ့မှုတွေကို ဆန့်ကျင် ဗီဆန်ပါတယ်။ ငယ်ငယ်တုန်းက ဖလောဘေးဟာ သူငယ်ချင်းတွေနဲ့ ပေါင်းပြီး သံကြောင်ဟစ်သူ တစ်ဦးကို ဖန်တီးခဲ့ဖူးတယ်။ သူတို့ သူငယ်ချင်းတွေဟာ အဲဒီသံကြောင်ဟစ်သူရဲ့ ပါးစပ်နဲ့ သူတို့ပြောချင်တဲ့ အရွဲ့တိုက်တဲ့ စကားတွေကို အအော်ခိုင်းခဲ့ဖူးတယ်။ ဖလောဘေးဟာ မက်ဆိုးခစ် (မိမိတွင် နာကျင်ခြင်းဖြစ်လျှင် ပျော်ရွှင်သူ) ဖြစ်ပါတယ်။ သူ စက်ဆုပ်ရွံမုန်းတဲ့ မိုက်မဲမှုတွေထဲမှာ မြူးတူးပျော်ပါးသူဖြစ်ပါတယ်။ စိတ်ကူးယဉ်သူ ဖလောဘေးဟာ မဒမ်ရှုလေဆင်းဂျားကို ပလေတိုးနစ် အချစ်နဲ့ စိတ်ကူးယဉ်ချစ်ပြီး လက်တွေ့ကျတဲ့ ဖလောဘေးကတော့ လူဝီလူအီဇာကိုးလက်နဲ့ ကိုယ်လက်နှီးနှောသူ ဖြစ်ပါတယ်။ လက်တွေ့ကျတဲ့ ဖလောဘေးဟာ သူ့အပျော်မယားရဲ့ မသိ မိုက်မဲပုံတွေကို နည်းနည်းကလေးမျှ စာနာသနားခြင်းမရှိဘဲ သူ့ရဲ့မဒမ်ဘိုဗာရီ ဝတ္ထုထဲမှာတောင် ထည့်ရေးခဲ့ပါသေးတယ်။

ဖလောဘေးဟာ သူ့ဦးနှောက်က အဲဒီ အကန့်နှစ်ခုကို ပေါင်းစပ်ပေးဖို့ ကြိုးစားခဲ့ပါတယ်။ 'လေအယ်ဂျကေးရှင်း ဆင်တီမင်တယ်' ဆိုတဲ့ စာအုပ်မှာ– ဤဝတ္ထုမှာ ကျွန်ုပ်၏ မတူခြားနားသော စရိုက်နှစ်ခုကို ပေါင်းစည်းပေးရန် ကြိုးပမ်းမှုဖြစ်ပါသည်။ (အမှန်မှာ လူ့ဘဝ၏ သရုပ်မှန်ကို တစ်အုပ်ရေးပြီး စိတ်ကူးယဉ်ပုံကို တစ်အုပ်စီရေးလျှင် ပိုလွယ်ပါသည်။) သို့ရာတွင် ကျွန်ုပ်၏ ကြိုးပမ်းမှုသည် အောင်မြင်ခြင်း မရှိပါ . . .' လို့ ရေးခဲ့ပါတယ်။ နောက်တစ်အုပ်ကတော့ 'စိန့်အန်တိုနီ' ဖြစ်ပါတယ်။ အဲဒီ ဝတ္ထုမှာတော့ စိတ်ကူးယဉ်သက်သက်တွေ ချည်းပါပဲ။ စိတ်ကူးယဉ် ဖလောဘေးဟာ အဲဒီဝတ္ထုမှာ တော်တော်လက်သွက်ပါတယ်။ 'ဆယ့်ရှစ်လလုံးလုံး ကျွန်ုပ် ကြိုးပမ်းရေးခဲ့သည့် ထိုဝတ္ထုထဲက ရေးဟန်မျိုးကို နောက်ထပ်ရေးနိုင်မည် မထင်တော့။ ကျွန်ုပ်သည် ကျွန်ုပ်၏ ဘယက်မှ ပုလဲလုံးကလေးများကို တယုတယ ပုံဖော်ပေးခဲ့ပြီးလေပြီ။ ထိုဘယက်ကို သီရာတွင် ကျွန်ုပ် မေ့ကျန်ရစ်ခဲ့သောအရာတစ်ခုသာ ရှိ၏။ ယင်းမှာ ကြိုးဖြစ်လေသည်' လို့ သူ ရေးခဲ့ပါတယ်။

သူ နေထိုင်ရာအိမ်ဖြစ်တဲ့ ကရွိုင်းဆက်မှာ သူ့ရဲ့ စိန့်အန်တိုနီ ဝတ္ထုကို ဖတ်ပြတော့ သူ့မိတ်ဆွေနှစ်ဦးဖြစ်တဲ့ မက္ကဇင်း ဂျူကမ်းနဲ့ လူဝီတို့ကလည်း သည်အတိုင်းပဲ ဝေဖန်ကြပါတယ်။ မိတ်ဆွေနှစ်ယောက်က သူ့ကို စိတ်ကူးယဉ် ဝတ္ထုတွေ မရေးဖို့၊ မြေကြီးဆန်တဲ့ ဝတ္ထုတွေကို ရေးဖို့ တိုက်တွန်းကြပါတယ်။ မြေကြီးဆန်တဲ့ အဖြစ်အပျက်တွေဟာ လူလတ်တန်းစားတွေရဲ့ ဘဝမှာ မကြာခဏ တွေ့ရတတ်ကြောင်း၊ အဲဒီဝတ္ထုမျိုးတွေကို အရှိကိုအရှိအတိုင်း ရေးပြဖို့ အကြောင်း ပြောကြပါတယ်။

အဲဒီအကြံဟာ ဖလောဘေးရဲ့ စိတ်ကူးနဲ့လည်း ကိုက်လေတော့ လက်ခံလိုက်ပါတယ်။ စိတ်ကူးယဉ် – သရုပ်မှန်ပေါင်းစပ်မှုမှာ အားနည်းချက်တွေ ရှိတယ်ဆိုတာကို သူ သဘောပေါက်လာပါတယ်။ အရောအနှောမရှိ ပကတိဖြစ်တဲ့ စိတ်ကူးယဉ်ဝါဒကို သူ စမ်းရေးကြည့်ပြီးပြီ။ အရောအနှော မရှိ ပကတိဖြစ်တဲ့ သရုပ်မှန်ဝါဒကို စမ်းကြည့်ဖို့ ကျန်နေသေးတယ်။ အမှန် ကျွန်တော်လုပ်ချင်နေသောအရာမှာ ဘာအကြောင်းကိုမျှ ဖော်ပြခြင်းမရှိသော စာအုပ်တစ်အုပ်၊ အနှောင်အဖွဲ့တို့မပါသည့် စာအုပ်တစ်အုပ်၊ ကမ္ဘာမြေကြီးသည် ဟင်းလင်းပြင်ထဲတွင် မည်သည့်အထောက်အကူမျှ မရှိဘဲ ရပ်တည်နေသလို မိမိ၏ အတွင်းခိုင်မာမှုဖြင့် တည်ရှိနေသော စာအုပ်တစ်အုပ်၊ ဖြစ်နိုင်လျှင် အကြောင်းအရာမရှိသော စာအုပ်တစ်အုပ်၊ စာပေအနုပညာ၏ အကောင်းဆုံးသော အရာတွေများပြီး အကြောင်းအရာနည်းပါးသည့် စာအုပ်တစ်အုပ်ကို ကျွန်တော် ရေးချင်နေပါသည်' လို့ သူ ရေးခဲ့ဖူးတယ်။

အဲဒီ စာအုပ်မျိုးကတော့ 'မဒမ်ဘိုဗာရီ' ပါပဲ။ တော်စတွိုင်းက သူ့ရဲ့ 'အင်နာကရီးနီးနား' ဝတ္ထုအကြောင်းကို အထင်သေးအမြင်သေးနဲ့ ပြောရာမှာ 'စစ်ဗိုလ်တစ်ယောက်နဲ့ကြိုက်တဲ့ လင်ရှိမိန်းမတစ်ယောက်ရဲ့ ဇာတ်လမ်းပါဗျာ' လို့ ပြောခဲ့ဖူးပါတယ်။ ဖလောဘေး ရေးချင်တဲ့ဝတ္ထုမျိုးကလည်း အဲဒီလို 'ဘာမှ မဟုတ်တဲ့ ဇာတ်လမ်းမျိုး' ဖြစ်ပါတယ်။ စိတ်ကူးယဉ်တဲ့ မိန်းမတစ်ယောက်၊ ခပ်ဖျင်းဖျင်း ခပ်ထုံထုံ ယောကျ်ားတစ်ယောက်နဲ့ရတယ်။ သူ့ကို လှည့်စား တယ်။ ဖျက်ဆီးပစ်တယ်။ နောက်တော့ သူ့ကိုယ်သူ အဆုံးစီရင် သွားတယ်။ ဒါပဲ။ ဒီအထဲမှာ တစ်ခြား ဘာမှမပါဘူး။ ဒါပေမယ့် ဒီလို ဝတ္ထုမျိုးကိုရေးဖို့ မိတ်ဆွေတွေက တိုက်တွန်းတာ။ အကြောင်းအရာ ဆင်းရဲ ခေါင်းပါးတာကို စိတ်မပျက်တဲ့အပြင် 'ဟာ သိပ်ကောင်းတာပဲဗျာ' ဆိုပြီး ထအော်ပါတယ်။ ဒီ လောက် ဇာတ်အိမ်ကြဲပြီး ဒီလောက် ရိုးတဲ့ဇာတ်လမ်းတစ်ခုကို သုံးပြီး သူ့ရင် ထဲမှာရှိတဲ့ ရမ္မက်တွေ၊ ခံစားချက်တွေကို ဖော်ပြရရင် ကောင်းမှာပဲလို့ သူ စိတ်ကူးရသွားလို့ပါ။

'မဒမ်ဘိုဗာရီက ကျွန်တော်' တဲ့။ ဒီနာမည်ကျော် စာပိုဒ်ရဲ့ အဓိပ္ပါယ် က ဘာလဲ။ အဲဒီ အဓိပ္ပါယ်အတိုင်းပါပဲ။ ဖလောဘေးဟာ သူ့ရဲ့ အားနည်း ချက်၊ ချို့ယွင်းချက်တွေကို ဒဏ်ပေးရာမှာ သူ့ဇာတ်လိုက် မဒမ်ဘိုဗာရီရဲ့ အရည် အချင်းတွေအဖြစ် ပြောင်းပြီး ဖန်တီးထားပါတယ်။ မဒမ်ဘိုဗာရီ ကျဆုံးရတဲ့ အကြောင်း။ ဒုက္ခရောက်ရတဲ့အကြောင်းရင်းဟာ ဘာလဲ။ ဘဝဆီက သူရနိုင် တာကို မမျှော်လင့်ဘဲ သူ မရနိုင်တာကို မျှော်လင့်မိလို့ ဝတ္ထုရေး ဆရာ၊ ကဗျာဆရာတွေ၊ အနုပညာသည်တွေ၊ ခရီးသည်တွေက ပြောတာတွေကို ယုံမိ လို့ဖြစ်ပါတယ်။ ပုံနှိပ်ထားတဲ့ စာမျက်နှာတွေပေါ်က ချစ်စရာကောင်းနေတဲ့ စကားလုံးတွေ၊ ယစ်မူးမူးတွေ၊ အချစ်တွေ၊ ရမ္မက်တွေ၊ ပျော်စရာတွေကို အဟုတ် ထင်သွားမိလိုပါပဲတဲ့။ မဒမ်ဘိုဗာရီဟာ 'အပျိုစင်' ဆိုတဲ့ ဝတ္ထုကို ဖတ်ပြီး တဲအိုပျက်ထဲကအချစ်ကို အဟုတ်ထင်သွားပါတယ်။ ဆာဝေါ်လ်တာစကော့ရဲ့ ဝတ္ထုတွေကို ဖတ်ပြီး ရဲတိုက်ကြီးတွေကို မြင်ယောင်နေပါတယ်။ တကယ် အစစ် အမှန် ရှိနေတဲ့ သူ့ရှေ့က နော်မန်ဒီကျေးလက်ကို မမြင်တော့ပါဘူး။ သူ မျှော် လင့်တောင့်တနေတဲ့ ကမ္ဘာဟာ ဒွန်နီးယားရှူးဆူးရဲ့ ပန်းချီကားထဲက ရုပ်ပုံတွေ ထဲမှာ တွေ့ရတဲ့ ကမ္ဘာမျိုးဖြစ်ပါတယ်။

'စူလ်တန်ဘုရင်များသည် အရိပ်ဝေသော သစ်ပင်များအောက်၌ လုပ ချောမောသော ကချေသည်မိန်းမချောကလေးများ၏ ရင်ခွင်ကိုမှီကာ ဆေးတံ ရှည်ကြီးများကို ရှူနေကြသည်။ တူရကီတို့၏ သံလျက်များ၊ ဂရိတို့၏ ဦး ပေါင်းထုပ်များ၊ ထင်းရှူးပင်များ၊ အုန်းတောများ၊ ခြင်္သေ့များ၊ ကျားများ၊ အဝေး

တွင်မြင်ရသည့် မွန်ဂိုတို့၏ ပလီ စုလစ်မွန်ချွန်းများ၊ ရောမမြို့မှ အပျက် အစီးများ၊ ဆောင့်ကြောင့်ထိုင်နေသော ကုလားအုပ်များ၊ ပျို့ရွယ် စိမ်းလန်းသည့် တောအုပ်၊ ရေပြင်ပေါ်ကို ထိုးကျလာသော နေခြည်၊ ရေကန်တွင် ကူးခတ်နေသော ငန်းဖြူဖြူတွေ . . .။

အချိန်ကာလအားဖြင့်ရော၊ နေရာဒေသအားဖြင့်ရော ထွက်ပြေးတာမျိုး၊ မမြင်ဖူးတဲ့ တစ်ရပ်တစ်ကျေးက အဆန်းတကျယ်ကို တောင့်တတတ်တာမျိုးဟာ စိတ်ကူးယဉ်ဝါဒရဲ့ အနှစ်သာရဖြစ်ပါသည်။ ဒီရောဂါမျိုးဟာ တစ်ခါတုန်းက ဖလောဘေးမှာ စွဲကပ်ခဲ့ပြီး မကြာခင်ကမှ ပျောက်ကင်းသွားတဲ့ ရောဂါမျိုး ဖြစ်ပါတယ်။ ဖလောဘေးဟာ ကချေသည်တွေကို သဘောကျတတ်ပါတယ်။ သူ့ရဲ့ဆန္ဒ၊ သူ့ရဲ့ အရှေ့တိုင်းကို အထင်ကြီးမှုတွေဟာ ဘယ်လောက်မှားနေကြောင်း၊ အရှေ့တိုင်းနဲ့ ပတ်သက်တဲ့ စိတ်ကူးယဉ်မှုတွေဟာ ဘယ်လောက်သွက်သွက်လည်အောင် မှားနေကြောင်းကို သိချင်ရင် အီဂျစ်ကို သွားကြည့်ဖို့ကောင်းပါတယ်။ ပြည့်တန်ဆာတွေရဲ့ ဆင်းရဲနွမ်းပါးမှုတွေ၊ မြေကြီးမံထားတဲ့ ကြမ်းခင်ထားတဲ့ သူတို့တဲတွေရဲ့ ညစ်ပတ်ပုံတွေ၊ ဟယ်နမ်က ညချမ်းမှာ ဘယ်လောက်စိတ်ညစ်ညူးစရာ ကောင်းပုံတွေကို ပြလိုက်ဖို့လိုပါတယ်။ ဖလောဘေးအဖို့ စိတ်ကူးယဉ်ဝါဒဟာ အရှုံးများစွာကို ယူဆောင်လာခဲ့ပါတယ်။

တစ်ခုက အချစ်နယ်က အရှုံး (သူ့အပျော်မယား လူအီဇာရဲ့ မိုက်မဲမသိသားဆိုးရွားပုံ)၊ ခရီးသွားခြင်းရဲ့ အကျိုးမဲ့ပုံ (အရှေ့တိုင်းရဲ့ ဆင်းရဲနွမ်းပါးမှု) နဲ့ အနုပညာကို စိတ်ပျက်သွားမှု (သူ့ဝတ္ထု ဖြစ်တဲ့ 'စိန့်အန်တိုနီ' ကို စိတ်ပျက်သွားပုံ) စသည်တို့ဖြစ်ပါတယ်။ သူ့ဝတ္ထုထဲမှာ အင်မာကို ကြောက်စဖွယ် အစစ်အမှန်တွေထဲကို အတုခိုး ကြည့်လိုက်ခြင်းဖြင့် ဖလောဘေးဟာ သူ့ရဲ့ ရမ္မက်တွေ၊ ခံစားချက်တွေကို သန့်စင်ဆေး ကြောနေတာပဲ ဖြစ်ပါတယ်။

မိမိကိုယ်ကို အရှိကိုအရှိအတိုင်း မမြင်နိုင်ဘဲ စိတ်ကူးနဲ့ တစ်မျိုးမြင်နေတတ်တဲ့ အမြင်မျိုးကို ဝေဖန်ရေးဆရာ ဂေါ့တလဲယားက 'ဘိုဗာရီ ဝါဒ' လို့ စကားလုံးတစ်လုံး တွင်ခဲ့ဖူးပါတယ်။ လူတိုင်းလူတိုင်းလောက်မှာ ဘိုဗာရီဝါဒ အနည်းနဲ့အများဆိုသလို ရှိတတ်ကြပါတယ်။ 'မဒမ်ဘိုဗာရီ' ဝတ္ထုကြီးထဲက အင်မာဟာ ရေမရောတဲ့ ဘိုဗာရီဝါဒ စစ်စစ်ကြီးကို ကိုယ်စားပြုနေပါတယ်။ အင်မာဟာ သူ့သမီးငယ်လေးကို ပြုစုစောင့်ရှောက်မယ်။ အိမ်ရှင်မကောင်းတစ်ယောက်အဖြစ် နေနိုင်တယ်။ သူပုံသွင်းတာကို အချိန်မရွေးခံယူဖို့ အဆင်သင့်ရှိတဲ့ သူ့ယောကျာ်းကို စိတ်ကြိုက် ပုံသွင်းယူနိုင်တယ်။ ဒီနည်းအားဖြင့် ငြိမ်းငွေ့ဖွယ်ကောင်းသော်လည်း ပျော်ရွှင်ချမ်းမြေ့မှု ကိုတော့ ရနိုင်တယ်။ ပြီးတော့

သူက ကဗျာတို့ဘာတို့ ဝါသနာပါသူဖြစ်လေတော့ သူနေထိုင်နေတဲ့ ကျေးတောမှာ ကဗျာဆန်တဲ့ ရှုခင်းတွေ၊ အလှတွေကို တွေ့နိုင်မြင်နိုင် ခံစားနိုင်တယ်။ ဒါပေမယ့် အင်မာဟာ သူ့ဘေးပတ်ဝန်းကျင် ကမ္ဘာလောကကြီးကို မြင်ဖို့ကြည့်ဖို့ ငြင်းဆန်တယ်။ သူ့ဘဝပေး အခြေအနေတွေထဲမှာ မနေဘဲ ဒါနဲ့မတူ လုံးဝခြားနားတဲ့ ဘဝတစ်ခုကို စိတ်ကူးအိပ်မက် မက်ကြည့်တယ်။ ဒါဟာ အင်မာရဲ့ စရိုက်ဆိုးပဲ။ ဖလောဘေးရဲ့ စရိုက်ဟာလည်း ဒီအတိုင်းပဲ။ ဟန်ဆောင်နေတဲ့ စာဖတ်သူရဲ့ စရိုက်ဟာလည်းပဲ ဒီအတိုင်းပါပဲ။

စိတ်ကူးယဉ်ဝါဒဆိုတာဟာ မရနိုင်တာ၊ မဖြစ်နိုင်တာကို မျှော်မှန်းရှာဖွေတဲ့ ဝါဒဖြစ်လေတော့ အဆုံးမှာ ပျက်စီးခြင်းနဲ့ ကြုံတွေ့ရမယ်ဆိုတာကို ဖလောဘေး မြင်ခဲ့ပါတယ်။ 'မဒမ်ဘိုဗာရီ ဝတ္ထု၏ အကြောင်းအရာသည် တကယ့်ဘဝနှင့် အိပ်မက်ကမ္ဘာတို့၏ကြားမှ အစဉ်ကျယ်ပြန့်လာနေသော ကွာဟမှုဖြစ်သည်' လို့ ဝေဖန်ရေးဆရာတွေက ဆိုကြပါတယ်။ အင်မာဟာ လင်ဆီးလော့လို၊ ထရစ္စတန်လို သူရဲကောင်းမျိုးကို ချစ်သူအဖြစ် စိတ်ကူးယဉ်နေပါတယ်။ ဒါပေမယ့် သူတကယ် တွေ့လိုက်တာက ရူးဒေါ့လို လူညံ့မျိုးဖြစ်ပါတယ်။ သူ့ထက်တောင်ဆိုးတဲ့ လီယွန်လို လူဖျင်းမျိုးဖြစ်ပါတယ်။ အင်မာဟာ နောက်ဆုံးမှာ လျူရိုးလို အညံ့စားအောက်တန်းစား ဈေးသည်မျိုးနဲ့ တွေ့သွားပါတယ်။ လျူရိုးကတော့ အောက်တန်းအကျဆုံးပါပဲ။ ဖလောဘေးဟာ စိတ်ကူးအိပ်မက်တွေကို အကောင်အထည်ဖော်ဖို့ ကြိုးစားတဲ့ မဒမ်ဘိုဗာရီ (အင်မာ) ကို ပြစ်ဒဏ်ပေးလိုက်ပါတယ်။ ဆာဝါဝေါလ်တာစကော့ရဲ့ ဝတ္ထုထဲက သူရဲကောင်း ဇာတ်လိုက်မျိုးတွေလောက်ကို ချစ်ရုံ၊ သူတို့လို ချစ်သူမျိုးကို တောင့်တရုံလောက်ကတော့ အကြောင်းမဟုတ်သေးပါဘူး။ ဒီအထိ မဒမ်ဘိုဗာရီဟာ ကဗျာဆရာ ဖြစ်နေပါသေးတယ်။ ဒါပေမယ့် အဲဒီ အိပ်မက်ကို အကောင်အထည်ဖော်ဖို့ ကြိုးစားလာတာနဲ့ တစ်ပြိုင်နက် စိတ်ကူးယဉ် ခရီးတစ်ခုကို သွားဖို့ အဝတ်အစားတွေကို ဝယ်လိုက်တာနဲ့ တစ်ပြိုင်နက် သူဟာ ကျဆုံးသွားပြီး လျူရိုးရဲ့ သားကောင်ဖြစ်သွားတော့တာပါပဲ။ ခရစ်တော်ရဲ့ မြင့်မြတ်တဲ့ ခြုံလွှာကို ကိုးကွယ်မြတ်နိုးတာဟာအကြောင်း မဟုတ်ပေမယ့် သွားပြီး ထိလိုက် ကိုင်မိလိုက်တာနဲ့ တစ်ပြိုင်နက် ကျိန်စာသင့်ပြီး အသက်ဆုံးရှုံးရသလိုပါပဲ။

ဒါပေမယ့် လူဆိုတာ စိတ်ကူးယဉ်အိပ်မက်နဲ့ မကင်းနိုင်ဘူး မဟုတ်လား။ 'ဒီတော့ စိတ်ကူးမယဉ်ရတော့ဘူးလား' လို့ မေးစရာရှိပါတယ်။ အဖြေက ဘာလဲ။ ဖလောဘေးအဖို့တော့ အဖြေတစ်ခုတည်းပဲ ရှိပါတယ်။ ဘဝကို နေဖို့ ကြိုးစားအားထုတ်ခြင်းမပြုဘဲ ဘဝအကြောင်းကို ဖော်ပြရုံနဲ့ တင်းတိမ်

ကျေနပ်နေဖို့ပါပဲ။ လောကကြီးဟာ မာယာဘုံကြီး။ လွတ်မြောက်မှုကို ရချင်ရင် မာယာဘုံကြီးက ရုန်းထွက်ရမယ်လို့ ဖလောဘေး မြင်ပါတယ်။ ရှေးခေတ်ဂမ္ဘီရ အကျင့်ကို ကျင့်တဲ့ ပုဂ္ဂိုလ်ကြီးတွေလိုပေါ့။ ပရစ်ရဲ့ ဝတ္ထုတစ်ပုဒ်ထဲမှာ ဇာတ်လိုက်ဟာ ပျောက်ဆုံးသွားတဲ့အချိန်ကို လိုက်ရှာတယ်။ ဒါပေမယ့် အဲဒီအချိန်ကို မတွေ့ဘူး။ အချိန်ကာလရဲ့အပြင်ဖက်မှာ နေထိုင်ရမယ်လို့ သဘောပေါက်သွားတဲ့ အချိန်ကို ပြန်တွေ့တယ်။ ဖလောဘေးဟာလည်း အဲဒီဇာတ်လိုက်လို ဖြစ်နေပါတယ်။ လူတစ်ယောက်ဟာ ကိုယ်ပိုင်ဆိုင်နေတဲ့ လက်ရှိဘဝကို စိတ်ကူးယဉ်အိပ်မက် မက်ကြည့်လို့မရဘူး။ မရှိတဲ့အရာကိုသာလျှင် စိတ်ကူးယဉ်အိပ်မက် မက်လို့ရနိုင်တယ်။ တကယ့် ကောင်းကင်ဘုံဟာ ကိုယ်ရောက်နေတဲ့နေရာ မဟုတ်ဘူး။ မရှိတဲ့နေရာ၊ ပျောက်ဆုံးသွားတဲ့ ကောင်းကင်ဘုံသာလျှင် ဖြစ်တယ်။ 'ခင်ဗျားဟာ ချစ်သူတစ်ယောက်ဖြစ်နေရင် အချစ်အကြောင်းကို စိတ်ကူးယဉ်လို့မရဘူး။ အရက်သမားတစ်ယောက်ဖြစ်နေရင် အရက်ကို စိတ်ကူးယဉ်လို့မရဘူး။ အချစ်အကြောင်း၊ အရက်အကြောင်းကို စိတ်ကူးယဉ်ကြည့်ချင်ရင် ချစ်သူတို့၊ အရက်သမားတို့ မဟုတ်မှ စိတ်ကူးယဉ်လို့ ဖြစ်လိမ့်မယ်' လို့ ဖလောဘေးက ပြောခဲ့ပါတယ်။

ဒါဟာ ဖလောဘေးနဲ့ အနုပညာသည်အားလုံးအတွက် ရောဂါကို ကုသပေးတဲ့ဆေးဖြစ်ပါတယ်။ ဒါပေမယ့် ဘဝကြီးကို တကယ်ရင်ဆိုင်နေထိုင်ရမယ့် သာမန်လူတစ်ယောက်အတွက်တော့ ဘဝကို ဖန်တီးမကြည့်နိုင်တဲ့ သာမန်လူတစ်ယောက်အတွက်တော့ ဆေးမဟုတ်ပါဘူး။ သူ့အဖို့တော့ ဘဝကို အရှိကို အရှိအတိုင်း လက်ခံရင် စိတ်မချမ်းသာမှု နည်းသည် ထက်နည်းမယ်။ အံမဝင်ခွင်မကျဖြစ်မှု နည်းသည်ထက်နည်းမှာ အမှန်ပါပဲ။

ဒါဟာ 'မဒမ်ဘိုဗာရီ' ဝတ္ထုကြီးက ပေးလိုက်တဲ့ သင်ခန်းစာပါပဲ။

စိတ်ကူးယဉ် ဖလောဘေးဟာ ဒီအဖြေကို ပေးဖို့ အမြဲကြိုးစားပါတယ်။ ဒါပေမယ့် လူဆိုတာ ကိုယ့်အိပ်မက်ကို အကောင်အထည်ဖော်ဖို့ အမြဲတမ်း ကြိုးစားတတ်တယ်မဟုတ်လား။ လူဆိုတာ ကိုယ့်အိပ်မက်နဲ့အညီ ဘဝကို ပုံဖော်ဖို့ ကြိုးစားတတ်တယ် မဟုတ်လား။ ဘယ့်နှယ်လုပ်မလဲလို့ မေးကောင်းမေးလိမ့်မယ်။ သူကတော့ 'မဒမ်ဘိုဗာရီဟာ ကျွန်တော်ပဲ' လို့ တစ်ခွန်းပဲ ဖြေခဲ့ပါတယ်။ ဟုတ်ပါတယ်။ မဒမ်ဘိုဗာရီဟာ ကျွန်တော်တို့ အားလုံးပါပဲ။ ဖလောဘေးဟာ သဘောထားတစ်ခုကို တင်ပြရုံပဲ တင်ပြခဲ့ပါတယ်။ ကောက်ချက်ဆွဲ နိဂုံးချုပ်မပေးခဲ့ပါဘူး။

ဝတ္ထုမှာ ကောက်ချက်တစ်ခုကို တင်ပြစရာမလိုဘူး ဆိုတဲ့ အယူအဆဟာ ဖလောဘေးရဲ့ ရသဗေဒဆိုင်ရာ အယူအဆနဲ့ ကိုက်ညီပါတယ်။

'ကင်းဒီ' ဝတ္ထုအဆုံးမှာပါတဲ့၊ ဘဝလိုမိုက်မဲပြီး တည်ငြိမ်တဲ့ ပါရမီရှင်တစ်ဦး (အကယ်၍ ပါရမီရှင်ဆိုတာ ရှိခဲ့ရင်ပေါ့လေ) ရဲ့သက်သေဖြစ်တဲ့ စကားလုံးများကို သူနှစ်သက်ပါတယ်။

'စာရေးဆရာတစ်ယောက်က သူ့စာဖတ် ပရိသတ်များအား ရယ်အောင်၊ ငိုအောင် လုပ်နိုင်ခြင်းသည် အခက်ခဲဆုံး အလုပ်တစ်ခု၊ အနုပညာအောင်မြင်မှုတစ်ခု မဟုတ်ချေ။ သဘာဝကြီးလုပ်သလို လုပ်နိုင်ခြင်း၊ တစ်နည်းအားဖြင့် စာဖတ်သူများကို စိတ်ကူးယဉ်အောင် လုပ်နိုင်ခြင်းသည်သာလျှင် အနုပညာ၏ အောင်မြင်မှုဖြစ်လေသည်။ ကြီးကျယ်သော အနုပညာ လက်ရာများအားလုံး၌ ထိုလက္ခဏာချက်ရှိပေသည်။ ယင်းတို့သည်တည်ငြိမ်သော လက္ခဏာချက်ကို ရှိပေသည်။ ယင်းတို့သည်တည်ငြိမ်သော လက္ခဏာချက်ကို ပေးနိုင်သော်လည်း မည်သို့မည်ပုံ ပေးသည်ဆိုသည့်အချက်ကိုမူ ပြောပြ၍ မရနိုင်ချေ။ ထိုအနုပညာ လက်ရာများသည် ကျောက်တောင်ကြီးများလို ခိုင်မာ၍ ပင်လယ်ပြင်လို လှိုင်းထန်သည်။ သစ်တောတစ်တောကဲ့သို့ စိမ်းစိုလန်းဆန်းကာ အသံဗလံတို့ဖြင့် ပြည့်လျက်ရှိသည်။ သဲကန္တာရ တစ်ခုကဲ့သို့ စိတ်ညစ်ညူးဖွယ် ကောင်းသည်။ ကောင်းကင်ကြီးကဲ့သို့ ပြာသည်။ ဟိုးမား၊ ရာတယ်လေ၊ မိုက်ကယ်အိန်ဂျယ်လို၊ ရှိတ်စပီးယားနှင့် ဂါထေးတို့၏ စာများသည် မယိမ်းမယိုင် ခိုင်မြဲသောစာများဖြစ်လေသည်။ အနုပညာ၌ ထိုအရည်အချင်းသည် အတိုင်းအဆမရှိ နက်ရှိုင်းသည်။ အဆုံးအစမရှိ ကျယ်ပြန့်သည်။ အကန့်အသတ်မရှိ များမြောင်သည်။ အပေါက်လေးများမှနေ၍ ကျွန်ုပ်တို့သည် ချောက်ကမ်းပါးကြီးများကို ရိပ်ခနဲ မြင်လိုက်ရသည်။ နက်ရှိုင်းမှုသည် အမှောင်ထဲတွင် ပျောက်သွားသည်။ ကျွန်တော်တို့တွင် မူးဝေခြင်း ဖြစ်ရသည်။ သို့ရာတွင် ထိုအရာများပေါ်တွင် ယစ်မူးစေသော အရာတစ်ခုရှိပေသည်။ ထိုအရာမှာ စံပြအလင်းရောင်၊ နေရောင်၏ အပြုံး၊ ငြိမ်သက်မှုတို့ ဖြစ်သည်။ တည်ငြိမ်၍ ခွန်အားရှိသောအရာ ဖြစ်သည်။

'မဒမ်ဘိုဗာရီ' ဟာ အဲဒီလိုဝတ္ထုဖြစ်ပါတယ်။ လွန်ခဲ့တဲ့ နှစ်ပေါင်းတစ်ရာလုံးလုံး 'မဒမ်ဘိုဗာရီ' ဝတ္ထုကြီးဟာ လူတွေကို စိတ်ကူးယဉ်အိပ်မက်တွေကို မက်စေခဲ့ပါတယ်။ ပြတင်းပေါက်မှ ထိုင်ပြီး အပ်ချုပ်နေတဲ့ပုံကို ရေးထားတဲ့ ဗားနီးယားရဲ့ ပန်းချီကားဟာ ဘာအဓိပ္ပါယ်လဲ။ ကိုးရော့ရဲ့ ရှုခင်းပန်းချီကား တစ်ချပ်ရဲ့ အဓိပ္ပါယ်ဟာ ဘာလဲ။ ဘာမှ မဟုတ်ဘူးလို့လည်း ပြောနိုင်တယ်။ အားလုံးဟုတ်တယ်လို့လည်း ပြောနိုင်တယ်။ သူတို့ဟာ ရှိနေကြ၊ ဖြစ်နေကြတယ်လို့ပဲ ပြောနိုင်တယ်။ 'သင် စာရေးသည့်အခါတွင် အနုပညာစစ်စစ် မဟုတ်သောအရာများမှ ကင်းဝေးအောင် ပို၍ပို၍ ကြိုးစားပါလေ။

သင်၏ မျက်စေ့ကို သင်ရေးခြယ်နေသည့် ပုံစံအပေါ်တွင်သာ စူးစိုက်ပါလေ။ အခြားအရာများသည် ဘာမျှ အရေးမကြီးပါ။ အနုပညာဆိုသည်မှာ ကိုယ်စားပြုမှုဖြစ်သည်။ ကျွန်တော်တို့သည် ကိုယ်စားပြုဖို့ အတွက်သာ ဂရုစိုက်သင့်ပေသည်' လို့ သူက ရေးခဲ့ပါတယ်။

ဖလောဘေးဟာ သူ့ဇာတ်လိုက် အမျိုးသမီးနှင့်အတူ ယွန်းဗီးလ်မြို့ကလေးကို စက်ဆုပ်ငြီးငွေ့တာမျိုးကို ခွဲဝေခံစားဖို့၊ ဒါမှမဟုတ် ယွန်းဗီးလ်ကို ကာကွယ်ပေးဖို့ ကျွန်တော်တို့ကို မတောင်းဆိုပါဘူး။ အလွန်ကြီးကျယ်တဲ့ အနုပညာရှင်ကြီးတစ်ယောက် (ဖလောဘေး) က နော်မန်ဒီ ကျေးလက်က ဈေးမြို့ကလေး တစ်မြို့ကို ရေးပြခဲ့ပြီး ဖြစ်တဲ့အတွက် အဲဒီ မြို့ကလေးကို ကျွန်တော်တို့ မြင်နိုင်ပါတယ်။ ကြည့်နိုင်ပါတယ်။ အဲဒီ မြို့ကလေးဟာ အတိုင်းအဆမရှိ နက်ရှိုင်းတယ်၊ အဆုံးအစမရှိ ကျယ်ပြောတယ်၊ အကန့်အသတ်မရှိ များပြောင်တယ်။ ထိုဟာကို ကျွန်တော်တို့ တွေ့နိုင်ပါတယ်။

လောကုတ္တရာ ဂမ္ဘီရပုဂ္ဂိုလ် တစ်ဦးလိုပဲ အနုပညာဂမ္ဘီရပုဂ္ဂိုလ်တစ်ဦးဖြစ်တဲ့ ဖလောဘေးဟာ အချိန်ကာလရဲ့ အပြင်ဖက်မှာရှိတဲ့ အာရုံတစ်ခုကို မြင်သွားခဲ့ပါတယ်။ နိဝါတတရားရှေ့ထားတဲ့ သူတော်စင်တစ်ဦးဟာ လောကီက လွတ်မြောက်သွားသလို အနိမ့်ကျဆုံး၊ အရိုးစင်းဆုံးသော အကြောင်းအရာများကို လက်ခံတဲ့စိတ်ကူးယဉ်ဝါဒီ ဖလောဘေးဟာလည်း ပြင်သစ်ဝတ္ထုတကာတို့အနက် အကျော်ကြားဆုံး၊ ထိုက်ထိုက်တန်တန် အကျော်ကြားဆုံးဖြစ်တဲ့ ဝတ္ထုကြီးကို ရေးနိုင်ခဲ့ပါတယ်။

*　　*　　*

# မဒမ်ဘိုဗာရီဟာ
# ညစ်ညမ်းဝတ္ထုလား

စိတ်ကူးစိတ်သန်းဆိုတဲ့ ကလေးငယ်ကို မွေးဖွားရာမှာ ဘယ်စာရေးဆရာမှ (ဖလောဘေးလောက်) ပင်ပန်းကြီးစွာ ဒုက္ခခံခဲ့ရတာမျိုး မရှိသေးပါဘူး။ ၁၈၅၁ ခုနှစ်က ၁၈၅၆ ခုနှစ်အတွင်း ရေးခဲ့တဲ့ ဖလောဘေးရဲ့ စာကို ကြည့်လိုက်ရင် သူဘယ်လောက် ပင်ပန်းကြီးစွာ မွေးဖားပေးခဲ့ရသလဲဆိုတာ သိနိုင်ပါတယ်။ ဇာတ်ကွက်ဇာတ်လမ်းစဉ်တွေ ပုံအကြမ်းလောင်းထားတာတွေ၊ ဖျက်ရာခြစ်ရာတွေနဲ့ ခြောက်ကြိမ် ခုနစ်ကြိမ်ထက်မနည်း ပြင်ရေးထားတာတွေကို ကျွန်တော်တို့ တွေ့နိုင်ပါတယ်။

'ဘိုဗာရီက ခပ်ဖြည်းဖြည်းပဲ သွားနေတယ်။ သိပ်မသွက်ဘူး။ တစ်ပတ်မှ နှစ်မျက်နှာလောက်ပဲ ပြီးတယ်။ တကယ် ရင်ကွဲလောက်တယ်။ ခုထိ ဝတ္ထုကို ဘယ်လိုဆုံးလို့ ဆုံးရမှန်းလည်း မသိသေးဘူး။ ဒါပေမယ့် ဘယ်လိုပဲဖြစ်ဖြစ် ပြီးအောင်ရေးမယ်လို့တော့ ခင်ဗျားကို ကတိပေးပါတယ်။ ရေးဟန်တစ်ခု ဖြစ်ဖို့အတွက် တော်တော် တန်ဖိုးကြီးကြီးပေးရတာပဲ။ မနေ့က ရေးခဲ့တာ အားမရလို့ ဒီနေ့လည်း နောက်တစ်ခါ ပြန်ရေးရသေးတယ်။ ဝတ္ထုထဲက အချက်သုံးလေးနေရာမှာ ကျွန်တော်ပြောထားတဲ့ ရလဒ်မျိုး ထွက်မလာဘူးလို့

ဘိုလေးက ပြောတယ်။ သူပြောတာ အမှန်ပဲ။ ဒီတစ်ခါလည်း ကျွန်တော် ရေးထားတဲ့ ဝါကျတွေကို အစိတ်စိတ်အမွှာအမွှာဖြစ်အောင် ဆုတ်ဖြဲပစ်ရဦးတော့မယ်' လို့ ဖလောဘေးက မိတ်ဆွေတစ်ယောက်ဆီကို ရေးခဲ့တယ်။

သူလုပ်ချင်ပြီး လုပ်ဖို့ခက်ခဲနေတဲ့ အရာဟာ ဘာလဲ။ ဒီအကြောင်းကို သူကိုယ်တိုင် အဖြေပေးခဲ့ပါတယ်။ သူလုပ်ချင်နေတဲ့ အရာကတော့ တခြားမဟုတ်ပါဘူး။ 'သူ့ဝါကျတွေထဲမှာ ရှိနေတဲ့အဆီတွေကို ဘေးဖယ်ပစ်ပြီး ကြွက်သားတွေချည်းပဲ ကျန်ရစ်အောင်လုပ်ဖို့' ဖြစ်ပါတယ်။ တစ်နည်းပြောရရင် စာရေးဆရာရဲ့ကိုယ်က 'ဘေးသား' တွေ၊ စိတ္တဇဆန်တဲ့ ဒြပ်မဲ့စကားလုံးတွေကို ဘေးဖယ်ထုတ်ပစ်ဖို့ပါပဲ။ ဝတ္ထုထဲမှာပါတဲ့ ဇာတ်ဆောင်တွေရဲ့ ထင်မြင်ချက်တွေ၊ စကားလုံးတွေကိုချည်း ချန်ပစ်ခဲ့ဖို့ပါပဲ။

ဖလောဘေးနဲ့ပတ်သက်လို့ရေးတဲ့ သူ့ရဲ့စာတမ်းတစ်စောင်မှာ ပရစ်က ဖလောဘေးရဲ့ ရေးဟန်၊ သူ့ရဲ့ ဝါကျတည်ဆောက်ပုံဟာ ရွေ့နေတဲ့ လှေကားတစ်မျိုးကို စီးနေရတာနဲ့တူကြောင်း၊ သူ့ဝါကျတွေ စီးဆင်းပုံဟာ ငြီးငွေ့စဖွယ်ကောင်းအောင် စဉ်ဆက်မပြတ်ရှိကြောင်း၊ တစ်နေရာ အရောက်ကျမှသာ အဲဒီစဉ်ဆက်မပြတ် ဖြစ်မှုဟာ ဖြုန်းခနဲ ရပ်သွားပြီး စာဖတ်သူကို တစ်နေရာကို ခေါ်ဆောင်သွားကြောင်းနဲ့ ရေးခဲ့ပါတယ်။

သူ့ရဲ့ဟန်အကြောင်းကို ပြောပြီးတဲ့နောက် သူ့အမှုအကြောင်းကို နည်းနည်းပြောချင်ပါသေးတယ်။ သူ့အမှုဟာ ထင်ရှားကျော်ကြားတဲ့ အမှုတစ်ခုဖြစ်ပါတယ်။ ၁၈၅၀ ပြည့်နှစ်မှာ 'ပါရီရီဗျူး' သတင်းစာက သူ့ဝတ္ထု (မဒမ်ဘိုဗာရီ) ကို ခန်းဆက်အဖြစ် ထည့်သွင်းချိန်မှာ ဖလောဘေးကို အများပြည်သူတို့၏ စာရိတ္တနှင့် ဘာသာတရား ထိခိုက်ပျက်ပြားစေမှုနဲ့ ဆိုင်ရာက တရားစွဲပါတယ်။ စာရေးဆရာ အားလုံးလောက်ကပဲ သူ့အမှုဟာ သူတို့အားလုံးနဲ့လည်း သက်ဆိုင်တယ်လို့ ယူဆကြတဲ့အတွက် ဖလောဘေးဘက်က တတ်နိုင်သမျှ ဝင်ရောက်ကူညီကြတယ်။ အကာအကွယ် ပေးခဲ့ကြတယ်။ အမျိုးသမီးတွေနဲ့ ဘုရင်မကြီးက သူ့ဘက်က လိုက်ကြတယ်။ ဘုရင်က 'နင်တို့ ဝင်မရှုပ်နဲ့' ဆိုပြီး အမှုကို ဆက်အစစ်ခိုင်းတယ်။ ဖလောဘေးက သူ့မိတ်ဆွေတစ်ယောက်ဖြစ်တဲ့ ဒေါက်တာဂျူးလီယက် ကရိကေးဆီကို စာတစ်စောင်ရေးခဲ့ပါတယ်။

'မနက်ဖြန် ဇန်နဝါရီလ ၂၄ ရက်နေ့ မနက် ၁၀ နာရီမှာ အကျဉ်းချုံးတရားစီရင်ရေး အမှတ် (၆) ရုံးတော်ရဲ့ ဝက်ခြံထဲကို ကျွန်တော် သွားရောက်အစစ်ခံရတော့မယ်ဗျ။ အမျိုးသမီးများလည်း အမှုကို လာရောက်နားထောင်ခွင့်ရကြတယ်။ ဣန္ဒြေရရ၊ သပ်သပ်ရပ်ရပ် အဝတ်အစားကို ဝတ်ဖို့တော့လို

တယ်။ တရားမျှတမှုကို ကျွန်တော် မမျှော်လင့်ပါဘူး၊ အများဆုံးသော ပြစ်ဒဏ်ကို ပေးလိမ့်မယ်လို့ ယူဆရတာပဲ။ ကျွန်တော့်ဝတ္ထုအတွက် ကောင်းမွန်တဲ့ ဆုလာဘ်လို့ ဆိုရမှာပေါ့ဗျာ။ စာပေလောကကြီးအတွက်လည်း တစ်အားတက်စရာပေပေါ့' လို့ရေးခဲ့ပါတယ်။

တရားလိုရှေ့နေကြီးကမူ သူ့ဝတ္ထုမှာပါတဲ့ စာပိုဒ်တွေကို မကြာခဏဆိုသလို အလန့်တကြားရွတ်ဆိုပြီး ကောက်နုတ်တင်ပြသွားပါတယ်။ 'ချစ်သူများသည် ကာမဂုဏ်အာရုံ၏ အလိုသို့ စိတ်ရှိလက်ရှိ လိုက်ပါကြကုန်၏' ဆိုတဲ့ စာပုဒ်မျိုးတွေဖြစ်ပါတယ်။ တရားလိုရှေ့နေကြီးရဲ့ အဆိုအရ သူ့ဝတ္ထုဟာ အများပြည်သူရဲ့ စာရိတ္တကို ဘယ်လောက်ထိခိုက် ပျက်ပြားစေသလဲ ဆိုတဲ့ အချက်ဟာ အဲဒီလိုညစ်ညမ်းတဲ့ အရေးအသားမျိုးတွေ ဘယ်နှစ်ကြိမ်ပါသလဲ ဆိုတဲ့ အချက်ပေါ်မှာ တည်တယ်လို့ဆိုပါတယ်။

အစိုးရရှေ့နေကြီးက စွဲချက်တင်ရာမှာ 'စာရေးဆရာဟာ အဲဒီ အမျိုးသမီးရဲ့ ရုပ်ပုံကို ရေးခြယ်ပြသွားရာမှာ သူတတ်ကျွမ်းတဲ့ ရေးဟန်ကို အစွမ်းကုန်အသုံးချပြီး ရေးပြသွားပါတယ်။ စာရေးဆရာဟာ အဲဒီအမျိုးသမီးကို အသိဉာဏ်ရှိတဲ့ အမျိုးသမီးတစ်ယောက်အဖြစ် ရေးပြသွားခဲ့ပါသလား။ တစ်ချက်ကလေးမှ ရေးမပြခဲ့ပါဘူး။ သူ့နှလုံးသား၊ မေတ္တာ၊ စေတနာအကြောင်းကိုကော ရေးပြသွားခဲ့ပါသလား။ တစ်ချက်ကလေးမှ ရေးပြမသွားပါဘူး။

အဲဒီအမျိုးသမီးရဲ့ စိတ်ဓာတ်ဆိုင်ရာတို့ကိုကော ရေးပြသွားပါသလား။ တစ်ချက်ကလေးမှ ရေးပြမသွားပါဘူး။ ဒါဖြင့် အဲဒီ အမျိုးသမီးရဲ့ ကိုယ်ခန္ဓာအလှကိုကော ရေးခြယ် ပြသွားပါသလား။ ဒီလောက်ကိုတောင် ရေးပြသွားခြင်း မရှိပါဘူး။ ကျွန်တော်တို့မြင်ရတာက သူများနဲ့ ကြာခိုပြီး မြူးထူးနေတဲ့ မဒမ်ဘိုဗာရီကိုပဲ မြင်ရပါတယ်။ ဒါပေမယ့် အဲဒီ ရုပ်ပုံကားဟာ ညစ်ညမ်းတဲ့ ရုပ်ပုံကား၊ ရမ္မက်ကို နှိုးဆွပေးတဲ့ ရုပ်ပုံကား ဖြစ်ပါတယ်။ အဲဒီ အမျိုးသမီးရဲ့ ရုပ်ပုံအမျိုးမျိုးဟာ တဏှာရမ္မက်ကို နှိုးဆွနေတဲ့ ပုံတွေသာဖြစ်ပါတယ်။ မဒမ်ဘိုဗာရီ ရဲ့ အလှဟာ တစ်ဖက်သားကို နှိုးဆွတဲ့ အလှမျိုးပဲ ဖြစ်ပါတယ်' လို့ တရားလို ရှေ့နေကြီးက စွဲချက်တင်သွားပါတယ်။

တော်တော်ထူးဆန်းပြီး တော်တော်ရယ်စရာကောင်းတဲ့ စွဲချက်တစ်ခုပါပဲ။

တရားလိုရှေ့နေကြီးက အပိုဒ်လေးပိုဒ်ဟာ ရာဇဝတ်ကြောင်းနဲ့ ငြိတယ်လို့ ထောက်ပြပါတယ်။ ပထမစာပိုဒ်ကတော့ မဒမ်ဘိုဗာရီရဲ့ ကြာခိုသူအဖြစ် ရူးဒေါ်ကို ပြုမူပြောဆိုပုံတွေကို ရေးပြတဲ့အခန်းပါ။ 'ရူးဒေါ့်ဟာ မဒမ်ဘိုဗာရီအပေါ်မှာ ဘာတွေကိုများ စွဲမက်စရာ တွေ့သွားပါသလဲ။ မဒမ်ဘိုဗာရီရဲ့

လှိုင်းထသလို ပြည့်ဖောင်းနေတဲ့ အဝတ်အစားနဲ့ အဲဒီအဝတ်အစားထဲမှာ ပေါ်လွင်နေတဲ့ မဒမ်ဘိုဗာရီရဲ့ ကိုယ်ခန္ဓာအချိုးအစားတို့ ဖြစ်ပါတယ်။ ဒုတိယစာပိုဒ်ကတော့ စာရေးဆရာက ဘာသာတရားအပေါ်မှာထားတဲ့ သဘောထားဖြစ်ပါတယ်။ တတိယစာပိုဒ်ကတော့ လီယွန်နဲ့ မဒမ်ဘိုဗာရီတို့ အချစ်စခန်းဖွင့်ကြပုံဖြစ်ပါတယ်။ ရိုအင်မြို့ကို သူတို့နှစ်ယောက် မြင်းရထားနဲ့ ခရီးသွားကြပုံဖြစ်ပါတယ်။

ဒီစာပိုဒ်မှာ ဘာမှ တစ်တစ်ခွခွ ဖော်ပြထားတာမျိုး မပါပေမယ့် စာဖတ်သူရဲ့ မျက်စိထဲမှာပေါ်လာအောင် အမြွက်ပေးပြီး ရေးထားပါတယ်။ နောက်ဆုံးအခန်းကတော့ အမ်မာသေဆုံးပုံကို ရေးထားတဲ့အခန်း ဖြစ်ပါတယ်။ ‘မြင့်မြတ်တဲ့ ဘာသာတရားနဲ့ ယုတ်ညံ့တဲ့ တဏှာပေမကို အကျည်းတန်စွာပေါင်းစည်းရေးထားတဲ့အခန်း’ လို့ တရားလို ရှေ့နေကြီးက စွဲချက်တင်သွားပါတယ်။

ဖလောဘေးရဲ့ ရှေ့နေကြီးဖြစ်တဲ့ မေထရီဆေးနဒ် အဖို့ကတော့ ဒီစွဲချက်တွေကို ခုခံချေပရတာ တော်တော်လွယ်တဲ့ကိစ္စပါ။ သူက ဖလောဘေးရဲ့ဖခင်ကြီးရဲ့ ဂုဏ်သိက္ခာ၊ သူ့ဒေသတစ်ဝိုက်မှာ ကျော်ကြားတဲ့ခွဲစိတ် ဆရာဝန်ကြီးတစ်ဦးဖြစ်တဲ့အတွက် အများသူငါက လေးစားကြရတဲ့ သမာဓိ စသည်တို့ကို ထုတ်ဖော်ပြောဆိုသွားပါတယ်။ ‘စာရေးဆရာ ဂုစတပ်ဖလောဘေးဟာလေးနက်တဲ့အမြင်ရှိသူတစ်ယောက်ဖြစ်ပြီး စိတ်ညစ်ညူးဖွယ် အကြောင်းတွေကိုရေးတဲ့ ဝါသနာရှိသူတစ်ဦး ဖြစ်ပါတယ်။ သူဟာ တရားလိုရှေ့နေကြီး လိုရာဆွဲနှုတ်တင်ပြသွားသလို ညစ်ညမ်းတဲ့ အရေးအသားမျိုး၊ တဏှာပေမကို လှုံ့ဆော်တဲ့ အရေးအသားမျိုးကို ရေးတတ်သူတစ်ယောက် မဟုတ်ပါဘူး’ လို့ တရားခံရှေ့နေကြီးက ခုခံလျှောက်လဲသွားတယ်။

မှန်ပါတယ်။ မဒမ်ဘိုဗာရီဝတ္ထုထဲမှာ ကြာခိုတဲ့ အခန်းတွေပါပါတယ်။ ဒါပေမယ့် အဲဒီ ကြာခိုခန်းတွေဟာ မဒမ်ဘိုဗာရီရဲ့ သောက၊ နောင်တ၊ သံဝေဂတို့ကို ဖော်ပြတဲ့အခန်းတွေ ဖြစ်ပါတယ်။ ရိုအင်ကို ရထားစီးသွားကြတာမျိုးဆိုရင်လည်း သူ့အလျင် စာရေးဆရာကြီးဖြစ်တဲ့ မာရီမေရဲ့ ‘လာဒါဘယ်မေပရီစီ’ ဝတ္ထုမှာ ပါပြီးသားဖြစ်ပါတယ်။ သူ့ဝတ္ထုမှာလည်း ချစ်သူနှစ်ယောက် စာပို့မြင်းရထားကြီးပေါ်မှာ တွေ့ကြတဲ့ အခန်းမျိုး ပါပါတယ်။ မဒမ်ဘိုဗာရီရဲ့ လှိုင်းထသလို ဖောင်းကြွနေတဲ့ အဝတ်အစား ဆင်ယင်မှုမျိုးကကော။ သူ့ဝတ္ထုထဲမှာ ကိုယ်လုံးတီးရေးဖွဲ့တာမျိုး တစ်ခုမှ မရှိပါဘူး။

တခြားစာရေးဆရာတွေရဲ့ ဝတ္ထုတွေထဲမှာသာ ကိုယ်လုံးတီးအဖွဲ့မျိုးပါပါသေးတယ်။ သူ့ဝတ္ထုမှာ ကိုယ်လုံးတီးဖွဲ့တာမျိုး တစ်ခုမှ မပါပါဘူး။

တဏှာရာဂကို နှိုးဆွတဲ့ အရေးအသားမျိုး ပါတယ်ဆိုရင်လည်း ဒါဟာ သူ နှစ်သက်တဲ့ ဘိုဆွေးရဲ့ ဝတ္ထုတစ်ပုဒ်ထဲက တစ်ဆင့် ကူးရေးတာမျိုးလောက်ပဲ ရှိပါတယ်။ ဘိုဆွေးရဲ့ ဝတ္ထု၊ ရှူးဆိုးရဲ့ 'ဖွင့်ဟဝန်ခံချက်များ' စတဲ့ စာအုပ်များမှာ သည့်ထက်သည် ညစ်ညမ်းတဲ့ စာပိုဒ်များပါသည့်တိုင် သူတို့ စာပေတွေကို မဖတ်ရလို့ တားမြစ်ထားချက် မရှိခဲ့ပါဘူး။ သူတို့စာပေတွေကိုလည်း ရုံးတော်မှာ တင်ပြီး တရားစွဲဆိုခြင်း မပြုခဲ့ပါဘူး။

တရားသူကြီးရဲ့ စီရင်ချက်ဟာ နှစ်ဘက်စေ့စပ်ထားတဲ့ စီရင်ချက် ဖြစ်ပါတယ်။ တရားရုံးတော်က ဒီစာအုပ်ကို ကောင်းတယ်၊ သန့်ရှင်းတယ်လို့တော့ မဆုံးဖြတ်နိုင်ပါဘူး။ ဒါပေမယ့် 'အဆိုပါစာအုပ်သည် စာရေးဆရာက အားသွန်ကြိုးပမ်း ရေးထားသည့်စာအုပ်တစ်အုပ်ဖြစ်ပြီး အထက်ပါ ညစ်ညမ်းသည်ဟု ကောက်နုတ်ဖော်ပြသည့် စာပုဒ်အချို့သည် စာဖတ်သူတို့ကို အရိပ်အမြွက်ပြသည့်တိုင် စာပုဒ်အရေးအတွက်မှာ အနည်းငယ်မျှသာ ရှိသည့်အတွက် ကြောင့် တစ်ကြောင်း၊ စာရေးဆရာကိုယ်တိုင်က မိမိသည် အများပြည်သူ ဆိုင်ရာ ကျင့်ဝတ်များနှင့် ဘာသာတရားကို လေးစားလိုက်နာသည် ဟု မြွက်ဆိုသွားသည့်အတွက်ကြောင့် တစ်ကြောင်း သူ့စာအုပ်သည် အခြားသော စာအုပ်များထက် တစ်မူထူး၍ စာဖတ်သူတို့၏ စိတ်တွင် တဏှာရာဂ စိတ်ကို လှုံ့ဆော်ပေးသည်ဟု ယူဆရန်မှာ မဖြစ်နိုင်ပေ။

သူ၏ တစ်ခုတည်းသောအပြစ်မှာ သိက္ခာရှိသော စာရေးဆရာများ လိုက်နာစောင့်ထိန်းအပ်သည့် အချို့သောစည်းကမ်းများကို တစ်ခါတစ်ရံ မျက်ခြေပြတ်သွားရုံ၊ အခြားအနုပညာမှာကဲ့သို့ စာပေတွင်လည်း ပုံသဏ္ဍာန်အရ ရော၊ အကြောင်းအရာအရပါ သန့်ရှင်းစင်ကြယ်ရမည်ဆိုသည့်အချက်ကို တစ်ခါတစ်ရံ မျက်ခြေပြတ်သွားရုံမျှသာဖြစ်ပေသည်' လို့ တရားရုံးက စီရင်ချက် ချလိုက်ပါတယ်။

အဲဒီအချက်ကို ထောက်ပြီး ရုံးတော်က စာရေးဆရာနဲ့တကွ ဝတ္ထုကို ထည့်သွင်းဖော်ပြတဲ့ 'ပါရီရီဗျူး' သတင်းစာတို့ကို အပြစ်မှ လွှတ်ပစ်လိုက်ပြီး တရားခံတို့ကိုလည်း စရိတ်ကျခံခြင်း မရှိစေရဆိုတဲ့ အမိန့်နဲ့ အမှုကို ပလပ် လိုက်ပါတယ်။

ဖလောဘေးကတော့ အနုပညာနဲ့ ဘာမျှမဆိုင်ပဲ သည်လောက် အုတ်အော်သောင်းတင်းဖြစ်ရတာကို တော်တော် စိတ်ကုန်သွားပါတယ်။ 'ဒါ ပေမယ့် ဘာပဲပြောပြော စာရေးရတာကိုတော့ တော်တော်ကြောက်သွားတယ် ဗျာ။ သနားစရာကောင်းတဲ့ ကျွန်တော့် မဒမ်ဘိုဗာရီဟာ ပြည့်တန်ဆာမတစ် ယောက်လို ဆံပင်ဆွဲပြီး ရုံးပြင်ကနားကို အခေါ်ခံရပြီဆိုတော့ ကျွန်တော်

ဒီထက် အပြစ်ကင်းအောင် ဘယ့်နှယ်လုပ်ရေးတော့မှာလဲ’ လို့ ဖလောဘေးက ညည်းပါတယ်။

အနုပညာနဲ့ စာရိတ္တတရားဟာ တစ်ခုနဲ့တစ်ခု မတူခြားနားတဲ့ အမျိုးအစားနှစ်ခု ဖြစ်တယ်ဆိုတာ သူသိပါတယ်။ အမှုပြီးတဲ့အခါမှာ ဖလောဘေးဟာ ကျေးလက်မှာရှိတဲ့ သူ့အိမ်ကို ခပ်သုတ်သုတ်ပြန်လာခဲ့ပါတယ်။ လူတွေနဲ့ ခပ်ဝေးဝေးကနေပြီး ‘ရွှံ့တွေနဲ့ ဝိုင်းပက်ထားကြတဲ့ သူ့ဂီတာအိုကလေးကို ကြိုးသစ်တပ်ရဦးမယ်’ လို့ ဆိုပါတယ်။ တစ်နည်းပြောရရင်တော့ စိတ်ကူးယဉ်ဝါဒကို ဖျက်ဆီးခဲ့သူ ဖလောဘေးဟာ ယခုတိုင် သူ့နှလုံးသားမှာ စိတ်ကူးယဉ်မှုရှိနေတုန်းပဲဆိုတာ ပြလိုက်တဲ့ ပုံရိပ်တစ်ခုပါပဲ။

အမှုပြီးသွားတဲ့နောက်မှာ စာရေးဆရာကြီး ဗစ်တာဟူးဂိုးက သူ့ဆီကို စာတစ်စောင်ရေးလိုက်ပါတယ်။ အဲဒီစာထဲမှာ ဟူးဂိုးက ‘ခင်ဗျားဟာ ခင်ဗျားတို့မျိုးဆက်ရဲ့ ခေါင်းဆောင်စံပြစိတ်ဓာတ်တစ်ခုပါပဲ။ အနုပညာမီးတိုင်ကို ဆက်လက်ထွန်းတောက်နေအောင် လုပ်ဖို့ အဲဒီမီးတိုင်ကို မြင့်မားစွာ ကိုင်ဖို့ဟာ ခင်ဗျားတာဝန်ပါ။ ကျုပ်ကတော့ ခုအရိပ်ထဲမှာ ရောက်နေပါပြီ။ ဒါပေမယ့် အလင်းရောင်ကို တမ်းတတဲ့စိတ်၊ ချစ်တဲ့စိတ်ကတော့ ကျုပ် ရင်ထဲမှာ ခုထိရှိပါသေးတယ်။ တစ်နည်းပြောရရင် ခင်ဗျားကို လေးစားတုန်း ရှိပါသေးတယ်’ လို့ ရေးလိုက်ပါတယ်။

ဒီစာကိုဖတ်ရတဲ့အခါမှာ ဖလောဘေးဟာ ပြုံးမိပါတယ်။ သူ့ကိုယ်သူလည်း အများကြီး ကျေနပ်သွားရပါတယ်။

* * *

# လူ၊ အချစ်၊ စာပေ

လင်ချစ်၊ မယားချစ်နဲ့ပတ်သက်လို့ သူ့အမြင်တွေကို ဖော်ထုတ်ရေးသားခဲ့တဲ့ ဝတ္ထုတွေကို သီးသန့်စုပြီး စာအုပ်ထုတ်မယ်ဆိုရင် အတွဲ တစ်တွဲလောက်တောင် ရှိလိမ့်မယ်ထင်တယ်။ တော်လ်စတွိုင်းဟာ တစ်ခုနဲ့တစ်ခု တော်တော်ကွဲပြားခြားနားတဲ့ သူ့ဘဝရဲ့ အချိန်နှစ်ချိန်မှာ အဲဒီ လင်ချစ်၊ မယားချစ်နဲ့ ပတ်သက်တဲ့ဝတ္ထုတွေကို ရေးခဲ့ခြင်း ဖြစ်ပါတယ်။ ဟုတ်ပါတယ်။ 'စစ်နဲ့ငြိမ်းချမ်းရေး' ဝတ္ထုကြီးထဲမှာရော၊ 'အင်နာကရီးနီးနား' ဝတ္ထုကြီးထဲမှာရော တော်လ်စတွိုင်းဟာ လင်မယားအချစ်နဲ့ပတ်သက်တဲ့ ပြဿနာတွေကို တော်တော် ကျယ်ကျယ်ပြန့်ပြန့် ရေးခဲ့ဖူးပါတယ်။ ဒါပေမယ့် 'ကရုဇာဆိုနာတာ' ဝတ္ထုနဲ့ 'သီရိဂေဟာ' ဝတ္ထု (ဖင်မလီ ဟက်မီးနက်စ်) ဝတ္ထု နှစ်ပုဒ်စလုံးကတော့ အဲဒီအကြောင်းကိုပဲ အထူးအလေးပေးရေးသွားတဲ့ ဝတ္ထုတွေပါပဲ။ ဒုတိယဝတ္ထုဖြစ်တဲ့ 'သီရိဂေဟာ' ဝတ္ထုမှာဆိုရင် ဇရာအရွယ်မှာ ရောက်နေတဲ့ တော်လ်စတွိုင်းရဲ့ ဖိုမဆက်ဆံရေးဆိုင်ရာ ကျင့်ဝတ်များကို ပီပြင်ထင်ရှားစွာ ဖော်ပြတဲ့ နောက်ဆက်တွဲ ဆောင်းပါးတစ်စောင်တောင်ပါ လိုက်ပါသေးတယ်။ သူ့အယူအဆတွေကို ဖတ်ကြည့်လိုက်တဲ့အခါမှာ တော်တော်ရက်စက်ပြီး တော်တော်လူမဆန်ဘူးလို့ ထင်ရပါတယ်။ ဒါပေမယ့် ဒီလိုအယူအဆတွေ ဘယ်လိုဖြစ်ပေါ်လာသည်ဆိုတာကို နားလည်ဖို့ မကြိုးစားခင်မှာ တကယ့်အဖြစ်မှန်နဲ့ စိတ်ကူးတို့

ဟာ ဘယ်ကို ဆက်သွယ်ယှက်နွယ်နေကြသလဲဆိုတာကို စူးစမ်းကြည့်ဖို့လို ပါတယ်။ ပြီးတော့မှ ဒီဝတ္ထု နှစ်ပုဒ်ရဲ့အောင်ကို စာရေးဆရာရဲ့ ဘဝအောင်ထဲမှာ ထည့်ကြည့်ဖို့လိုပါ လိမ့်မယ်။

တော်လ်စတွိုင်းကို လူငယ်တစ်ယောက်အနေနဲ့ ပုံဖော်ကြည့်လိုက်တဲ့အခါမှာ လူတစ်ယောက်တည်းမှာ ဆန့်ကျင်ဘက် စရိုက်လက္ခဏာတွေ အံ့သြစရာကောင်းလောက်အောင် စုပြုံရောယှက်နေတာကို တွေ့ရတယ်။ တော်လ်စတွိုင်းဟာ ပကတိစိတ်အားဖြင့် စာရိတ္တအရာမှာ ထိန်းသိမ်းတဲ့ လူတစ်ယောက်၊ ဒါမှမဟုတ် စာရိတ္တအရာမှာ ထိန်းသိမ်းချင်တဲ့ လူတစ်ယောက် ဖြစ်တယ်ဆိုတာကို တွေ့ရတယ်။ ဒါပေမယ့် တစ်ပြိုင်နက်တည်းမှာ သူဟာ အလွန် ရမ္မက်ကြီးပြီး ကာမဂုဏ်အာရုံကို လိုက်စားလိုစိတ် ပြင်းထန်သူဖြစ်တယ်။ စိန့်ပီတာစဘတ်မှာနေတုန်းက သူဟာ လှပချောမောတဲ့ ဂျစ်ပစီ မိန်းမတွေမှာ ပျော်မွေ့တတ်သူဖြစ်တယ်။

အရာရှိငယ်ကလေးတစ်ယောက်အနေနဲ့ ကော့ဆက်မတွေနဲ့ အပျော်ကျူးခဲ့ဖူးတယ်။ သူ့ပိုင်စားနယ်မြေမှာ သူဟာ အရှင်သခင်ဖြစ်လေတော့ သူ့ပိုင်စားနယ်မြေမှာရှိတဲ့ ကျေးတောသူမလေးတွေကို ဖြားယောင်းဖျက်ဆီးခဲ့ဖူးတယ်။ သူ့နေ့စဉ်မှတ်တမ်းကို ပြန်ကြည့်ရင် အဲဒီလို အဖြစ်အပျက်မျိုးတွေကို မကြာခဏ ရေးမှတ်ထားတာကို တွေ့ရတယ်။ မိန်းမတစ်ယောက်လောက်တော့ ရှိမှဖြစ်မယ်။ ငါ့ရမ္မက်စိတ်ဟာ ငါ့ကို တစ်စက်ကလေးမှ ငြိမ်းချမ်းမှုကို မပေးပါကလားလို့ ရေးထားတယ်။ ဒါပေမယ့် သူ့ရဲ့ ပြင်းထန်တဲ့ရမ္မက်အလိုကို လိုက်နေစဉ်မှာတောင် သူ့စိတ်ထဲမှာရှိတဲ့ စာရိတ္တဝါဒီဟာ သူ့ကို ပုန်ကန်ဆန့်ကျင်နေတယ်။ မိန်းမတွေက သူ့အပေါ်မှာ လွှမ်းမိုး အနိုင်ယူနေတာကို သူ မကျေမနပ်ဖြစ်နေတယ်။ အသက်သုံးဆယ်ရောက်တဲ့ အခါကျတော့ ဒုစရိုက်ကို ထိတ်လန့်သံဝေဂဖြစ်တဲ့ သူ့စိတ်နဲ့ ဆန့်ကျင်ဘက် လိင်ကို အာသာငမ်းငမ်းတောင့်တတဲ့ သူ့စိတ်ကို ချိန်ခွင်လျှာညီအောင် လုပ်ပေးဖို့နည်းလမ်းဟာ အိမ်ထောင်ပြုတဲ့နည်းပဲ ရှိတယ်လို့ သူ သဘောပေါက်လာတယ်။

ဒါပေမယ့် ခက်တာက သူ့ရုပ်နဲ့ မိန်းကလေးတစ်ယောက် ကြိုက်အောင်လုပ်နိုင်ပါ့မလားလို့ သူ သံသယရှိတယ်။ သူက အရုပ်ဆိုးတယ်။ သူ့မျက်နှာက ခေါမဒဏ္ဍာရီတွေထဲမှာ ပါတဲ့ ရက္ခစိုးလို မျက်နှာမျိုး။ သူ့ အမူအရာကလည်း မိန်းမတွေမနှစ်သက်တဲ့ ခပ်ရိုင်းရိုင်း ခပ်ကြမ်းကြမ်း အမူအရာမျိုး။ သူ့ခေါင်းက ဓမ္မဟောင်းကျမ်းထဲမှာပါတဲ့ မော်ဆရာရဲ့ ခေါင်းမျိုး။ သူ့ပုံပန်းသဏ္ဌာန်သည် ဘုရားသခင်ကို မီးလောင်နေသည့် ချုံပုတ်ကြားတွင် တွေ့ခဲ့ရသည့် လူတစ်ယောက်၏ ပုံသဏ္ဌာန်လို စာရေးဆရာတစ်ဦးက ရေးခဲ့ဖူးတယ်။

သူဟာ အမြဲတန်း အတိုက်အခံလုပ်လေ့ရှိပြီး လုပ်ရင်လည်း ပြင်းပြင်းထန်ထန် အတိုက်အခံလုပ်တတ်သူဖြစ်တယ်၊ အယူသည်းခြင်းနှင့် ယဉ်ကျေးသိမ်မွေ့မှု ဆိုတာ ပြဒါးတစ်လမ်း သံတစ်လမ်းဖြစ်တယ်။ သူဟာ ယဉ်ကျေးသိမ်မွေ့ခြင်း မရှိဘဲ စိတ်ဓာတ်ပြင်းထန်သူဖြစ်တယ်။ သူ ဒေါသထွက်ရင်လည်း ကြောက် စရာကောင်းတယ်။ ဒါပေမယ့် သူဟာ ယာစနာ ပိုလီယန်နား ဆိုတဲ့ ကြီးမားတဲ့ ပိုင်စားနယ်မြေကြီးကို ပိုင်ဆိုင်တဲ့ မြို့စားဘွဲ့ရပုဂ္ဂိုလ်ကြီးဖြစ်တယ်။ ပြီးတော့ စာပေအရာမှာ ပါရမီရှင်ကြီးတစ်ဦး ဖြစ်တယ်။ သူ့ရဲ့ ပထမဆုံးသော အရေး အသားဟာ စာပေလောကကြီးတစ်ခုလုံးကို တအံ့တသြဖြစ်စေပြီး တသသ စွဲလန်းစေခဲ့တယ်။ ဒီလိုအရည်အချင်းတွေ စုပေါင်းထားတဲ့အတွက် မိန်းမ တစ်ယောက်ကို ဆွဲဆောင်နိုင်ချင် ဆွဲဆောင်နိုင်မယ်။ ဒါပေမယ့် အတည်တကျ ချစ်သူတစ်ယောက်ဖြစ်ဖို့ကိုတော့ သူဝန်လေးတယ်။ အသက်သုံးဆယ်ရောက် တော့ သူ့ကိုယ်သူ တော်တော် အသက်ကြီးပြီလို့ ထင်လာတယ်။ သူ့လို ဟော့ဟော့ရမ်းရမ်း နေလာခဲ့သူတစ်ယောက်ဟာ စစ်မှန်ပြီး စင်ကြယ်တဲ့ ပျော်ရွှင် မှုကို တောင့်တနေတဲ့အပြစ်ကင်းတဲ့ မိန်းကလေးတစ်ယောက်ကို ဘယ့်နှယ်လုပ် ပြီး နှလုံးသားကို ပေးအပ်ရတော့မှာလဲ။ အဲဒီမိန်းကလေးကို သူနဲ့အတူ ကျေး လက်မှာ လာနေဖို့ ဘယ့်နှယ်လုပ်ပြီး ဆွဲဆောင်နိုင်တော့မှာလဲ။ တကယ်လို့ အဲဒီမိန်းကလေးနဲ့ စိန့်ပီတာစဘတ်မှာ ဖြစ်စေ၊ မော်စကိုမှာဖြစ်စေ အတူနေကြ ရင်လည်း အဲဒီ မိန်းကလေးပတ်ပတ်လည်မှာ သူ ငယ်ငယ်တုန်းကလို သောင်း ကျန်းရမ်းကားတဲ့ ယောက်ျားတွေ ဝိုင်းအုံနေကြတာကို သူ ဘယ့်နှယ်လုပ်ကြည် ဖြူနိုင်မှာလဲ။

ဒီစိုးရိမ်စိတ်တွေ ဝင်နေတဲ့ တော်လ်စတွိုင်းဟာ ၁၉၀၈ ခုနှစ်မှာ 'သီရိဂေဟာ' ဝတ္ထုကို ရေးခဲ့တာပါပဲ။ အဲဒီဝတ္ထုထဲက ဇာတ်ဆောင်ဖြစ်တဲ့ အသက်ခပ်ကြီးကြီး ဆာဂျီမစ်ဟေလိုဗစ်ဟာ သူ့အုပ်ထိန်းမှုအောက်မှာရှိတဲ့ အသက် ၁၇ နှစ်သာရှိသေးတဲ့ မာရှာဆိုတဲ့ ကောင်မလေးကို ကြိုက်တယ်။ မာရှာဆိုတဲ့ ကောင်မလေးကလည်း သူ ရှိသေလေးစားရတဲ့လူကြီးက သူ့ကို ချစ်တယ်ဆိုတာကို တွေးပြီး သူ့ကိုယ်သူ ဂုဏ်ယူကျေနပ်တယ်။ ဒါကြောင့် သူ့ကို ရေလာမြောင်းပေးလုပ်တယ်။

အဲဒီလူကြီးက သူ့ကိုချစ်တဲ့အကြောင်း ဖွင့်ပြောတယ်။ မာရှာက လက်ခံပြီး သူ့ကို လက်ထပ်လိုက်တယ်။ အစတော့ သူတို့ ပျော်တာပေါ့။ ဒါပေမယ့် သူတို့ပျော်တယ်ဆိုတာက ကိုယ်ကျိုးကြည့်ပြီး ပျော်ကြတာ၊ တစ် ဘက်မှာတော့ သူတို့နှစ်ယောက်စလုံးဟာ လင့်ဝတ်၊ မယားဝတ်ဆိုတာတွေကို ဘာမှ သတိမရကြဘူး။

နည်းနည်းကြာလာတဲ့အခါမှာတော့ ကောင်မလေးက ကျေးလက်မှာ နေရတာကို ငြီးငွေ့လာတယ်။ ပြီးတော့ သူ့ယောက်ျားဟာ ဖိုမကိစ္စလောက်ပဲ သူ့ကို စိတ်ဝင်စားတယ်။ ကျန်တဲ့ကိစ္စတွေမှာတော့ သူ့ကို တံခါးပိတ်ထား တယ်လို့ ယူဆလာတယ်။ ဒါနဲ့ ယောက်ျားက သူ့ကို မြို့ကို ခေါ်သွားတယ်။ မြို့ရောက်တော့ ကောင်မလေးက သိပ်ပေါ်ပြူလာဖြစ်သွားတယ်။ သူက လှ တာကိုး။ ဒီတွင် ယောက်ျားကြီးက မနာဝန်တိုဖြစ်လာတယ်။ ကောင်မလေးက လည်း နေရာတကာ လိုက်ပြီး မနာလိုဝန်တိုဖြစ်နေတဲ့ သူ့ယောက်ျားကြီးကို စိတ်ပျက်လာတယ်။ ဒါနဲ့ သူ့ကို ပြန်လှန်ပြောတယ်။ ဝေဖန်တယ်။ ဒီတွင် သူတို့ပျော်ရွှင်ချမ်းမြေ့မှုဟာ အဲဒီမှာ အဆုံးသတ်သွားတော့တာပါပဲ။ တစ် ယောက်နဲ့တစ်ယောက် အမြင်မကြည်လင်ကြတော့ဘဲ မကောင်းထင်လာကြ တယ်။ အပြစ်မြင်လာကြတယ်။

သူ့မိန်းမဟာ လျှပ်ပေါ်လော်လီတယ်လို့ မြင်တယ်။ ဆိုရှယ်ကျ လွန်းတယ်လို့ မြင်တယ်။ မိန်းမကလည်း သူ့အဘိုးကြီးဟာ 'ကဂျီကဂျောင်' ကျတယ်။ မနာလိုအားကြီးတယ်လို့ မြင်လာတယ်။ သူနဲ့ ထိပ်တိုက်မတိုးချင် ရင် သူ့ကို သတိနဲ့ ကိုင်တွယ်ရမယ်။ ပရိယာယ်မာယာနဲ့ ဆက်ဆံရမယ်လို့ သဘောပေါက်သွားတယ်။

အဲဒီနောက်မှာတော့ လင်မယားနှစ်ယောက်အကြားမှာ ပွင့်လင်းမှု တို့၊ ပျော်ရွှင်မှုတို့ မရှိတော့ပဲ ဖြစ်လာတယ်။ ဒီလိုနဲ့ အတန်ကြာလာတော့ သူတို့မှာ သားတွေ၊ သမီးတွေ မွေးလာကြတယ်။ သူတို့ရဲ့ တစ်ခါက ပျော်ရွှင် မှု၊ နားလည်မှုတွေကို ပေးခဲ့တဲ့ တဏှာချစ်ကို မေ့ပျောက်သွားကြတယ်။

အဲဒီအချိန်ကစပြီး ကျွန်မရဲ့ နှလုံးသားက အချစ်ဟာ ပျောက်ကွယ် သွားတာပါပဲ။ ကလေးတွေနဲ့ သူတို့အဖေကို ချစ်တဲ့စိတ်ပဲ ရှိတော့တယ်။ ဒါဟာ ဘဝသစ်အစပဲ မဟုတ်လား၊ ပျော်ရွှင်ချမ်းမြေ့မှုတစ်မျိုးပဲ မဟုတ်လား' လို့ မာရှာက ပြောခဲ့တယ်။

အဲဒီလို တစ်မျိုးဖြစ်ခဲ့တဲ့ ပျော်ရွှင်ချမ်းမြေ့မှုဟာ အိမ်ထောင်ရေးသုခ ပဲဖြစ်ပါတယ်။ အဲဒီအိမ်ထောင်ရေးသုခဟာ တဏှာရမ္မက်တွေဆိုတဲ့ အဆိပ် အတောက်တွေနဲ့ ကင်းရမယ်လို့ တော်လ်စတွိုင်းက နိဂုံးချုပ်ပါတယ်။

အချစ်ကနေပြီး အိမ်ထောင်ဖက်အဖြစ်စုံမက်တွယ်တာမှုကို ပြောင်း သွားနိုင်တယ်လို့ သူ ယူဆပါတယ်။ သူ့ဇနီး မာရှာကို ပွေ့ဖက်တဲ့လူဟာ အရင်တုန်းကလို ထက်သန်တဲ့ချစ်သူ မဟုတ်တော့ဘူး။ အသက်အရွယ်ကြီး တဲ့ လူကြီးတစ်ယောက်ဖြစ်သွားပြီ။ ဒါကို တွေးမိရင်း မာရှာဟာ ခိုကိုးရာရ သွားပြီး ရင်ထဲမှာ အေးချမ်းသွားတယ်။ ပူလောင်တဲ့စိတ်က လွတ်မြောက်သွား

တယ်။ ဒီပူလောင်တဲ့စိတ်ဟာ ရမ္မစိတ်ပါပဲ။ ဒါပေမယ့် တော်လ်စတွိုင်းကတော့ အဲဒီလို အတိအလင်းမပြောပါဘူး။ သူ့ဝတ္ထုရဲ့ နောက်ဆုံးစာမျက်နှာမှာ သိမ်သိမ်မွေ့မွေ့၊ လှလှပပ၊ ကျွန္ဓြေရရနဲ့ ရေးသွားပါတယ်။

နောင်နှစ်ပေါင်း အတန်ကြာမှာ ရေးတဲ့ 'ကရုဇာဆိုနာတာ' ဝတ္ထုမှာတော့ ဒီလို သိမ်သိမ်မွေ့မွေ့ မရေးဘဲ ခပ်ကြမ်းကြမ်းပဲ ရေးသွားပါတယ်။ ဘာဖြစ်လို့ ဒီဝတ္ထုနှစ်ပုဒ်ရဲ့ အရေးအသား ကွာသွားရသလဲဆိုတော့ ဒီစာအုပ်နှစ်အုပ်ကြားမှာ အိမ်ထောင်သက်တမ်း နှစ်ပေါင်းအစိတ် ကွာခြားနေလို့ပါပဲ။ တော်လ်စတွိုင်းရဲ့ အိမ်ထောင်ရေးဟာ လုံးဝအောင်မြင်ခြင်းမရှိတဲ့ အိမ်ထောင်ရေး လို့ မပြောနိုင်သည့်တိုင် တော်တော်ရင်နာစရာတွေ၊ ပဋိပက္ခတွေ ပြိုးပြွမ်းနေတဲ့ အိမ်ထောင်ရေးဖြစ်ပါတယ်။ 'အကြင်လင်မယားတို့ မည်သို့မည်ပုံ နေထိုင်သင့် သည်ဟု ကျွန်ုပ်ပြောသည့်အခါတွင် ကိုယ်တွေ့နေထိုင်ခဲ့၊ နေနိုင်ခဲ့သောကြောင့် ပြောခြင်းမဟုတ်ပါ။ ကျွန်ုပ်ကိုယ်တိုင် မနေနိုင်၊ မနေခဲ့ရသဖြင့် မည်သို့မည်ပုံ နေထိုင်သင့်ကြောင်းကို သိလာခဲ့ရခြင်း ဖြစ်ပါသည်' လို့ သူက ရေးခဲ့ပါတယ်။

တော်လ်စတွိုင်းဟာ သူ့ဇနီး ဆွန်ယာဘာစ်ရဲ့ အဖေဖြစ်တဲ့ ဒေါက်တာ ဘားစ်မိသားစုနဲ့ သိခဲ့တာ တော်တော်ကြာပါပြီ။ ဆွန်ယာဟာ တော်လ်စတွိုင်းထက် အနည်းဆုံး အသက်ဆယ့်ခြောက်နှစ် ငယ်ပါတယ်။ သူတို့အားလုံးက တော်လ်စတွိုင်းဟာ အစ်မဖြစ်တဲ့ လီဇာကို သဘောကျနေတယ်လို့ ထင်ခဲ့ကြပါတယ်။ ဒါပေမယ့် မကြာခင်မှာပဲ တော်လ်စတွိုင်းဟာ အငယ်မဖြစ်တဲ့ ဆွန်ယာကို သဘောကျသွားပါတယ်။ ဆွန်ယာက အရပ်မြင့်မြင့်၊ အရပ်သွယ်သွယ်၊ အသားညိုညို ခပ်ကျပ်ကျပ်ဝတ်ထားတဲ့ အင်္ကျီထဲက ကိုယ်လုံးကိုယ်ပေါက်ကလည်း သူ့ကို ကလူ၏သို့ မြူ၏သို့ဆိုတဲ့ပုံမျိုး ဖြစ်တယ်။ အဲဒီအချိန်တုန်းက သူ့ကိုယ်သူ ပြန်မြင်တဲ့ ပုံသဏ္ဍာန်ကို တော်လ်စတွိုင်းက ဇာတ်ရုပ်သုံးရုပ်ခွဲပြီး ရေးခဲ့တယ်။ အဲဒီသုံးဦးကတော့ 'အင်နာကရီးနီးနား' ဝတ္ထုထဲက 'လီဗင်'၊ 'စစ်နှင့်ငြိမ်းချမ်းရေး' ဝတ္ထုကြီးထဲက 'ပီယာဘီးဇူးကော့' နဲ့ 'ကရုဇာဆိုနာတာ' ဝတ္ထုထဲက ပေါ့ဇနီရှက်တို့ပါပဲ။ အဲဒီသုံးယောက်ထဲမှာ တော်လ်စတွိုင်းနဲ့ အနီးစပ်ဆုံးသူကတော့ 'အင်နာကရီးနီးနား' ထဲက လီဗင်ဖြစ်ပါတယ်။ အဲဒီဝတ္ထုထဲက လီဗင်နဲ့ ကစ်တီတို့ရဲ့ စေ့စပ်မင်္ဂလာပွဲဟာ သူတို့စေ့စပ်ပွဲကို ရေးထားတာဖြစ်ပါတယ်။ လီဗင်လိုပဲ တော်လ်စတွိုင်းဟာလည်း ကိုယ့်ကိုယ်ကို စာရိတ္တအရာမှာ သန့်ရှင်းချင်သူဖြစ်ပါတယ်။ သူ ငယ်ငယ်တုန်းက ရမ်းကားခဲ့ပုံ၊ သောင်းကျန်းခဲ့ပုံ၊ သူငယ်ငယ်က အပျော်ထားခဲ့တဲ့ အိမ်စေမလေးနဲ့ ဘယ်လိုနေထိုင်ခဲ့ကြပုံတွေကို ဖွင့်ဟဝန်ခံထားတဲ့ သူ့မှတ်တမ်းကို

ဇနီးလောင်းကို အဖတ်ခိုင်းပါတယ်။ သူ့အပြစ်ကို သူ့ ဇနီးလောင်းသိအောင် ပြောပြဖို့ ဝတ္တရားရှိတယ်လို့ သူ ယူဆတာကိုး။ သူ့ မှတ်တမ်းကိုဖတ်ပြီးရော သူ့ဇနီးလောင်းဟာ ချုံးပွဲချငိုတော့တာပါပဲ။ ဒီလို လူမျိုးတစ်ယောက်ရဲ့ အချစ်မျိုးကို သူ ဘယ်လောက်ကြာကြာ ဆွဲဆောင်ထိန်းသိမ်းထားနိုင်မှာလဲလို့လည်း သူ့ကိုယ်သူ မေးမိပါတယ်။

ဒါပေမယ့် သူတို့နှစ်ယောက်ဟာ စေ့စပ်ထားတာကို ဖျက်သိမ်းခြင်းမပြုဘဲ လက်ထပ်ခဲ့ကြပါတယ်။

* * *

# စာရေးဆရာနဲ့ သူ့အိမ်ထောင်ရေး

တော်လ်စတွိုင်းတို့ ဇနီးမောင်နှံရဲ့ အိမ်ထောင်ရေးမှာ အဆင်မပြေတာ၊ မကြာခဏ စိတ်ဆင်းရဲရတာတွေရှိသည့်တိုင် သူတို့ရဲ့ဘဝဟာ ဆုံးရှုံးပျောက်ကွယ်တဲ့ ဘဝမျိုးတော့မဟုတ်ပါဘူး။ လက်ထပ်ပြီးလို့ မကြာခင်မှာပဲ လင်နဲ့ မယားကြားမှာ ခိုင်မာတဲ့ တပ်မက်မှုနှောင်ကြိုးဟာ ရစ်ပတ်နှောင်ဖွဲ့လာခဲ့ပါတယ်။ တဏှာချစ်ဟာ အချစ်မဟုတ်ဘူးလို့ နှစ်ဦးစလုံးက အကြောင်းအမျိုးမျိုးကြောင့် ပြောကြသည့်တိုင် ဒီစကားဟာ စကားသက်သက်မျှသာ ဖြစ်ပါတယ်။ နှစ်ဦးစလုံးဟာ တစ်ယောက်ကိုတစ်ယောက် သစ္စာစောင့်သိကြပြီး စုံမက်တွယ်တာဆဲပဲ ဖြစ်နေကြပါသေးတယ်။

တော်လ်စတွိုင်းဟာ အသက်အတန်ကြီးလာပြီဖြစ်သည့်တိုင် သူ့ဇနီးဟာ စုံမက်စရာ၊ တပ်မက်စရာကောင်းနေသေးတယ်လို့ ထင်ဆဲပဲဖြစ်ပါတယ်။ တော်လ်စတွိုင်းဟာ အံ့ဩစရာကောင်းလောက်အောင် ထက်သန်သူဖြစ်တဲ့အတွက် သူ့တောင်းဆိုမှုတွေကိုကြည့်ပြီး ထိတ်လန့်ကြောက်ရွံ့ခြင်းဖြစ်သည့်တိုင် ဇနီးသည်ဟာ သူ့ကို ဒီလို တွယ်တာတပ်မက်နေတဲ့အတွက် တော်တော်ကျေနပ်ပါတယ်။ သူ့မှတ်တမ်းထဲမှာ ပျော်ရွှင်နှစ်သက်မှုမရှိဘူးလို့ သူ့ဇနီးသည်က ရေးထားသည့်တိုင် စိတ်ကုန်ခမ်းတယ်ဆိုတဲ့ သဘောမျိုးတော့ ရေးလေ့မရှိပါဘူး။

သူတို့လင်မယားကြားမှာ ချည်နှောင်ထားတဲ့ နောက် ကြိုးတစ်ချောင်းကတော့ အလုပ်ပါပဲ။ သူ့ဇနီး ဆွန်ယာ တော်လ်စတွိုင်းဟာ တော်လ်စတွိုင်းအဖို့ ဉာဏ်ကွန့်မြူးမှုအပေါင်းကို လှုံ့ဆော်ပေးတဲ့ အံ့ဩစရာ ရေသောက်မြစ်တစ်ခုလည်း ဖြစ်ပါတယ်။ တော်လ်စတွိုင်း ဒီလောက်ကောင်းတဲ့ စာပေတွေ ဝတ္ထုကြီးတွေကို ရေးနိုင်တာဟာ သူ့ဇနီး ဆွန်ယာရဲ့ ကျေးဇူးကြောင့် ဖြစ်ပါတယ်။

တော်လ်စတွိုင်းကို ဝတ္ထုရေးဆရာကြီးတစ်ယောက်ဖြစ်အောင် လုပ်ပေးလိုက်သူဟာ သူ့ဇနီး ဆွန်ယာဖြစ်ပါတယ်။ 'စစ်နှင့် ငြိမ်းချမ်းရေး' ဝတ္ထုကြီးကို ရေးဖြစ်အောင် သူပဲ အားပေးခဲ့ပြီး အဲဒီဝတ္ထုကြီးအတွက် လိုအပ်တဲ့ အံ့ဩစရာကောင်းတဲ့ အချက်အလက်များကိုလည်း သူပဲ ရှာပေးခဲ့ပါတယ်။ သူ့ဇနီး ဆွန်ယာဟာ စိတ်ရှည်မှု၊ သတ္တိရှိမှု တို့ဖြင့် ဒီလောက်ရှည်လျား ထွေပြားတဲ့ ဝတ္ထုကြီးကို အကြိမ်ကြိမ်အဖန်ဖန် ရေးကူးပေးခဲ့ပါတယ်။ ဒီလို အချောကူးပေးရင်း တစ်ဖက်မှာလည်း သူတို့ကလေးငယ် ၁၃ ယောက်ကို မွေးမြူရ၊ ပြုစုရ၊ စောင့်ရှောက်ရပါသေးတယ်။ တစ်ပြိုင်နက်တည်းမှာပဲ သူတို့စံအိမ်ကြီးကို စီမံအုပ်ချုပ်ရ၊ ခန့်ခွဲရ၊ သူတို့ရဲ့ ပိုင်စားနယ်မြေထဲက လယ်ယာတွေကို အုပ်ချုပ်ရ၊ စီမံရတာတွေလည်း လုပ်ရပါသေးတယ်။ သူ့ယောက်ျားက 'အင်နာကရီးနီးနား' ဝတ္ထုကြီးကို စရေးတော့ 'မနေ့ကပဲ ဝတ္ထုကြီးတစ်ပုဒ် စရေးနေတယ်လေ၊ ဝမ်းသာလိုက်တာ မပြောပါနဲ့တော့ရှင်' လို့ ဂုဏ်ယူဝင့်ကြွားတဲ့ ပီတိနဲ့ ပြောခဲ့ပါတယ်။

ဒီစကားမျိုး ကြားရရုံနဲ့ ကျွန်တော်တို့ဟာ စာရေးဆရာ့ဇနီးပီသတဲ့ သူ့ကို ကျေးဇူးတင်ဖို့ ကောင်းနေပါပြီ။

ဒါပေမယ့် တစ်ခြားကိစ္စတွေမှာတော့ သူ့ဇနီး ဆွန်ယာဟာ သူ့ခင်ပွန်းတော်လ်စတွိုင်းနဲ့ အမြဲ ပဋိပက္ခဖြစ်နေရပါတယ်။ တော်လ်စတွိုင်းက သူဟာ ခရစ်ယာန်တစ်ယောက်ဖြစ်လေတော့ ခရစ်ယာန်တစ်ယောက် ပီသစွာနေဖို့၊ ဆင်းရဲနွမ်းပါးစွာနေဖို့၊ သူပိုင်ပစ္စည်းတွေကို ဆင်းရဲသား လယ်သမားတွေကို ခွဲဝေပေးဖို့၊ သူ့ဝတ္ထုတွေက ရတဲ့ မူပိုင်ခွင့်တွေကို စွန့်လွှတ်ဖို့လိုတယ်လို့ ယူဆပါတယ်။ အိမ်မှာ အိမ်စေတွေ တစ်လှေကြီးနဲ့ စည်းစိမ်နဲ့ အနေခိုင်းတဲ့အတွက် သူ့ဇနီးကို သူ အပြစ်တင်ပါတယ်။ လောကကြီးမှာ ဆင်းရဲသားတွေ မှိုလိုပေါက်နေချိန်မှာ ကလေးတွေကို ပျော်ပါးမြူးထူးစေ တာမျိုးကိုလည်း သူက အပြစ်ဆိုပါတယ်။

'သူ့စေတနာတွေကတော့ ကောင်းပါတယ်၊ မြင့်မြတ်ပါတယ်၊ ဒါပေမယ့် ဒါတွေကိုမြင်ရလေလေ ကျွန်မဟာ သူ့ထက် အဆင့်အတန်းနိမ့်ကျ

လုပါလားဆိုတာ မြင်လာလေလေပါပဲ။ ဒါပေမယ့် ခက်တာက ဘဝမှာ သူပြော သလိုချည်းပဲ နေလို့ဖြစ်မှ မဖြစ်တာကလား၊ သူနဲ့ ကျွန်မတို့ကြားက ကွဲလွဲ ချက်ကြီးဟာ အခြေခံကွဲလွဲတာမျိုးဆိုတော့ ဒီကွဲလွဲချက်ကို ဖြေရှင်းနိုင်တဲ့ နည်း လမ်း ဘယ်မှာ ရှိနိုင်ပါ့တော့မလဲ’ လို့ ဆွန်ယာက သူ့အစ်မဆီကို ရေးခဲ့ဖူးပါ တယ်။

ဟုတ်တာပေါ့။ နည်းလမ်းရယ်လို့ ဘယ်မှာရှိနိုင်ပါ့မလဲ။

ကလေးတွေကို စာသင်ပေးရဦးမယ်။ ဒီအထဲမှာ တော်လ်စတွိုင်း ကလည်း အိမ်မှာ ဧည့်သည်တွေကို ဖိတ်ပြီး ကျွေးတာမွေးတာတို့ကလည်း တစ်ရက်မှ ပြတ်တယ်လို့မရှိဘူး။ အိမ်လာပြီး တည်းခိုတဲ့ ဧည့်သည်ကလည်း မနည်းဘူး။ မနည်းတဲ့အပြင် တစ်ဖြည်းဖြည်း ပိုလို့ပိုလို့ များလာတယ်။ သူတို့ အတွက် ဆွန်ယာမှာ စားဖို့သောက်ဖို့ စီမံရ၊ အိပ်ဖို့ ပြုဖို့ ပြင်ဆင်ရနဲ့ အား တယ်လို့ပဲ မရှိပါဘူး။ တစ်ခါတလေမှာတော့ သူ့မိန်းမအပေါ်မှာ ထားတဲ့ သူ့သဘောထားဟာ မတရားဘူးဆိုတာကို တော်လ်စတွိုင်း ခဏတဖြုတ် လောက် သဘောပေါက်လိုက်တယ်။ ဒါပေမယ့် ခဏပါပဲ။ ဒါကြောင့် ‘မင်း အပေါ်မှာ ငါဆက်ဆံပုံဟာ တစ်ဖက်သတ်ကျပါတယ်ကွယ်၊ ကိုယ့်မှာ အပြစ်ရှိ ပါတယ်’ လို့ ဇနီးလုပ်သူကို ပြောတတ်ပါတယ်။ ဒါပေမယ့် ဒီလိုသဘော ပေါက်တာဟာ ခဏပါပဲ။

နောက်ပြဿနာတစ်ခုရှိသေးတယ်။ သူ့ဇနီး ဆွန်ယာက စိတ်တို တယ်။ မနာလိုတိုရှည် ဖြစ်တတ်တယ်။ တကျည်ကျည်လုပ်တတ်တယ်။ သူ လုပ်တာက နည်းနည်းပါးပါးဖြစ်တာမျိုး မဟုတ်ဘူး။ အဲဒီလိုအခါမျိုးဆိုရင် အရူးကြီးတစ်ပိုင်းလို ဖြစ်နေတယ်။ သူ့ကိုယ်သူ သတ်မယ်လို့ ခြိမ်းခြောက် တာကလည်း အကြိမ်ပေါင်း မရေနိုင်တော့ဘူး။

မိန်းမတစ်ယောက်က ဒီလောက် ကလေးတွေ တစ်ယောက်ပြီး တစ် ယောက်မွေး၊ မွေးလာတဲ့ကလေးတွေကို ပြုစုမွေးမြူ၊ ဒီအထဲမှ အိမ်မှုကိစ္စ အားလုံးကိုလည်း တာဝန်ယူရသေးတော့ ဒီလိုမိန်းမတစ်ယောက်ကို အပျော် မယားလို သဘောထားတာမျိုးဟာ တရားရာရောက်ပါ့မလား။ ကျိုးကြောင်း ဆီလျော်ပါ့မလား။ ဒါပေမယ့် တော်လ်စတွိုင်းကတော့ သူ့ဘဝ တစ်လျှောက် လုံးမှာ သူ့ဇနီးကို အဲဒီလို သဘောထားခဲ့တယ်။ တစ်ပြိုင်နက်တည်းမှာ သား သမီးတွေရဲ့ မိခင်၊ အိမ်ရှင်မလိုလည်း ဖြစ်ရမယ်။ အပျော်မယားများလိုလည်း ဆန္ဒကို ဖြည့်စွမ်းနိုင်ရမယ်လို့ သူ့ဇနီးသည်ကို တောင်းဆိုခဲ့တယ်။ ဇနီးသည် ဆီမှာ အဲဒီအရည်အချင်း နှစ်မျိုးစလုံး ရှိရမယ်လို့ သူ ယူဆခဲ့တာဟာ အသက် ၆၀ ရောက်သည်အထိပါပဲ။ ဒီလိုမှမဟုတ်ရင်လည်း သူ့ဇနီးနဲ့ နေထိုင်တဲ့အခါ

မှာ ဗြဟ္မစရိယ အကျင့်ကို ကျင့်ကြံသင့်သလားဆိုတာကို စဉ်းစားပါတယ်။ ၁၈၈၈ ခုနှစ်မှာ တော်လ်စတွိုင်းဟာ အိမ်ထောင်ရေးကိစ္စထဲက အဲဒီပြဿနာတွေကို စဉ်းစားနေခဲ့ပါတယ်။ 'ကရုဇာဆိုနာတာ' ဝတ္ထုဟာ အဲဒီနာကျင်တဲ့ အတွေးတွေထဲက ပေါ်ထွက်လာခဲ့တာပါ။

'ကရုဇာဆိုနာတာ' ဝတ္ထုရဲ့ အကြောင်းအရာကို ရှင်မဿဲခရစ်ဝင်ထဲက စာတစ်ကြောင်းနဲ့ စတင်ဖော်ပြထားပါတယ်။ 'ငါဆိုသည်ကား ကိလေသာစိတ်နှင့် သူ့မယားကို ကြည့်သောသူသည် စိတ်နှလုံးထဲ၌ ထိုမိန်းမနှင့် ပြစ်မှားပြီ' ဆိုတဲ့ စာပိုဒ်နဲ့ ဖွင့်ထားပါတယ်။ မိမိရဲ့ဇနီးပင်ဖြစ်စေတော့ ဒီအတိုင်း သဘောထားရမယ်။ 'ရမ္မက်တကာတို့အနက် အဆိုးဆုံးရမ္မက်သည် အိမ်ထောင်သည်တို့၏ ရမ္မက်ဖြစ်ပေ၏' လို့ သူက ရေးခဲ့ပါတယ်။ နိဂုံးချုပ်မှာလည်း ဝတ္ထုထဲမှာ တစ်လျှောက်လုံး သူတင်ပြသွားခဲ့တဲ့ အချက်ကို ထပ်မံတင်ပြပြန်ပါတယ်။ 'ကရုဇာ ဆိုနာတာ' ဝတ္ထုဟာ သူ ပြဿနာတစ်ခုကို တင်ပြတဲ့ ဝတ္ထုတစ်ပုဒ်ဖြစ်ပါတယ်။

အဲဒီဝတ္ထုမှာ တော်လ်စတွိုင်း ဆင်ခြင်တဲ့ ပြဿနာကတော့ . . .

(၁) ယောကျ်ားတွေဟာ ကျန်းမာရေးကို ထိန်းသိမ်းဖို့အတွက် ဖိုမဆက်ဆံရေးဘဝဟာ လိုအပ်တယ်လို့ ပြောလေ့ရှိကြတယ်။ ဒီအယူအဆဟာ မှားတယ်။ ဇနီးတစ်ယောက်ဟာ သားသမီးမွေးဖွားဖို့ ရည်ရွယ်ချက်နဲ့ပဲ ယောကျ်ားနဲ့ ပေါင်းဖော်သင့်တယ်။ ဒီလို သားသမီး မွေးမြူတဲ့နေရာမှာလည်း ကိုယ်ဝန်ဆောင်ချိန်နဲ့ နို့ချိုတိုက်ကျွေးရချိန် ပါဝင်တဲ့အတွက် နှစ်နှစ်ကို သားသမီးတစ်ယောက်ကျလောက်ပဲ ဖြစ်သင့်တယ်။ ယောကျ်ားဟာလည်း ဒီလောက်နဲ့ပဲ တင်းတိမ်ရောင့်ရဲသင့်တယ်။ ဒီနည်းအားဖြင့် မိမိရဲ့ အာရုံကြောဆိုင်ရာနဲ့ ကိုယ်ခန္ဓာဆိုင်ရာ ကျန်းမာရေးတို့ကို ဟန်ချက်ညီအောင် ထိန်းထားသင့်တယ်။

(၂) အဟိတ်တိရစ္ဆာန်သဖွယ်ဖြစ်တဲ့ ကိလေသာကာမစိတ်ကို ကဗျာဆန်တဲ့ စကားလုံးတွေနဲ့ ဖုံးကွယ်ဟန်ဆောင်နေတာဟာ မှားတယ်။ လူတွေဟာ ကဗျာဆရာတွေမဟုတ်ဘဲ အဟိတ်တိရစ္ဆာန်တွေသာ ဖြစ်တယ်ဆိုတဲ့ အချက်ကို အသိအမှတ်ပြုရမယ်။

(၃) မိန်းမကို ပျော်စရာ ကိရိယာတန်ဆာပလာတစ်ခုအဖြစ် သဘောထားတာဟာ အကျင့်ပျက်မှုနှင့် စည်းစိမ်ခံတို့ရဲ့ အကြောင်းတရားဖြစ်တယ်။ အဗြဟ္မစရိယအကျင့်ဟာ ဗြဟ္မစရိယအကျင့်ကို ကျင့်တဲ့နေရာမှာ အတားအဆီး အနှောင့်အယှက် တစ်ခုသာဖြစ်တယ်။

(၄) ဝတ္ထုများ၊ ကဗျာများကို ဖတ်ခြင်းကြောင့် ကာမဂုဏ် အာရုံတို့ကို နိုးကြွစေတယ်။ ဒီလို နိုးကြွစေတဲ့အတွက် မိန်းမကို ဖောက်ပြားစေပြီး ယောကျ်ားကို မနာလိုစိတ်ပွားများစေတယ်။

'ကရုဇာဆိုနာတာ' ဝတ္ထုဟာ ဒီအချက်တွေကို ပေါ်အောင် ဇာတ်လမ်းဖွဲ့ထားတဲ့ ဝတ္ထုဖြစ်ပါတယ်။ ဒီဝတ္ထုကို ရေးဖို့ စိတ်ကူးရတာက ၁၈၈၇ ခုနှစ်မှာပါ။ အစတုန်းက ဝတ္ထုရဲ့နာမည်က ဒီနာမည်မဟုတ်ပါဘူး။ အဲဒီထဲက ဇာတ်လိုက်ဟာလည်း ဂီတသမားမဟုတ်ဘဲ ပန်းချီဆရာတစ်ယောက်ပါ။ လင်ရှိမိန်းမနဲ့ ဖောက်ပြားတဲ့သူဟာလည်း ဂီတသမားမဟုတ်ပါဘူး။ ပန်းချီဆရာတစ်ယောက်ပါ နောက်တော့မှ ဂီတဆရာအဖြစ် ပြောင်းရေးလိုက်တာပါ။

တော်လ်စတွိုင်းဟာ ဒီဝတ္ထုကို ရေးရာမှာ သူ့ရဲ့ အိမ်ထောင်ရေးဘဝကို ရည်ရွယ်ပြီး ရေးလိုက်တာလား။

*  *  *

# တော်လ်စတွိုင်း၏
# အိမ်ထောင်ရေးအမြင်

'ကရုဇာဆိုနာတ' ဝတ္ထုထဲတွင် ကျွန်ုပ်ဖော်ပြခဲ့သော အတွေးအခေါ်များမှာ ကျွန်ုပ်၏ အတွေးအခေါ်ချည်း မဟုတ်ပေ။ ဝတ္ထုစိတ်ကူးရလာခြင်းမှာ ဂုဏ်သရေရှိ အမျိုးသမီးတစ်ဦးထံမှ ရေးလိုက်သော စာတစ်စောင်ကြောင့်ဖြစ်သည်။ ဂုဏ်သရေရှိ အမျိုးသမီးက မိန်းမတို့မှာ ယောကျာ်းတို့၏ အလိုဆန္ဒကို ဖြည့်စွမ်းနေရသည့် ကျေးကျွန်သဖွယ်ဖြစ်နေကြောင်းဖြင့် ထိုစာတွင်ဖော်ပြထားသည်။ ထို့ပြင် သူတစ်ပါး မယားကို မျက်စိဖြင့်ပင် မပြစ်မှားနှင့်ဆိုသော ရှင်မဿဲ ခရစ်ဝင်ကျမ်းပါ အဆိုအမိန့်နှင့် ပတ်သက်၍ ဖော်ပြထားသော ကျွန်ုပ်၏ ဝေဖန်ချက်မှာလည်း ကျွန်ုပ်ကိုယ်ပိုင် ဝေဖန်ချက်မဟုတ်ပါ။ အင်္ဂလိပ်လူမျိုး မိတ်ဆွေတစ်ယောက်၏ ဝေဖန်ချက်ဖြစ်ပါသည်။ ကျွန်ုပ်၏ဝတ္ထုကို ဖတ်ရသည့်အခါတွင် ဝတ္ထုသည် ထိုမျှ နာကျည်းဖွယ်ကောင်းသောဝတ္ထုဖြစ်နေသဖြင့် သူကိုယ်တိုင်ပင် အံ့အားသင့်နေမိသည်ဟု ဆိုပါသည်' လို့ တော်လ်စတွိုင်းက 'ကရုဇာဆိုနာတာ' ဝတ္ထုဟာ သူတို့ဇနီးမောင်နှံရဲ့အကြောင်းမဟုတ်ဘူးလို့ သူ့ရဲ့ မှတ်တမ်းထဲမှာ ငြင်းခဲ့ပါတယ်။

ဒါပေမယ့် ဘယ်လိုပဲငြင်းငြင်း ယာယီအားဖြင့် ဖြစ်စေ၊ သူကိုယ်တိုင်မှာလည်း အဲဒီလိုခံစားချက်တွေ၊ အတွေးတွေရှိခဲ့တယ်လို့ ထင်ပါတယ်။ ဒီလို အတွေးမျိုးမရှိပဲနဲ့ ဒီလောက် ပီပြင်အောင်ရေးနိုင်ဖို့ မလွယ်ပါဘူး။

သဘာဝကျစွာပဲ သူ့ဝတ္ထုကို ဖတ်ရတဲ့အခါမှာ ဇနီးသည်ဟာ တော်တော် အလန့်တကြားဖြစ်သွားပါတယ်။ စာအုပ်ကို ဖတ်ပြီး 'စက်ဆုပ်စရာကောင်းလိုက်တာ' လို့ မှတ်ချက်ချပါတယ်။ ဝတ္ထုထဲက အဖြစ်အပျက် တော်တော်များများဟာ သူတို့ရဲ့ အိမ်ထောင်ရေးဘဝနဲ့ တူပါတယ်။ သူ့ ဇနီးရဲ့ သိက္ခာကိုလည်း အများကြီးထိခိုက်ပါတယ်။ ၁၈၈၇ ခုနှစ်မှာ ဒီစာအုပ်ကို ပုံနှိပ်ထုတ်ဝေခြင်းမပြုဖို့ သူ့ယောက်ျားဆီက ကတိရပါတယ်။ ၁၈၈၉ ခုနှစ် တစ်ညနေမှာ သူတို့အိမ်မှာ ညှော့ခံပွဲတစ်ပွဲ လုပ်တယ်။ အဲဒီညှော့ခံပွဲကို လာတဲ့ဧည့်သည်တွေထဲမှာ နာမည်ကျော် ပန်းချီဆရာ ရေပင်နဲ့ နာမည်ကျော် မင်းသား အွန်ဒရေဘားလက်တို့လည်း ပါတယ်။ တော်လ်စတွိုင်းရဲ့ သားကြီး ဆာဂျိနဲ့ တယောဆရာတစ်ယောက်တို့က ဘီသိုဗင်ရဲ့ 'ကရုဇာ ဆိုနာတာ' သီချင်းခံ့ကြီးကို တီးကြတယ်။ တော်လ်စတွိုင်းဟာ တော်တော် အာရုံဝင်စားသွားပြီး 'အဲဒီ ဆိုနာတာ သီချင်းခံ့ကြီးအကြောင်းကို ကျုပ် ဝတ္ထုတစ်ပုဒ်ရေးမယ်ဗျ၊ ခင်ဗျားက ပန်းချီရေးပေး၊ ဘားလက်က ဖတ်ပြလိမ့်မယ်' လို့ ပန်းချီဆရာ ရေပင်ကို ပြောတယ်။

အဲဒီနောက်မှာ ဝတ္ထုထဲက သူ့ဇာတ်လိုက်ကို ဂီတဆရာအဖြစ် ပြောင်းပစ်လိုက်တယ်။ သူ့စာအုပ်ကို ဆင်ဆာက ခွင့်မပြုဘူး။ ဒါပေမယ့် စိန့်ပီတာ(စ်)ဘတ်နဲ့ မော်စကိုမှာတော့ လှည့်ဖတ်ကြတယ်။ အလွန် စိတ်ဝင်စားကြတယ်လို့ ဆိုပါတယ်။ လူချင်းတွေ့ရင် 'ကရုဇာဆိုနာတာ' ကို ဖတ်ပြီးပြီလား' လို့ မေးကြတယ်လို့ ဆိုပါတယ်။

ဇနီးသည် ဆွန်ယာက ဒီဝတ္ထုဟာ သူတို့အကြောင်းကို ရေးထားတာလို့ ထင်ကြတော့မှာပဲ။ ဒါကြောင့် သားသမီးတွေရဲ့ မျက်နှာကိုထောက်ပြီး သူ့ဂုဏ်သိက္ခာကို ဆယ်မှဖြစ်မယ်လို့ ယူဆတယ်။ ဒါကြောင့်မို့ သူကလည်း အတ္ထုပ္ပတ္တိဆန်တဲ့ ဝတ္ထုတစ်ပုဒ်ရေးတယ်။ ဝတ္ထုရဲ့နာမည်က 'ဘယ်သူ့အပြစ်လဲ' တဲ့။ အဲဒီဝတ္ထုထဲမှာ ပျော်ပျော်နေတတ်ပြီး ဘာသာတရားကိုင်းရှိုင်းတဲ့ မှူးမတ်သမီးပျိုကလေးတစ်ယောက် အလိုရမ္မက်ကြီးတဲ့ မင်းသားတစ်ပါးနဲ့ စေ့စပ်ကြောင်းလမ်းကြတယ်။ သူတို့နှစ်ယောက် လက်ထပ်လိုက်တဲ့အခါမှာ ရမ္မက်ကြီးလွန်းတဲ့ ယောက်ျားမှန်းသိသွားပြီး မိန်းကလေးဟာ သူ့ယောက်ျားကို မုန်းတီးသွားတယ်။ အဲဒီအတောအတွင်းမှာ ပန်းချီဆရာ တစ်ယောက်ပေါ်လာပြီး မိန်းကလေးကို စိတ်ကူးယဉ်အချစ်နဲ့ ချစ်ရေးဆိုတယ်။ ရမ္မက်ကြီးပြီး မနာလိုတတ်တဲ့၊ ရိုင်းစိုင်းတဲ့ ယောက်ျားက ပန်းချီဆရာကို သတ်ပစ်လိုက်တယ်။ အမှန်ကတော့ သူ့ဇနီးနဲ့ ပန်းချီဆရာဟာ ဘာမှ ကျူးကျူးလွန်လွန် ဖြစ်ကြတာမဟုတ်ဘဲ စိတ်ကူးယဉ်အချစ်လောက်ပဲ ရှိကြတာ။

အဲဒီဝတ္ထုကို ရေးပြီး ပုံနှိပ်ထုတ်ဝေမယ်လုပ်တော့ မိတ်ဆွေတွေက မထုတ်ဖို့ ဆွန်ယာကို အမျိုးမျိုးဖျောင်းဖျကြတယ်။ ဒီအဖြစ်အပျက်ဟာ သူ့အဖို့ အလွန် စိတ်ထိခိုက်စရာကောင်းတဲ့အတွက် သူ့မှတ်တမ်းမှာ တော်လ်စတွိုင်းရဲ့ဇနီးက ဒီလိုရေးခဲ့တယ်။

'သူ့ဝတ္ထု (တော်လ်စတွိုင်းရဲ့ဝတ္ထု) ဟာ ငါ့ကို စောင်းမြောင်းရေးတာပဲလို့ ထင်တယ်။ ငါ သိပ်စိတ်ထိခိုက်ရတယ်။ ဒီအတိုင်းဆို ပတ်ဝန်းကျင်အသိုင်းအဝိုင်းတစ်ခုလုံးက ငါ့ကို ပြောကြတော့မှာပဲ။ တို့နှစ်ယောက်ရဲ့ကြားမှာ ရှိတဲ့အချစ်ဟာလည်း ကုန်ခမ်းပြီး ဘယ်တော့မှ ပြန်ရနိုင်တော့မှာ မဟုတ်တော့ဘူး။ ဒီဝတ္ထု (တော်လ်စတွိုင်းရဲ့ဝတ္ထု) ကိုသာဖတ်မိပြီး သူဟာ အလိုရမ္မက်ကြီးတဲ့လူဆိုတာ စာဖတ်ပရိသတ်တွေ နားလည်သွားကြလျှင် သူ့ကို လေးစားရာကနေပြီး ရှုတ်ချကဲ့ရဲ့ ကြတော့မှာပဲ။ ဟုတ်တယ်။ ငါဟာ သူ့ကိုချစ်နေသေးတယ်။ သူအားနည်းနေတဲ့အချိန်၊ သာမန်အချိန်တွေမှာ ငါ သူ့ကိုချစ်တယ်။ တိရစ္ဆာန်တစ်ကောင်ဖြစ်ရတာ မကောင်းဘူး။ ဒါထက် ကိုယ်မလိုက်နာနိုင်တဲ့တရားတွေကိုတော့ ဟောပြောနေတာက ပိုပြီးတောင် ဆိုးပါသေးတယ်' လို့ ရေးထားတယ်။

ဘယ်လိုပဲဖြစ်ဖြစ် လူတွေကတော့ 'ကရုဇာဆိုနာတာ' ဝတ္ထုမှာ တော်လ်စတွိုင်းရဲ့ အိမ်ထောင်ရေးဘဝကို ရေးထားတာပဲလို့ မြင်နေကြတယ်။ ဒါကြောင့်မို့ တော်လ်စတွိုင်းရဲ့ ဇနီးသည်ဟာ ဇာဘုရင်ဆီ အခစားဝင်ပြီး တော်လ်စတွိုင်းရဲ့စာအုပ်ကို ဆင်ဆာရဲ့တားမြစ်မိန့်ကို ပယ်ဖျက်ပေးဖို့ လျှောက်ထားဖို့ ဆုံးဖြတ်လိုက်တယ်။ သူ့စိတ်ကူးက သူကိုယ်တိုင်က ဒီစာအုပ်ကို ထုတ်ဝေခွင့်ပြုဖို့ လျှောက်ထားတယ်ဆိုရင် ဒီအထဲမှာပါတဲ့ အကြောင်းတွေဟာ သူ့အကြောင်းတွေမဟုတ်ဘူးလို့ လူတွေက ထင်ကြမှာပဲ။ ဒီနည်းအားဖြင့် သူနဲ့ ဘာမှမဆိုင်ဘူးဆိုတာ ငြင်းပြီးသားဖြစ်မှာပဲလို့ ယူဆတယ်။ ဇာဘုရင်ကလည်း သူ့ကို ယဉ်ကျေးစွာ ကြိုဆိုတယ်။ ဆွန်ယာက ဆင်ဆာက တားမြစ်မိန့်ကြောင့် သူ့ခင်ပွန်းသည် တော်လ် စတွိုင်းဟာ အလုပ်လုပ်လို့ မဖြစ်တဲ့အကြောင်း၊ ဒီနည်းအားဖြင့် နောက်ထပ် 'စစ်နဲ့ငြိမ်းချမ်းရေး' လို ဝတ္ထုမျိုးတွေ မထွက်နိုင်တော့ပဲ စာပေလောကအဖို့ နစ်နာဆုံးရှုံးခြင်းဖြစ်ရကြောင်း စသဖြင့် လျှောက်တင်တယ်။ တတိယမြောက် ဇာဘုရင်ဟာ တော်လ်စတွိုင်းရဲ့ စာပေဩဇာကို ကြောက်ပေမယ့် စာတမ်း အတိုအထွာကလေးတွေအစား ဝတ္ထုကြီးတွေရေးတာ ကောင်းတယ်လို့ ယူဆ တဲ့အတွက် 'ကရုဇာဆိုနာတာ' ဝတ္ထုကို သူ့ရဲ့ ဝတ္ထုပေါင်းချုပ်ထဲမှာ ထည့်သွင်းခွင့်ပြုလိုက်တယ်။ ဇနီးသည် ဆွန်ယာလည်း တော်တော်ကျေနပ်သွားပြီပေါ့။ ဒါပေမယ့် တော်လ်စတွိုင်းကတော့

တော်တော်စိတ်ညစ်သွားတယ်။ 'ယခုမှ ကျွန်ုပ်သည် ထိုစာအုပ်ကို စက်ဆုပ်ခြင်း ဖြစ်တော့သည်' လို့ ရေးခဲ့တယ်။ ၁၈၉၀ ပြည့် ဒီဇင်ဘာလလောက်ကျတော့ ဆွန်ယာဟာ သူ့မှာ နောက်ထပ် ကိုယ်ဝန်ရှိပြန်ပြီဆိုပြီး စိတ်ညစ်နေတယ်။ 'ကရုဇာဆိုနာတာ ဝတ္ထုရဲ့ နောက်ဆက်တွဲလေ' လို့ ပြောပြီး ရယ်ကြလှောင်ကြ တော့မှာပဲလို့ စိုးရိမ်နေတယ်။

တော်လ်စတွိုင်းဟာ ဗြဟ္မစရိယအကျင့်ကို ကျင့်သင့်တယ်လို့ တရား ဟောပေမယ့် ဒီတရားကို သူကိုယ်တိုင် မကျင့်သုံးနိုင်ရှာဘူး။ သို့တိုင်အောင် ဗြဟ္မစရိယအကျင့်ဟာ ကောင်းမြတ်တဲ့အကျင့်ဆိုတာကိုတော့ သူစွဲစွဲမြဲမြဲ ယုံ ကြည်နေတုန်းပါပဲ။ အိမ်မြှောင်ဟာ သင်္ဘောသွားရမယ့်လမ်းကို ညွှန်ပြနေတုန်း ပါပဲ။ မုန်တိုင်းတို့၊ အပျက်အစီးတို့ စတဲ့ မတော်တဆ အကြောင်းကြောင့် သင်္ဘောဟာ လမ်းကြောင်းက ရွေ့ကောင်းရွေ့သွားမယ်။ ဒါပေမယ့် ဒီလိုဖြစ်တဲ့ အတွက် အိမ်မြှောင်မှားတယ်လို့တော့ မပြောနိုင်ပေဘူးမပေါ့။

'လူတစ်ကိုယ်လျှင် ရည်ရွယ်ချက် တစ်မျိုးသာ ထားသင့်ပေ၏။ ယင်းမှာ မိမိ၏စရိုက်၊ မိမိ၏ စိတ်နေသဘောထား၊ မိမိ၏ အတိတ်ပစ္စုပ္ပန် အခြေအနေတို့နှင့် အညီအဖြစ်နိုင်ဆုံးသော ဗြဟ္မစရိယအကျင့် ဖြစ်ပေ၏။ အခြားသူများသည် မိမိအကြောင်းကို သိကြသည်မဟုတ်။ မိမိသာလျှင် မိမိ အကြောင်းကို အသိဆုံးဖြစ်ပေ၏။ ဘုရားသာလျှင် အသိဆုံးဖြစ်ပေ၏။ သို့ ဖြင့် မိမိတွင် ကပ်ငြိနေသော အညစ်အကြေးတို့သည် တဖြည်းဖြည်း ပျောက် ကွယ်ကာ ဘုရားသခင်နှင့်နီးစပ်သော အဖြစ်သို့ ရောက်နိုင်ပေ၏' လို့ တော် လ်စတွိုင်းက ရေးခဲ့ပါတယ်။

သူ့ရဲ့ 'သီရိဂေဟာ' နဲ့ 'ကရုဇာဆိုနာတာ' ဝတ္ထုနှစ်ပုဒ်ကို အကျဉ်း ချုပ်ပြပြီး နိဂုံးချုပ်ချင်ပါတယ်။ ပါစကယ်လိုပဲ တော်လ်စတွိုင်းကလည်း လူဟာ နတ်တမန်လည်း လုံးလုံးမဟုတ်ဘူး။ တိရစ္ဆာန်လည်း လုံးလုံးမဟုတ်ဘူးလို့ ယူဆသူဖြစ်ပါတယ်။ ရုရှားပြည်မှာ တချို့သော ဘာသာရေးဂိုဏ်းများ လုပ် လေ့ရှိသလို သင်းကွပ်တဲ့နည်းနဲ့ လူ့ရဲ့ ရာဂစိတ်ကို နှိပ်ကွပ်ခြင်းဟာ သူရဲဘော ကြောင်တဲ့အလုပ်လို့ ယူဆပါတယ်။ (ဒါကို ရုရှ အော်သိုဒေါ့ ခရစ်ယာန် ဘာသာကလည်း တရားဝင် ရှုတ်ချထားပါတယ်။) ကျွန်တော်တို့ဟာ ဘုရား သခင်ပြဌာန်းထားတဲ့ ဘောင်အတွင်းမှာ လူသားတွေလို နေထိုင်ကြရမယ်။ သို့သော်လည်း ဖိုနဲ့မ အပြန်အလှန် ဆွဲဆောင်ကြခြင်းဟာ သဘာဝနိယာမ တရားတစ်ခု ဖြစ်တယ်ဆိုလို့ရှိရင် ဒီဆွဲဆောင်မှုဟာ နာမ်ပိုင်းဆိုင်ရာ ပုံသဏ္ဌာန် ကို ဆောင်လာနိုင်တယ်။ ဒီလိုဆောင်လာခဲ့ရင် ရုပ်ပိုင်းဆိုင်ရာဆွဲဆောင်မှုထက် ပိုပြီးတန်ဖိုးရှိတယ်လို့ သူ ယူဆပါတယ်။ လူတစ်ယောက်ဟာ လက်ထပ်တော့

မယ်ဆိုရင် ဒီမိန်းမကို တိရစ္ဆာန်တစ်ကောင်ဘဝထက် လူတစ်ယောက်ဘဝကို ရောက်အောင် ဘယ်လောက်များ ကူညီနိုင်မလဲ ကိုယ့်ကိုယ်ကို မေးခွန်းထုတ်သင့်တယ်။ အိမ်ထောင်ကျတဲ့ မိန်းမတစ်ယောက်ဟာလည်း အပျော်မယားမဖြစ်စေရဘဲ မိခင်တစ်ယောက်သာ ဖြစ်စေရမယ်။ လူတစ်ယောက်ဟာ မွေးပြီးလျှင် တစ်နေ့မှာ သေသွားရသလို၊ မွေးပြီး လူဖြစ်လာလျှင် လက်ထပ်ရမယ်။ တခြားလမ်း မရှိဘူးလို့ သူ ယူဆပါတယ်။

ဒါတွေကတော့ အိမ်ထောင်ရေးဘဝနဲ့ ပတ်သက်တဲ့ တော်လ်စတွိုင်းရဲ့ အယူအဆများပဲ ဖြစ်ပါတယ်။

*     *     *

## စာပေသည် အပျော်မဟုတ်

ရုရှားစာရေးဆရာကြီး ချက်ကော့ကို လူတစ်ယောက်အနေနဲ့ နားလည်ချင်ရင် သူ့နောက်ပိုင်း ရုပ်ပုံလွှာတွေကို ကြည့်လို့မဖြစ်ပါဘူး။ ချုံးကျပြီး နွမ်းနယ်နေတဲ့ မျက်နှာ၊ ကြိုးတပ်မျက်မှန်နောက်က တောက်ပမှုကင်းတဲ့ မျက်လုံးတွေ၊ ဘူဇွာဆန်တဲ့ မုတ်ဆိတ်မွေး စုစုကလေး။ ဒါတွေဟာ တကယ့် ချက်ကော့မဟုတ်ပါဘူး။ အားကုန်မောပန်းမှု၊ နာမကျန်းဖြစ်မှုနဲ့ နီးကပ်လာနေတဲ့ သေခြင်းတရားတို့ရဲ့ အပြင်ပန်း ရုပ်သဏ္ဌာန်သာဖြစ်ပါတယ်။ ဒီတော့ ချက်ကော့ကို နားလည်ချင်ရင် သူ အသက်နှစ်ဆယ်လောက်တုန်းက ရုပ်သွင်ကို မှန်းကြည့်ဖို့ လိုပါလိမ့်မယ်။ ပွင့်လင်းရိုးသားပြီး သတ္တိရှိ မျက်လုံးတွေနဲ့ သူ့ပတ်ဝန်းကျင်လောကကြီးကို ရဲရဲကြည့်တတ်တဲ့ ချက်ကော့ရဲ့ ရုပ်သဏ္ဌာန်ကို မြင်ဖို့လိုပါတယ်။ ချက်ကော့ဟာ ဒုက္ခသုခတွေကို ခါးစည်းပြီး ရင်ဆိုင်ခဲ့ပြီးပါပြီ။ အဲဒီ ဒုက္ခတွေကြားထဲက ဖြတ်သန်းပြီး အတော်အတန် ခွန်အားရှိရှိနဲ့ ပေါ်ထွက်လာခဲ့သူပါ။ လူ့လောကကြီးရဲ့ ရှုခင်းကို ကြည့်မြင်ရာမှာ သူ့လောက် ရိုးသားဖြောင့်မတ်တဲ့ အမြင်နဲ့ ကြည့်ခဲ့သူ မရှိသေးဘူးလို့တောင် ဆိုနိုင်ပါတယ်။ သူဟာ ကြီးမြတ်တဲ့ အနုပညာရှင်ကြီး တစ်ဦး၊ ခေတ်အဆက်ဆက် တိုင်းပြည်အသီးသီးမှာ ရှိခဲ့ကြတဲ့ ကြီးမြတ်တဲ့ ပုဂ္ဂိုလ်တွေထဲက တစ်ဦးဖြစ်ပါတယ်။

တော်လ်စတွိုင်းရဲ့ ချစ်ကြည်လေးစားမှုကို ခံရပြီး သူ့ခံစားချက်တွေမှာ ဂီတဆန်တဲ့ နူးညံ့ပျော့ပျောင်းမှုရှိတဲ့အတွက် ဂီတစာဆို ရှိုပင်ကို အောက်မေ့သတိရစရာပါပဲ။ ဒါပေမယ့် သူဟာ အနုပညာတစ်ဦးထက် ပိုပါတယ်။ သူဟာ အယူမသီးဘူး၊ ဘဝမှာ နေနည်း ထိုင်နည်းနဲ့ တွေးနည်း ကြံနည်းတို့ကို ဖွင့်ပြသူ၊ သင်ကြားပေးသူ၊ လက်တွေ့ကျင့်သုံးသွားသူ ဖြစ်ပါတယ်။ သူ့ရဲ့ နေနည်း ထိုင်နည်းနဲ့ တွေးနည်း ကြံနည်းဟာ ဘယ်အခါမှ အပေါ်ယံ ဟန်ဆောင်မှုမပါဘဲ သူရဲကောင်းပီသပါတယ်။ စိတ်ပျက်စရာ အကောင်းဆုံးအချိန်တွေမှာတောင် မျှော်လင့်ချက်ကို ပေးစွမ်းနိုင်ပါတယ်။ ချက်ကော့ဟာ မားကတ်စ်ဩရဲလိယတ်စ်ရဲ့ သမိုင်းကျမ်းတွေကို ဖတ်ပြီး သူ့ကို လေးစားပါတယ်။ ဩရဲလိယတ်စ်ရဲ့ သာဝကကြီး ဖြစ်ထိုက်သည့်တိုင်အောင် သူ့ကိုယ်သူ လူအများက အဲဒီလို အပြောအဆိုမခံရအောင် နေထိုင်တတ်သူဖြစ်ပါတယ်။ နှိမ့်ချရိုကျိုးမှုဟာ သူ့အားနည်းချက်ဖြစ် ပါတယ်။

အန်တွန်ပါဗလိုဗစ်ချက်ကော့ရဲ့ ကလေးဘဝဟာ ကလေးမဟုတ်တဲ့ဘဝ ဖြစ်ပါတယ်။ သူ့ကို ၁၈၆၀ ခုနှစ်မှာ တဂန်ရော့ဆိုတဲ့ ငြီးငွေ့ဖွယ်ကောင်းတဲ့ မြို့ကလေးမှာ မွေးပါတယ်။ အဲဒီမြို့ကလေးဟာ ဟိုးရှေးတုန်းက စတက်မြက်ခင်းလွင်ပြင်ကြီးထဲက ခိုးဝှက်တိုက်ခိုက်တဲ့ နောမက် လူမျိုးစုတွေနဲ့ ဂရိပင်လယ်ဓါးပြတွေ အစဉ်အဆက် ကြီးစိုးခဲ့တဲ့နေရာပါ။ သူ့အဖေက အဲဒီမြို့ကလေးမှာ ကုန်စုံဆိုင်ကလေး တစ်ဆိုင်ဖွင့်ပါတယ်။ သူ့အဘိုးက မြေကျွန်တစ်ယောက်ဖြစ်ခဲ့ပြီး ၁၈၄၁ ခုနှစ်မှာ မြေကျွန်ဘဝက လွတ်မြောက်လာခဲ့ပါတယ်။

သူ့အဖေဟာ သူကိုယ်ပိုင်စုထားတဲ့ ပိုက်ဆံကလေးနဲ့ ဆိုင်ကလေး တစ်ဆိုင် ဖွင့်ပါတယ်။ ဆိုင်မဖွင့်ခင်မှာ အထည်ကုန်သည်တစ်ယောက်ရဲ့ သမီးနဲ့ လက်ထပ်ပါတယ်။ သူ့ဇနီးဟာ စိတ်ထားနူးညံ့တယ်။ စိုးရိမ်ပူပန်တတ်တယ်။ ကလေးတွေက သူ့ကို ချစ်ကြတယ်။ အဖေကတော့ ကြောက်စရာကောင်းပြီး သူ့ကလေးတွေနဲ့ လက်ထောက်တွေကို ရိုက်နှက်လေ့ ရှိတယ်။ အာဏာပြလေ့ရှိတယ်။ လူက ခပ်ရိုင်းရိုင်း၊ ခပ်ထန်ထန်ပေမယ့် အနုပညာမှာ အတော် အထုံဝါသနာကြီးတယ်။ ဂီတကိုချစ်တယ်။ ဘုရားကျောင်း ဝတ်ရွတ်စဉ်အဖွဲ့ကို သူပဲ ခေါင်းဆောင်တယ်။ ဘုရားပုံတော်ကားတွေကို ရေးတယ်။ 'ကျွန်တော်တို့ရဲ့ အနုပညာပါရမီဟာ အဖေ့ကျေးဇူးဖြစ်ပြီး ခံစားနိုင်စွမ်းအားကတော့ အမေ့ကျေးဇူးဖြစ်တယ်' လို့ ချက်ကော့က နောင်မှာ ပြောခဲ့ဖူးတယ်။

သူတို့မိသားစုမှာ သားငါးယောက်နဲ့ သမီးတစ်ယောက်ရှိတယ်။ အဖေမရှိတုန်းမှာ ချက်ကော့က ဆိုင်ကို ကြီးကြပ်ရတယ်။ တစ်နေ့တော့ ချက်

ကော့က ကျောင်းကပေးလိုက်တဲ့ လက်တင်ဘာသာ သင်ခန်းစာတစ်ပုဒ်ကို လုပ်နေတယ်။ ဒီတုန်းမှာ အခန်းတံခါးပွင့်လာပြီး 'ငါ အပြင်သွားလိုက်ဦးမယ်၊ အောက်ထပ်ကဆိုင်ကို ခဏဝင်ထိုင်လိုက်စမ်း' လို့ ပြောတယ်။ ချက်ကော့က မျက်ရည်လည်လည်နဲ့ 'အောက်ထပ်ဆိုင်ထဲက သိပ်အေးတယ် အဖေ၊ မနက်ဖြန်အတွက် အိမ်စာတွေကို လုပ်ရဦးမှာ' လို့ ပြောတယ်။ 'သောက်စကားများ မနေနဲ့၊ ဆိုင်ထဲမှာလည်း လုပ်လို့ရတယ်' လို့ ပြောတယ်။ ဘာတတ်နိုင်မှာလဲ။ အဖေခိုင်းတဲ့အတိုင်း လုပ်ရတာပေါ့။ ဒါနဲ့ အောက်ထပ်က ဆိုင်ထဲကို ဆင်းလာပြီး ဆပ်ပြာသေတ္တာတစ်လုံးပေါ်မှာ ထိုင်ရင်း အိမ်စာတွေကို လုပ်တယ်။ အေးလွန်းတော့ ရှေ့မှာချထားတဲ့ မင်အိုးတောင် ခဲနေပြီ။ ဒီနည်းအားဖြင့် ကမ္ဘာမှာရှိတဲ့ အရိုးဖြောင့်ဆုံး စာရေးဆရာဟာ ငယ်ငယ်ကလေးနဲ့ အသေးစား အရောင်းအဝယ်လုပ်ငန်းရဲ့ မရိုးဖြောင့်မှုကို သိလာခဲ့ရတယ်။ အစားတစ်လုပ်တုတ်တစ်ချက်နဲ့ ဘဝကို သိလာခဲ့ရတယ်။

ပြီးတော့ ဘုရားကျောင်းမှာ ဝတ်ရွတ်စဉ် ဆိုရတာရှိသေးတယ်။ သူ့အဖေဟာ ဘာသာရေး တော်တော်ကိုင်းရှိုင်းတယ်။ ကြည့်လိုက်ရင် ဘုရားပုံတော်ကားတွေရှေ့မှာ အမြဲ ဝတ်ပြုဆုတောင်းနေတာပဲ။ သူ့ရှေ့ရောက်ရင် လူတိုင်း ဒူးတုန်နေကြတယ်။ ကလေးတွေကို ရိုက်ရင် စိတ်ထားနူးညံ့တဲ့ အမေက ကန့်ကွက်တတ်တယ်။ 'ငါ ငယ်ငယ်တုန်းကလည်း ဒီလိုပဲ အရိုက်ခံခဲ့ရတာပဲ၊ ဒီလို အရိုက်ခံခဲ့ရလို့ လူတစ်လုံး သူတစ်လုံး ဖြစ်လာတာကွ၊ ကောင်းကောင်း အရိုက်အနှက်ခံခဲ့ရတဲ့ လူတစ်ယောက်ဟာ အရိုက်အနှက်မခံရတဲ့ လူနှစ်ယောက်ထက် အဖိုးတန်တယ်' လို့ ပြောတတ်တယ်။

အဲဒီလို ဆုံးမသွန်သင်မှု မျိုး ကြားထဲကနေပြီး ချက်ကော့ဟာ သနားကရုဏာကို နားလည်သဘော ပေါက်လာခဲ့တယ်။ ဈေးဆိုင်ထဲမှာ ဈေးထိုင်ရောင်းရင် လူပေါင်းစုံ၊ စရိုက်ပေါင်း စုံနဲ့ တွေ့ရတယ်။ ဘုရားကျောင်းရောက်ရင် ဘုန်းကြီးပေါင်းစုံ၊ ဓမ္မကထိကပေါင်းစုံနဲ့ တွေ့ရတယ်။ သူတို့ရဲ့အထူးဝေါဟာရတွေကို သူ့စိတ်ထဲမှာ သိုလှောင်သိမ်းဆည်းထားတယ်။ သူမသိပေမယ့် ဒီအတွေ့အကြုံတွေဟာ ဝတ္ထု ရေးဆရာတစ်ယောက်အဖို့ အဖိုးတန်တဲ့ အလုပ်သင်စခန်းပါပဲ။

ကျေးကျွန်မှာတောင်မှ ပျော်စရာအချိန်ရယ်လို့ ရှိပါသေးတယ်။ ချက်ကော့တို့ မိသားစုဟာလည်း အဖေက ရိုက်နှက်ဆုံးမတာကို ခံရသည့်တိုင် တိုးတက်ဖွံ့ဖြိုးလာခဲ့ကြပါတယ်။ သူတို့မှာ အတုယူ လှောင်ပြောင် ကဲ့ရဲ့တဲ့ ဉာဉ် (ဒါဟာ ပြဇာတ်ရဲ့ သန္ဓေသားအဆင့်လို့ ဆိုနိုင်ပါတယ်။) နဲ့ ဟာသဉာဏ်ရှိကြတယ်။ အသက်ဆယ့်ငါးနှစ် အရွယ်လောက်သာရှိသေးသည့်တိုင်

ချက်ကော့ဟာ ကျောင်းမဂ္ဂဇင်းမှာ စာတိုပေစတွေကို ရေးနေပါပြီ။ ရယ်စရာ ပုံတိုပတ်စကလေးတွေကို သူငယ်ချင်းတွေနဲ့ ပေါင်းပြီး ရေးနေပါပြီ။ တကယ်ကတော့ လူတော်တော်များများလိုပဲ ချက်ကော့ဟာ တစ်ချိန်တည်းမှာ အဆင့်နှစ်ဆင့်မှာ နေထိုင်သူဖြစ်ပါတယ်။

အဲဒီအဆင့်တွေကတော့ အပျော်နဲ့ အလွမ်းဆိုတဲ့ အဆင့်နှစ်ဆင့်ပါပဲ။ ၁၈၇၆ ခုနှစ်ရောက်တော့ သူ့အဖေရဲ့ စီးပွားရေးလုပ်ငန်းဟာ အခြေအနေဆိုးလာတယ်။ တဂန်ရော့က အိမ်ကို ရောင်းရတော့မယ်။ ဒါနဲ့ သူတို့မိသားစုဟာ မော်စကိုကို ပြောင်းလာခဲ့ကြတယ်။ ဒါပေမယ့် ချက်ကော့ကတော့ ကျောင်းတန်းလန်းနဲ့မို့ တဂန်ရော့မှာ နေခဲ့ရတယ်။ ကျောင်းလခ ရအောင်ဆိုပြီး စာပြရတယ်။ ချက်မြုပ်ခဲ့တဲ့ အိမ်ကလေးကို ရောင်းလိုက်ရတာဟာ ချက်ကော့အဖို့ တော်တော်ကြေကွဲစရာကောင်းတဲ့ ထိုးနှက်ချက် တစ်ခုပါပဲ။ အဲဒီဝေဒနာရဲ့ ဝေးလံတဲ့ ပဲ့တင်သံကို သူ့ရဲ့ 'ချယ်ရီခြံ' ဆိုတဲ့ ပြဇာတ်မှာ တွေ့နိုင်ပါတယ်။

ဒုက္ခဟာ အရွယ်မတိုင်ဘဲနဲ့ ရင့်ကျက်မှုကို မွေးဖွားပေးတတ်ပါတယ်။ ချက်ကော့ဟာ ငယ်ငယ်ကလေးနဲ့ အောက်ကျနောက်ကျဖြစ်ရတယ်။ ဒုက္ခ သုခတွေ တွေ့ရတယ်။ သူ့မှာ လူ့ဂုဏ်သိက္ခာ ကျဆင်းရတယ်လို့ ထင်တယ်။ ဒါကြောင့် သူ့မှာ လူ့ဂုဏ်သိက္ခာရှိတယ်ဆိုတဲ့ အချက်ကို ယုံကြည်ဖို့ အကြောင်းတွေကို လိုက်ရှာတယ်။ ဘယ်မှာသွားရှာသလဲဆိုတော့ ကမ္ဘာမှာရှိတဲ့ စာပေတွေထဲမှာ လိုက်ရှာတယ်။ အသက်ဆယ့်ခြောက်နှစ်တုန်းက သူ့အစ်ကိုဆီရေးတဲ့ စာတစ်စောင်ထဲမှာ ဒီလိုရေးခဲ့တယ်။

'ခု ငါ ဒွန်ကွိဇုတ်ကို ဖတ်နေတယ်၊ (တော်တော်ကောင်းတဲ့ စာအုပ်ပဲ၊ ဆာဗင်တီးစ်ဆိုတဲ့ စာရေးဆရာကြီးရေးတာ၊ သူ့ကို ရှိတ်စပီးယားနဲ့ တစ်တန်းတည်းထားကြတယ်။) ဒီတော့ တို့ညီအစ်ကိုတွေ ဟင်းမလက်ပြဇာတ်နဲ့ တူရဂီးနက်ရဲ့ ဒွန်ကွိဇုတ်ကို ဖတ်ကြည့်ကြစေချင်တယ်'

သူ့ညီငယ် မာရှာဆီကို ရေးတဲ့စာတစ်စောင်ထဲမှာတော့ . . .

'ညီလေး မာရှာ၊ မင်းစာကိုရတယ်၊ လက်ရေးကောင်းတယ်၊ သဒ္ဒါလည်း မမှားဘူး၊ ဒါပေမယ့် မင်းစာထဲမှာ ငါမကြိုက်တာ တစ်ချက်တော့ ရှိတယ်၊ စာရဲ့အဆုံးမှာ ဘာဖြစ်လို့ (သင်၏ အရေးပါအရာရောက်ခြင်း မရှိသော ညီငယ်ကလေး) လို့ ရေးထားရတာလဲ၊ ဘုရားသခင် မျက်စိထဲမှာတော့ ဟုတ်ချင်ဟုတ်မှာပေါ့၊ ဒါပေမယ့် လူလူချင်းမှာတော့ ဒီလို ဘယ်ဟုတ်မလဲ၊ လူအချင်းချင်း ဆက်ဆံရာမှာ ကိုယ့်ရဲ့ ဂုဏ်သိက္ခာကို အမြဲသတိထားပါ"

အဲဒီတုန်းက ချက်ကော့ဟာ လူလားမြောက်စ ရှိပါသေးတယ်။ အဲဒီမှာကတည်းက သူဟာ ချက်ကော့ဆန်နေပါပြီ။

၁၈၇၉ ခုနှစ်ရောက်တော့ မော်စကိုက သူ့မိသားစုဆီကို လိုက်သွားတယ်။ အဲဒီမှာ သူ ဆေးကျောင်းတက်တယ်။ အခြေအနေက သိပ်မကောင်းလှဘူး။ ပိုက်ဆံမရှိဘူး။ သူ့ညီတစ်ယောက်က ချောင်းဆိုးသွေးပါ ရောဂါဖြစ်လို့ သွေးအန်နေပြီ။ ဘာလုပ်ရမလဲ၊ ဟာသဝတ္ထုကလေးတွေကိုရေးပြီး သတင်းစာတိုက်တွေကို ပို့ကြည့်တယ်။

'ငှက်တစ်ကောင် တေးဆိုသကဲ့သို့ ကျွန်တော်သည် အလိုအလျောက် စာတွေရေး၏။ စားပွဲတွင် ထိုင်လိုက်မိသည်နှင့် စာတွေ တသွင်သွင်ထွက်လာ၏။ ဘယ်လိုရေးသည် ဘာစာတွေရေးသည်ကို ကျွန်တော် မစဉ်းစားမိ။ စာတွေ ခေါင်းထဲမှာ အလိုလိုထွက်လာသည်သာ ဖြစ်၏။ စာတန်းရေးရမလား၊ ဝတ္ထုတို ရေးရမလား၊ ကျွန်တော့်အတွက် ဘာမျှ အပန်းမကြီး။ စိမ်းလန်း၍ နေခြည်ဖြာသော ကွင်းပြင်တစ်ခုသို့ လွှတ်လိုက်သည့် နွားပေါက်၊ မြင်းပေါက်ကလေးတစ်ကောင်နှယ် ကျွန်တော် ခုန်၏။ ချွေးထွက်၏။ ရယ်စရာအကောင်းဆုံးနည်းဖြင့် အမြီးကို ယမ်း၏။ ခေါင်းကို လှုပ်၏။ ကျွန်တော်ကိုယ်တိုင် ရယ်ပြီး အခြားသူများကိုလည်း ရယ်အောင်လုပ်၏။'

သူ စာရေးရတဲ့ ပတ်ဝန်းကျင်က သက်သောင့်သက်သာရှိတဲ့နေရာမဟုတ်ပါဘူး။ တစ်ဖက်ခန်းမှာ ကလေးတစ်ယောက်က တအီအီငိုလို့။ အနားမှာ သူငယ်ချင်းဆေးကျောင်းသားတစ်ယောက် ခုတင်ပေါ်လာထိုင်ပြီး ကျောင်းစာတွေအကြောင်းကို ပြောနေတယ်။ တစ်ဖက်ခန်းမှာ သူ့အဖေက သူ့အမေကို ကျယ်လောင်ကျယ်လောင်နဲ့ စာဖတ်ပြနေတယ်။ ဒါပေမယ့် ချက်ကော့ဟာ သူ့ဆောင်းပါးတွေနဲ့ ဝတ္ထုတိုကလေးတွေကို ရောင်းနေရတယ်။ များများစားစားတော့ မရပါဘူး။ တစ်ပုဒ်မှ ရူဘဲ သုံးလေးပြားလောက်ပဲ ရတာ။ တစ်ခါတစ်ရံမှာ အယ်ဒီတာက 'တိုက်မှာ ငွေလက်ကျန်မရှိသေးဘူး။ ပြဇာတ်လက်မှတ်ဖြစ်ဖြစ် ဘောင်းဘီတစ်ထည်ဖြစ်ဖြစ် ယူသွားပါလား' လို့ ပြောတဲ့အခါတွေရှိသေးတယ်။ သိပ်မကြာခင်မှာပဲ ချက်ကော့ဟာ တစ်လကို ရူဘဲ တစ်ရာလောက်ရလာတယ်။ မိသားစုကို ထောက်ပံ့နိုင်သွားတယ်။ သူ့စာတွေရဲ့ အောက်မှာ 'အန်တွန်ချက်ကွန်တီ' လို့ လက်မှတ်ထိုးထားတယ်။ သူ့နာမည် အမှန်ကိုသုံးလောက်အောင် စာတွေက တန်ဖိုးရှိတယ်မထင်လို့ တွေ့ရာကလောင်နာမည်ကို ကောက်တပ်လိုက်တာပါ။ သူက ဒီထက် တစ်ဆင့်တက်ပြီး လေးနက်တဲ့စာတွေကို ရေးလာတော့ အယ်ဒီတာတွေက ကန့်ကွက်ကြတယ်။

ကျွန်တော်၏ (မိုးမခပင်) နှင့် (သူခိုး) ဝတ္ထုတိုကလေးများသည် လေးနက်လွန်းနေသည်ဟု စာဖတ်ပရိသတ်က ပြောကောင်းပြောကြပါလိမ့်မည်။ သို့သော် စာကြောင်းရေ တစ်ရာမျှလောက်သာရှိသည့် လေးနက်သည့်

စာတိုကလေးတစ်ပုဒ်သည် စာဖတ်ပရိသတ်အား အန္တရာယ်ပေးနိုင်လိမ့်မည်ဟု ကျွန်တော် မထင်ပါ၊ ပွင့်ပွင့်လင်းလင်း ပြောရလျှင် ရယ်စရာကို ရေးရသည်မှာ ကျွန်တော့်အဖို့ တော်တော်ခက်ပါသည်။

အဲဒီအချိန်ရောက်တော့ သူ ဆေးကျောင်းက စာတွေကို ကုန်းကျက်နေရပါပြီ။ ချက်ကော့ရဲ ဘဝမှာ ဆေးပညာဟာ သိပ်အရေးပါတဲ့ အခန်းကပါတယ်လို့ ပြောလို့မရပါဘူး။ ဆေးပညာကို သင်လိုက်တဲ့အတွက် အချက်အလက်တွေကို လေးစားတတ်လာတယ်။ ချက်ကော့ဟာ သိပ္ပံနည်းကျကျ မတွေးတတ်တဲ့ စာရေးဆရာဆိုရင် တော်တော် အထင်သေးပါတယ်။ အရာဝတ္ထုတွေကို ကြည့်ရာမှာ အရှိကို အရှိအတိုင်း မမြင်တတ်သူ၊ ကိုယ် ဖြစ်စေချင်သလို ကြည့်တတ်သူ၊ ဒါမှမဟုတ် တကယ့်အဖြစ်မှန်ကို ကြည့်ရမှာကို ကြောက်တတ်သူတို့ကို သူ အထင်သေးပါတယ်။

ချက်ကော့ဟာ စာရေးဆရာအကျော်ကြီး မဖြစ်ခဲ့ရင် အလွန်တော်တဲ့ ဆရာဝန်ကြီးတစ်ယောက်ဖြစ်မှာပါပဲ။ သူက ဆေးပညာကို တော်တော်ယုံကြည်ပါတယ်။ ဒါကြောင့် (ဒေါက်တာပါစကယ်) ဝတ္ထုမှာ ဆေးပညာကို လှောင်ပြောင်အထင်သေးတဲ့အတွက် ဇိုလာကို တော်တော် မကျေမနပ်ဖြစ်ပါတယ်။

'ဇိုလာ ဆိုတဲ့လူက ဆေးပညာအကြောင်းလည်း ဘာမှ သိတာမဟုတ်ဘူးဗျ။ သူ့အခန်းကလေးထဲမှာ ထိုင်ပြီး စိတ်ကူးနဲ့ရေးနေတာ။ ဒီကိုလာပြီး ကျွန်တော်တို့တိုင်းပြည်က ဆရာဝန်တွေ ဘယ်လိုနေရတယ်။ ဆင်းရဲသားတွေအတွက် ဘယ်လိုကုပေးနေရတယ်ဆိုတာကို မြင်စေချင်တယ်' လို့ ရေးဖော် ကူပရင်ကို ပြောဖူးပါ၏။

ဒါကြောင့်မို့ ထင်ပါရဲ့၊ နောက်ပိုင်း သူ့ပြဇာတ်တွေထဲမှာ အလုပ်သိပ်လုပ်ပြီး စာနာထောက်ထားတတ်တဲ့ ဆရာဝန်တွေ ပါလေ့ရှိတယ်လို့ ထင်ပါတယ်။

ဒါတွေအပြင် ချက်ကော့ဟာ သူ့ကိုယ်သူ ဂုဏ်သိက္ခာရှိတဲ့ လူတစ်ယောက်အနေနဲ့လည်း ရေးလေ့ရှိပါတယ်။

'မြေကျွန်၏ မြေးတစ်ယောက်ဖြစ်၍ ဆိုင်တစ်ဆိုင်တွင် အလုပ်လုပ်ရင်း ဘုရားကျောင်းဝတ်အဖွဲ့တွင် ဝတ်ရွတ်စဉ်ကို ရွတ်ကာ ဘုန်းကြီး၏လက်ကို နမ်းရန် အလေ့အကျင့်ရလာခဲ့သော၊ ပေါင်မုန့်တစ်ဖဲ့အတွက် ကျေးဇူးတင်ရန် ကျင့်သားရလာခဲ့သော၊ မကြာခဏ အရိုက်ခံခဲ့ရသော၊ ချမ်းသာသော ဆွေမျိုးများနှင့် ထမင်းအတူစားရသည်ကို ကျေနပ်သော၊ ဘုရားသခင်နှင့် လူများ၏ရှေ့မှောက်တွင် ကြောင်သူတော်လို ပြုမူကျင့်ကြံသော လူငယ်

တစ်ယောက်၏ အကြောင်းကို ဝတ္ထုတစ်ပုဒ်ရေးသင့်၏။ ထို့နောက် ထိုလူငယ်သည် သူ့ကိုယ်တွင်းရှိ ကျေးကျွန်ကို တစ်စက်ချင်း တစ်စက်ချင်း မောင်းနှင်ထုတ်ပြီး မိမိကိုယ်တွင်း၌ ကျွန်သွေးဆို၍ တစ်စက်မျှ မရှိတော့ဘဲ တကယ့်လူ၏ သွေးသာ ရှိတော့သည်ဆိုသည့်အသိဖြင့် သာယာသော နောက်တစ်နေ့ မနက်ခင်းတွင် အိပ်ရာမှ နိုးလာပုံကိုလည်း ပြသင့်ပေ၏' လို့ သူက ရေးခဲ့ပါတယ်။

၁၈၈၄ ခုနှစ်မှာ ဆေးပညာ ဒီပလိုမာရပါတယ်။ ဒီအချိန်မှာတော့ သူ့ဝတ္ထုတွေဟာ တကယ့်ကို အောင်မြင်မှုရနေပါပြီ။ ၁၈၈၆ ခုနှစ်ရောက် တော့ ယုံနိုင်စရာမရှိအောင် အံ့သြဖွယ်ကောင်းတဲ့ အံ့သြစရာတစ်ခု သူ့ဆီကို ရောက်လာပါတယ်။ နာမည်ကျော် စာရေးဆရာတစ်ဦးဖြစ်တဲ့ ဂရီဂိုရိုဗစ်ချ်ဆီက စာပါ။ စာတစ်စောင်လုံးမှာ ချီးမွမ်းထောမနာအပြည့်ပါပဲ။ စာက ကောင်းပြီး ဖော်ရွေရက်ရောပါတယ်။

'မင့်မှာ လူငယ်မျိုးဆက် စာရေးဆရာတွေထက် အများကြီးသာတဲ့ အရည်အချင်းတွေ ရှိတယ်။ ငါကတော့ ခု ၆၅ နှစ်ရှိပြီ။ ဒါပေမယ့် စာပေအပေါ် သံယောဇဉ်ကတော့ ကြီးတုန်းပါပဲ။ မင်းလို လှုပ်ရှားတက်ကြွပြီး ခွန်အားရှိတဲ့ စာမျိုးကို ရေးနိုင်တဲ့ စာရေးဆရာတစ်ယောက်ကို တွေ့တော့ မင်းဆီကို စာရေးပြီး မိတ်မဖွဲ့ဘဲ မနေနိုင်တာနဲ့ စာရေးလိုက်တယ်'

ချက်ကော့က ချက်ချင်း စာပြန်ပါတယ်။

'ဆရာ၏ စာကို ဖတ်လိုက်ရသည့်အခါတွင် ကျွန်တော့်တွင် မိုးကြိုးပစ်လိုက်သလို တုန်လှုပ်ချောက်ခြားသွားပါသည်။ မျက်ရည်ပင် လည်မိပါသည်' တဲ့။

သူဟာ သတင်းစာတွေအတွက် စာတိုကလေးတွေကို အဆက်မပြတ် ရေးနေရကြောင်း၊ မိမိ၏ ကိုယ်ပိုင်အလုပ်ကို အယုံအကြည်မရှိ ကြောင်း ရေးထားပြီး 'ဒီတုန်းမှာ ဆရာ့စာရောက်လာတော့ ဒီလှည်းလမ်း ကြောင်း ချောက်ကြီးထဲက ချက်ချင်းထွက်ဖို့ အရေးကြီးပါကလားဆိုတာ ကျွန်တော် သဘောပေါက်သွားပါတယ်' လို့ ရေးပါတယ်။

ဒီစာနှစ်စောင်ဟာ တော်တော်ထူးခြားပါတယ်။ မနာလိုဝန်တိုမှု ကင်းတဲ့ ဆရာကြီးနဲ့ ဟန်ဆောင်မှုကင်းတဲ့ စာရေးဆရာပေါက်စတို့ထက် လှပတဲ့အရာရယ်လို့ မရှိတော့ပါဘူး။ ချက်ကော့လိုပဲ စာရေးဆရာကြီးရဲ့ အားပေးတဲ့စာကို ဖတ်ပြီး ကျွန်တော်တောင် မျက်ရည်လည်ချင်လာပါတယ်။ ရက်ရောသဘောထားကြီးတဲ့ စိတ်ရဲ့ သက်သေပြယုဂ်လောက် ကျွန်တော် ချစ်တဲ့ အရာရယ်လို့ ဘာမှ မရှိပါဘူး။

ဂရီဂိုရီဗစ်ချ်က ချက်ကော့အကြောင်းကို သတင်းစာ အယ်ဒီတာ ဆူဗိုရင်ကို ပြောတယ်။ ဆူဗိုရင်ဟာ ချက်ကော့ရဲ့ ဝတ္ထုတွေကို ထုတ်ဝေပေးသူမျှမက ရင်းနှီးတဲ့ မိတ်ဆွေကြီးလည်း ဖြစ်လာခဲ့ပါတယ်။ ဆေးပညာကို စွန့်လွှတ်လိုက်ဖို့လည်း အပြင်းအထန် တိုက်တွန်းပါတယ်။

ဆူဗိုရင်ကို ပြန်ရေးတဲ့ ချက်ကော့ရဲ့စာမှာ . . .

'ဆရာက ကျွန်တော့်ကို တစ်ချိန်တည်းတွင် ယုန်နှစ်ကောင်မလိုက်ရန်၊ ဆရာဝန်အလုပ်ကို မေ့ပျောက်လိုက်ရန် အကြံပေးပါသည်။ သို့ရာတွင် ကျွန်တော့်အနေဖြင့်မူ တစ်ချိန်တည်းတွင် ယုန်နှစ်ကောင်ကို မလိုက်သင့်သည့်အကြောင်း တစ်စုံတစ်ရာ ရှာမတွေ့ပါ။ ကျွန်တော့်တွင် သက်မွေးမှု ပညာ တစ်ခုအစား နှစ်ခုရှိသည်ကို တွေးမိတိုင်း ကိုယ့်ကိုယ်ကို ယုံကြည်မှု ပိုရှိလာပြီး ပို၍ ကျေနပ်ပါသည်။ ဆေးပညာသည် ကျွန်တော့် တရားဝင် မယားဖြစ်ပြီး စာပေမှာ ကျွန်တော့်အပျော်မယားဖြစ်ပါသည်။ တစ်ယောက် နှင့်ငြီးငွေ့သွားလျှင် နောက်တစ်ယောက်နှင့် အိပ်ပါသည်။'

* * *

## ချက်ကော့ရဲ့ ရေးဟန်

ချက်ကော့ရဲ့အကြောင်းကို သိသူတွေရဲ့ အရေးအသားတွေ၊ သူ့ကို ဝေဖန်သူတွေနဲ့ ပတ်သက်လို့ သူ ပြင်းပြင်းထန်ထန် တုံ့ပြန်ခဲ့တာတွေကို ဖတ်လိုက်ရတဲ့အခါမှာ ချက်ကော့ရဲ့ အနုပညာအကြောင်းကို ပြောဖို့ တော်တော်ခက်ပါတယ်။ အစတုန်းကတော့ အားလုံးကပဲ သူ့ကို မိုးပါးဆွန်းအငယ်စားကလေးလို့ သဘောထားခဲ့ကြတယ်။ ဟုတ်သလောက်လည်း ဟုတ်တယ်လို့ ဆိုရမယ်။ အဲဒီအချိန်တုန်းက ချက်ကော့ဟာ ဘာမှ လေးနက်မှုမရှိတဲ့ ပုံစံကျ ဝတ္ထုတိုကလေးတွေချည်းပဲ ရေးနေတာကိုး။ စာရေးဆရာကြီးရယ်လို့ ဖြစ်လာတဲ့အခါမှာ လူတော်တော်များများကပဲ သူ့ကို စာရေးဆရာကြီး စာရင်းမှာ မသွင်းကြဘူး။ ချက်ကော့က သူ့ကို ဒီလို သဘောထားကြရမလား ဆိုပြီး တော်တော်လေးခံပြင်းလေ့ရှိပါတယ်။ ချက်ကော့က ပင်ကိုအားဖြင့် သိမ်ငယ်စိတ်ရှိတဲ့လူ။ ကြောက်တတ် ရှက်တတ်တဲ့လူ။

ဒီနောက်တော့ ချက်ကော့ဟာ စိတ်ညစ်စရာတွေကို ရေးတဲ့ စာရေးဆရာဆိုတဲ့ နာမည်ကို ရလာတယ်။ သူ့ကို 'ဆည်းဆာအမောများနဲ့ ကဗျာဆရာ' လို့ ခေါ်လာကြတယ်။

'ကျွန်တော်ဟာ ဒီလောက်စိတ်ညစ်စရာကောင်း တဲ့ စာတွေကို ရေးခဲ့သူလားဗျာ၊ ဒီလောက် အဆိုးမြင်တဲ့ လူလားဗျာ' လို့ သူက ဘူနင်ဆီကို စာရေးခဲ့တယ်။

ချက်ကော့က ဟန်ဆောင်တာမျိုးလည်း တော်တော်မုန်းပါတယ်။ ကိုယ့်ကိုယ်ကို အမြဲတမ်း သနားနေတတ်တဲ့ မိတ်ဆွေတစ်ယောက်က သူ့ဆီလာပြီး 'စဉ်းစားတွေးတောရတာဟာ တော်တော်ရှုးချစ်စရာ ကောင်းတယ်ဗျာ၊ ကျွန်တော် ဘာလုပ်ရမလဲ ပြောစမ်းပါဦး' လို့ ပြောတော့ ချက်ကော့က 'အရက်နည်းနည်းလျှော့သောက်ပါဗျာ' လို့ ပြောလိုက်သတဲ့။

တစ်ခါမှာလည်း ကောင်းကောင်းမွန်မွန် ဝတ်စားထားတဲ့ အမျိုးသမီးသုံးယောက် သူ့ကို လာ တွေ့တယ်။ သူတို့လည်းရောက်လာရော အခန်းထဲမှာ ပိုးဖဲတွေရဲ့ တရှမ်းရှမ်း မြည်သံတွေ၊ ရေမွှေးနံ့တွေကြားက သူတို့က နိုင်ငံရေးအကြောင်းကို စမေးသတဲ့။ 'ဆရာရယ်၊ စစ်ကြီး ဘယ်တော့ပြီးမယ် ထင်သလဲ' လို့ မေးသတဲ့။ ဒီတော့ ချက်ကော့က ချောင်းတဟွတ်ဟွတ်ဆိုးရင်း မျက်နှာထားတည်တည်နဲ့ 'ငြိမ်းချမ်းရေးရတဲ့နေ့ကျရင် ပြီးမှာပေါ့' လို့ ဖြေလိုက်ပါတယ်။

'ဒါတော့ ဟုတ်တာပေါ့ရှင်၊ ကျွန်မတို့ပြောတာက ခုစစ်ပွဲမှာ ဂရိတွေ နိုင်မလား၊ တူရကီတွေ နိုင်မလားဆိုတာကို သိချင်တာပါ'

'ကျွန်တော့်အထင်တော့ အင်အားကြီးတဲ့ဘက်က နိုင်မယ်ထင်တာပဲ'

'ဒီလိုဆို ဘယ်ဘက်က အင်အားကြီးသလဲဟင်'

'ကောင်းကောင်းစားရပြီး ကောင်းကောင်းပညာတတ်တဲ့ဘက်က အင်အားကြီးတာပေါ့'

'ဆရာကကော တူရကီနဲ့ ဂရိတွေ ဘယ်သူ့ကို ပိုသဘောကျသလဲ'

ချက်ကော့က မျက်နှာထားချိုချိုနဲ့ ပြုံးနေတယ်။

'ကျွန်တော်သဘောကျတာကတော့ သစ်သီးမီးဖုတ်ပဲဗျ၊ ခင်ဗျားတို့ကော' လို့ မေးသတဲ့။

ချက်ကော့က လူဟာ အလုပ်လုပ်ရမယ်။ အလုပ်မလုပ်တဲ့ လူဟာ ဘဝင်မြင့်ပြီး အရည်အချင်းမရှိတဲ့လူလို့ ပြောလေ့ရှိပါတယ်။ သူကိုယ်တိုင်လည်း အလွန်အလုပ်လုပ်တယ်။ သူများပြောတာကို နားထောင်နေတုန်းမှာတောင် တစ်ခုခုတော့ လုပ်နေတာပဲ။ သူ့မှတ်စုကို ကြည့်လိုက်လျှင် တွေ့ကရာတွေကို ကောက်မှတ်ထားတဲ့ မှတ်စုတွေနဲ့ ပြည့်နေတာပဲ။ တစ်ခါတလေမှာ ချက်ကော့ဟာ အဲဒီမှတ်စုစာအုပ်တစ်အုပ်ကို အံဆွဲထဲက ထုတ်ယူလိုက်ပြီး 'ဒီအထဲမှာ အကြောင်းအရာပေါင်း တစ်ရာလောက်ရှိတယ်ဗျ၊ ကျွန်တော်က

ခုခေတ် စာရေးဆရာပေါက်စကလေးတွေလို မဟုတ်ဘူး၊ လိုချင်ရင် နည်းနည်းဖွဲ့ရောင်းမယ်လေ’

လို့ နောက်တတ်လေ့ရှိတယ်။

သူစိတ်ဝင်စားဖို့အတွက် အကြောင်းအရာတစ်ရပ်ဟာ ရိုးစင်းရမယ်။ သူ့မှတ်စုတချို့ကို ထုတ်နှုတ်ပြပါ့မယ်။

‘ပါမောက္ခတစ်ယောက်၊ သူ့ရောဂါက သေနိုင်တယ်ဆိုတာသိ။ ဒီမှာတင် သူ့ရဲ့ နောက်ဆုံးလတွေအတွက် နေ့စဉ်မှတ်တမ်းရေး’

ဒီမှတ်စုအတိုကလေးကနေပြီး ‘ငြီးငွေ့ဖွယ်ဝတ္ထုတစ်ပုဒ်’ ဆိုတဲ့ နာမည်ကျော် ဝတ္ထုကောင်းတစ်ပုဒ် ထွက်လာပါတယ်။ အဲဒီအထဲမှာ သူအဓိကပြောချင်တဲ့ အကြောင်းအရာက ကြေကွဲစရာအဖြစ်နဲ့ သေခါနီးလူနာရဲ့ ဘာမှအရေးမကြီးတဲ့ လှုပ်ရှားဆောင်ရွက်မှုကလေးတွေ တစ်ခုနဲ့တစ်ခု မဆီမလျော် ဖြစ်နေတာ၊ ဆန့်ကျင်ဖီလာ ဖြစ်နေတာကို ပြောချင်တာပါ။

‘လူတစ်ယောက် မြင်းလှည်းတိုက်လို့ ခြေတစ်ဖက် ပြတ်သွား။ ခြေထောက်ပြတ်တာကို မစိုးရိမ်။ သူ့ဖိနပ်ရှည်ထဲမှာ နှစ်ဆယ့်တစ်ရူဘယ်လ် ထိုးထည့်ထားတာအတွက် စိုးရိမ်သောကရောက်နေ’

‘ဦးဖြူက တစ်ခါတုန်းက အဆောက်အအုံကန်ထရိုက်။ မြင်မြင်သမျှကို ပြင်ဆင်မွမ်းမံရမည်ဆိုတဲ့ ရှုထောင့်က မြင်နေသူ။ အလွန်ကျန်းမာသည့် အမျိုးသမီးတစ်ယောက်ကို ဇနီးအဖြစ်ရွေး။ သူ့ကို ပြင်ဆင်မွမ်းမံရန်အတွက် နောက်ထပ် တစ်ပြားတစ်ချပ်မျှ မကုန်တော့ဟုထင်။ ဒေါ်ဖြူမှာ အလွန်ဝသည့်တိုင် ဦးဖြူက သဘောကျ။ သူမ လမ်းလျှောက်ပုံမှာ ဆင်မယဉ်သာ လမ်းလျှောက်သကဲ့သို့ တင့်တယ်သည်ဟု ယူဆ။ အရေးကြီးသည်မှာ သူ့ခန္ဓာကိုယ်ကြီးက ကြီးခိုင်တောင့်တင်းဖို့သာ အရေးကြီး။ ပြင်ဆင်စရာမလို’

‘ခေါင်းစဉ်။ ဂုစ်ဘယ်ရီသီးများ . . .။ ဦးနီသည် ဝန်ကြီးဌာနတစ်ခုတွင် အလုပ်လုပ်။ အလွန်ကပ်စေးနှဲပြီး ရသမျှကို တစ်ပြားနှစ်ပြားမှတ်၍ ခွာစုဆောင်းသူ။ သူ့စိတ်ကူးမှာ လက်ထပ်မည်။ ကျေးလက်တွင် အနားယူအိမ်တစ်လုံးဝယ်မည်။ နေရောင်ထဲတွင် နေစာလှုံ၍ အိပ်ငိုက်မည်။ အနှစ်နှစ်ဆယ်၊ အနှစ်လေးဆယ် ကုန်လွန်သွား။ အသက်ခြောက်ဆယ်၌ သူသည် အငြိမ်းစားယူထားသည့် လူချမ်းသာတစ်ယောက်။ ပွဲစားမှတစ်ဆင့် ရေကန်ကလေးတစ်ခုပါသည့် အိမ်ဝိုင်းတစ်ဝိုင်းဝယ်။ ခြံထဲတွင် လမ်းလျှောက်ရင်း သူ့တွင် တစ်ခုခုလိုနေသည်ဟု စဉ်းစားမိ။ အိုဂုစ်ဘယ်ရီခင်းတစ်ခင်းလောက် စိုက်ရမှာပါကလား။ မြေပဒေသာမှ အပင်အချို့ ဝယ်၍စိုက်။ နောက်နှစ်နှစ်သုံးနှစ်အကြာတွင် သူ အစာအိမ်ကင်ဆာဖြစ်။ ဂုစ်ဘယ်ရီသီးတွေ သီးချိန်မှာ

ရူးပြီး သူ့ဆီယူလာ။ ဩော် ဘဝတစ်လျှောက်လုံး ဂုစ်ဘယ်ရီသီး စားဖို့ လောက်ပဲ တောင့်တခဲ့သလို ဖြစ်နေပါပေါ့ကလားလို့ ကိုယ့်ဘာသာကိုယ်ပြော။ တစ်ဖက်ခန်းတွင် ရင်အုံထွားထွားနဲ့ သူ့တူမကလေးက အသံသေးသေး ကလေးဖြင့် သူ့ဖို့ ဂုစ်ဘယ်ရီသီးယူလာဖို့ အစေခံကို ပြောနေ'

'ရထားသမားတစ်ယောက်။ သားငယ်ဆုံးသွား။ ရထားမောင်းတဲ့ အလုပ်ကို ဆက်လုပ်နေ။ သူ့ခရီးသည်များကို သူ့သားအကြောင်းပြောပြ။ ဘယ်သူကမှ ဂရုမစိုက်။ ဥပေက္ခာကိုသာ တွေ့ရ'

'စစ်လေ့ကျင့်ခန်း ဆင်းနေသည့် စစ်ဗိုလ်တစ်စုကို မိန်းကလေးတွေ ပေါသည့် အိမ်တစ်အိမ်က ဖိတ်၍ လက်ဖက်ရည်တိုက်။ ရုက်တတ်ပြီး ခပ် အေးအေးနေသည့် အရာရှိကလေးတစ်ဦးကို အမှောင်ထဲက မိန်းမပျိုတစ် ဦးက နမ်းသွား။ စစ်ဗိုလ်က ကောင်မလေးကို လိုက်ရှာ။ မတွေ့'

'အဘိုးအို မိတ်ဆွေတစ်စု ပြန်တွေ့ကြ။ သူတို့အထဲမှ တစ်ယောက် မှာ တစ်ခါက လိမ်လည်မှုတစ်ခုကို ကျူးလွန်ခဲ့ဖူးသူ။ ထိုအကြောင်းကို မည် သူမျှ အမှတ်ရကြဟန် မတူတော့။ သမိုင်းကိုမေ့'

'ချမ်းသာသည့် အမျိုးသမီးတစ်ယောက်။ စက်ရုံကြီးတစ်ရုံကို အမွေ ရ။ ဘဝမှာ မပျော်။ မကျေမနပ်ဖြစ်။ အလုပ်သမားတွေနှင့် ရောနှောကြည့် သည့်တိုင် အကြောင်းမထူး။ ထို့ကြောင့် ထိုဘဝမှာပဲ ဆက်လက်၍ နေရ။ သူ့ထက်သတ္တိကောင်းသည့် သမီးပျိုကမူ ထိုအရာများကို ခုံမင်တွယ်တာ မနေဘဲ မော်စကိုသို့ထွက်ပြေး'

ဒီ ရိုးစင်းတဲ့ အကြောင်းအရာတွေဟာ တမင်လုပ်ယူရတဲ့အရာတွေ မဟုတ်ပါဘူး။ 'ချက်ကော့ရဲ့ ဝတ္ထုတွေထဲမှာ အပြင် လူ့လောကကြီးမှာ မတွေ့ နိုင်တဲ့အရာရယ်လို့ တစ်ခုမှ မပါဘူး။ ချက်ကော့ရဲ့ ခွန်အားဟာ တခြား မဟုတ် ဘူး။ သူဟာ ဘာကိုမှ တီထွင်လုပ်ကြံပြီး မရေးဘူးဆိုတဲ့ အချက်ပဲ' လို့ ဂေါ်ကီက ပြောခဲ့ဖူးတယ်။ ချက်ကော့ဟာ (သူလေးစားတဲ့ ဇိုလာတို့၊ မောပတ်ဆွန်းတို့လိုပဲ) ပြဇာတ်ဆန်အောင် ဝတ္ထုဆန်အောင် လုပ်နိုင်သူ ဖြစ်ပါ တယ်။ ဒါပေမယ့် ဒီလိုလုပ်ရတာမျိုးကို သူ ငြီးငွေ့တယ်။ 'စာရေးဆရာ တစ် ယောက်ဟာ ဓာတုဗေဒပညာရှင်လို ဓမ္မဓိဋ္ဌာန်ကျရမယ်။ ကျွန်တော်တို့ နေ့စဉ် ဘဝမှာ လုပ်သလို ဆန္ဒစွဲနဲ့ ချဉ်းကပ်တာမျိုးကို ရှောင်ရမယ်' လို့ ချက်ကော့က ပြောတယ်။ စာရေးဆရာဟာ 'သူ့ခြေထောက်တွေ ရေခဲလို အေးစက်လာ သည်အထိ ထိုင်ပြီး ရေးမနေရဘူး။ အမှိုက်ပုံကြီးဟာ ရှုခင်းထဲမှာ လှပတဲ့အရာ တစ်ခုလို့ ထင်လာအောင် ကြာကြာထိုင်မနေရဘူး။ မကောင်းတဲ့စိတ်များဟာ လည်း ကောင်းတဲ့စိတ်များလို ဘဝရဲ့ အစိတ်အပိုင်းပါကလားလို့ ထင်လာ

အောင် ထိုင်မနေရဘူး။ ဘဝထဲကနေပြီး ဇာတ်လမ်းရှာရမယ်' လို့ ချက်ကော့ ယူဆပါတယ်။

ချက်ကော့ဟာ ဆရာဝန်လုပ်ခဲ့ဖူး၊ ဆေးကုခဲ့ဖူးလေတော့ အကျပ်အတည်းတွေ၊ ဒုက္ခ သုခတွေ ဖြစ်ချိန်မှာ လူတွေ ဘယ်လိုခံစားကြတယ်၊ တုံ့ပြန်ကြတယ်ဆိုတာကို မြင်ခွင့်ရခဲ့ပါတယ်။ နာမကျန်းဖြစ်ခြင်းနဲ့ ဆင်းရဲခြင်းဟာ အမှန်တရားရဲ့ သန်ရည်တွေ ဖြစ်ပါတယ်။ သူဟာ ဝမ်းဗိုက်ကို ဓားထိုးခံရတဲ့ ဖူးဇစ်ကျေးတောသားကို မြင်ဖူးတယ်။ မိခင်ကို မုန်းတာနဲ့ သူ့ကလေးငယ်ကို ပွက်ပွက်ဆူနေတဲ့ ရေနွေးနဲ့လောင်းတဲ့ မိန်းမမျိုးကို မြင်ဖူးတယ်။ ညစ်ပတ်လွန်းလို့ နားထဲက လောက်ကောင်တွေထွက်တဲ့ ကောင်မလေးမျိုးကို မြင်ဖူးတယ်။ 'ကိုယ့်အိမ်ထဲမှာတော့ အေးအေးဆေးဆေးပါပဲ။ ဘာမှ မထူးပါဘူး။ ဒါပေမယ့် လမ်းမထွက်ပြီး မိန်းမတစ်ယောက်ယောက်ကို မေးမြန်းကြည့်လိုက်ရင် ကြောက်စရာကောင်းတာကို တွေ့ရလိမ့်မယ်' လို့ သူက ပြောခဲ့တယ်။

ကောင်းပြီ။ ဘဝဟာ ကြောက်စရာကောင်းတယ်ဆိုရင် အဲဒီကြောက်စရာကောင်းတဲ့ဘဝကို ရင်ဆိုင်နိုင်အောင် ဘယ်လိုလုပ်မလဲ။ ခံသာအောင် ဘယ်လိုလုပ်မလဲ။ တခြားသူများကိုရော ခံနိုင်အောင် ဘယ်လိုလုပ်ပေးမလဲ။ ပထမအားဖြင့် ကရုဏာလုပ်ငန်းတွေမှာ တက်တက်ကြွကြွ ပါဝင်ဆောင်ရွက်ပေးဖို့ လိုတယ်။ ဒုက္ခရောက်လာသူကို ကူညီရာမှာ ဆရာဝန် ချက်ကော့လောက် အကူအညီပေးခဲ့တဲ့ စာရေးဆရာရယ်လို့ တစ်ယောက်မှ ရှိမယ်မထင်ဘူး။ မေတ္တာတရားကြောင့် ကျွန်တော်တို့ဟာ အနာဂတ်ကမ္ဘာကြီး ဘယ်လိုရှိမယ်ဆိုတာကို မှန်းဆလို့ရတယ်။ မေတ္တာရှေ့ထားသူဟာ အတ္တနည်းတယ်။ ကိုယ့်ကိုယ်ကို ဗဟိုပြုတာမျိုး မရှိဘူး။ ဒါပေမယ့် မေတ္တာထက် ကြီးမားတဲ့အရာ ရှိသေးတယ်။ အဲဒါကတော့ သစ္စာ။ ကျွန်တော်တို့ဟာ ဘယ်တော့မှ မလိမ်ရဘူး။ ကိုယ့်ကိုယ်ကို သတိနဲ့ စောင့်ကြည့်ရင် ကျွန်တော်တို့ဟာ ဘယ်တော့မှ လိမ်ဖြစ် ညာဖြစ်မှာ မဟုတ်ဘူး။

ဘူနင်ဆီကို ရေးတဲ့ စာတစ်စောင်ထဲမှာ ချက်ကော့က 'အလုပ်လုပ်ရမယ်ဗျ။ တစ်ချက်ကလေးမှ မနားဘဲ အလုပ်လုပ်ရမယ်။ ဘဝတစ်လျှောက်လုံး လုပ်သွားရမယ်။ ကျွန်တော့် အတွေ့အကြုံအရ ပြောရရင်တော့ ဝတ္ထုတစ်ပုဒ် ရေးပြီးတယ်ဆိုရင် အစနဲ့အဆုံးကို ခြစ်ပစ်လိုက်တာ အကောင်းဆုံးပဲ။ ကျွန်တော်တို့ စာရေးဆရာတွေ လိမ်ညာပြောတတ်တာဟာ အစနဲ့အဆုံးမှာ လိမ်ညာပြောတတ်ကြတာပဲ။ စာတစ်ပုဒ်ဟာ တိုနိုင်သမျှ တိုရမယ်။ ပင်လယ်ကြီးအကြောင်းကို ရေးပြရတာဟာ တော်တော်ခက်တယ်။ မကြာခင်တုန်းက

ကျောင်းသားကလေးတစ်ယောက်ရဲ့ လေ့ကျင့်ခန်းစာအုပ်ထဲမှာ ဘယ်လိုရေးထားတယ် ထင်သလဲ။ ပင်လယ်ကြီးသည် ကြီးပါသည်တဲ့။ ဒါပဲဗျ။ မရှင်းဘူးလား။ ကျွန်တော်တော့ သိပ်သဘောကျတာပဲ' လို့ ရေးခဲ့ဖူးတယ်။

တခြားစာတစ်စောင်မှာတော့ ဒီလိုရေးထားတယ်။

'စာတစ်ပုဒ်ရေးပြီးရင် ပထမတစ်ဝက်ကို ဆုတ်ပစ်လိုက်ရမယ်။ ဒါကျွန်တော် တကယ်ပြောတာ။ လူငယ်စာရေးဆရာတွေဟာ ဇာတ်လမ်းပျိုးချင်ကြတယ်။ ဒါပေမယ့် စာဖတ်သူကို ကိုယ်ဆိုလိုချင်တာကို ဒိုင်းခနဲ နားလည်အောင် ပေးသင့်တယ်။ စကားပြောခန်းထဲက ဖြစ်စေ၊ ဇာတ်ဆောင်တွေရဲ့ လှုပ်ရှားမှုထဲက ဖြစ်စေ၊ နားလည်အောင် လုပ်သင့်တယ်။ စာရေးဆရာက ကြားဝင်ပြောတာမျိုး မရှိသင့်ဘူး။ ရေးနေတဲ့အကြောင်းအရာနဲ့ တိုက်ရိုက်သက်ဆိုင်ခြင်း မရှိတဲ့ အရာမှန်သမျှကို ဖယ်ထုတ်ပစ်ရမယ်။ ပထမ အခန်းမှာတုန်းက သေနတ်တစ်လက် နံရံပေါ်မှာ ချိတ်ထားတယ်လို့ ပြောထားခဲ့ရင် ရှေ့တစ်ခန်းခန်းမှာ အဲဒီသေနတ်ကို ပစ်ပြရမယ်' လို့ ပြောခဲ့ပါတယ်။

ဝတ္ထုနဲ့ပတ်သက်လို့ ချက်ကော့ သတ်မှတ်တဲ့စံဟာ သိပ်ပြီး တိကျလွန်းနေတယ်။ မမှန်တာကို မရေးရဘူးဆိုတာကလည်း သိပ်ပြီး တင်းကျပ်လွန်းနေတယ်။ ဒါပေမယ့် နောက်အသက်ကြီးတဲ့အချိန်မှာ ရေးတဲ့စာတွေမှာ ချက်ကော့ဟာ အဲဒီနည်းအတိုင်းပဲ သုံးခဲ့ပါတယ်။

'ဒါပေမယ့် ခက်တာက ဒီအတိုင်းဆိုရင် . . . သူတို့သည် ငယ်ရွယ်ကြ၏။ ချစ်သွားကြ၏။ နောက်ဆုံး၌ လက်ထပ်ကာ အသက်ထက်ဆုံး ပျော်ရွှင်စွာ နေကြလေသတည်းလို့ ရေးရတော့မယ့်ပုံ ဖြစ်နေပြီ' လို့ သူ့မိတ်ဆွေတချို့က သူ့ကို ဝေဖန်ကြတယ်။ ဒီတော့ ချက်ကော့က 'ဘဝမှာလည်း ဒီအတိုင်းပဲ မဟုတ်လား။ ကျွန်တော်သာ ပိုက်ဆံရှိပြီး သန်းကြွယ်သူဌေးလောက်ချမ်းသာရင် စာများများမရေးဘူး။ တစ်သက်လုံး ကျွန်တော် ရေးသွားတဲ့စာဟာ လက်တစ်ဝါးစာလောက်ပဲ ရှိမှာ' လို့ ပြောပါတယ်။

ချက်ကော့ဟာ သူ့ဇာတ်ဆောင်တွေနဲ့ ရှုခင်းတွေကို စုတ်ချက်နည်းနည်းနဲ့ ဆွဲချင်ပါတယ်။ 'ချယ်ရီသီးခြံ' ဆိုတဲ့ ပြဇာတ်မှာ ကုန်သည်လို ပါခင်အဖြစ် သရုပ်ဆောင်တဲ့ ဇာတ်လိုက်ကို ချက်ကော့က ဘယ်လိုပြောသလဲဆိုတော့ 'ဒီမှာ ငါပြောတာကို နားထောင်စမ်း။ သူက မင်းလိုအော်ပြီး စကားပြောတာ မဟုတ်ဘူး။ သူ့ဖိနပ်က အဝါရောင်။ ပြီးတော့ ဒီထဲမှာ ပိုက်ဆံတွေ အများကြီးရှိတယ်' ဆိုပြီး သူ့အတွင်းအိတ်ကပ်ကို ပြတယ်။ ဒီအတိုင်းပါပဲ။ သူ့ဝတ္ထုတွေထဲမှာ စစ်ဗိုလ်တစ်သိုက်ရဲ့ စရိုက်ကို ဖော်ချင်ရင် သူတို့ကို စကားတစ်ခွန်းစီလောက်ပဲ အပြောခိုင်းလိုက်တာပါပဲ။

'မှန်ကွဲစကလေးတစ်စသည် စက်ရုံလမ်းပေါ်တွင် ကြယ်ကလေး တစ်လုံးကို တလက်လက် တောက်နေလေ၏' လို့ ရေးလိုက်ရုံနဲ့ လသာနေတယ်ဆိုတဲ့သဘောကို အလိုလို ပြောပြီးသားဖြစ်နေတယ်လို့ ချက်ကော့က ပြောလေ့ရှိတယ်။ ရုပ်ရှင်ဆရာများဟာ ဒီလိုထူးခြားတဲ့ အသေးစိတ်ကလေးတွေကို ကင်မရာနဲ့ ရိုက်ပြခြင်းဖြင့် နောက်မှာ ရုပ်ရှင်နည်းသစ်ကို လိုက်လာခဲ့ကြပါတယ်။ ချက်ကော့က အဖွဲ့ကို ခပ်ရှည်ရှည်ဖွဲ့ပြီဆိုရင်လည်း သူ့အဖွဲ့ထဲမှာ အမြင်အာရုံ၊ အနံ့အာရုံ၊ အကြားအာရုံ စတာတွေ တော်တော်များများ ပါတတ်ပါတယ်။ သူ့ရဲ့ အဖွဲ့တစ်ခုကိုပဲ ကြည့်ပါ။

'လရောင်ထဲတွင် လိမ္မော်ပင်များသည် မည်းနက်သော အရိပ်များကို ဖြန့်ခင်းထားကြလေ၏။ ထိုအရိပ်များကြောင့် တံခါးပေါက်မှာ အမှောင်ထုထဲတွင် နစ်နေတော့သည်။ အိမ်တံခါးပေါက်ဆီမှ မိန်းမတစ်သိုက်၏ ခပ်တိုးတိုး စကားသံများ၊ ခပ်အုပ်အုပ်ရယ်သံများနှင့် လက်ဆွဲဘာဂျာသံ သဲ့သဲ့တို့ ပေါ်လာလေ၏။ လေသည် လိမ္မော်နံ့နှင့် ထင်းရှူးနံ့တို့ဖြင့် မွှေးထုံနေလေ၏။ မမြင်ရသော အမျိုးသမီးများ၏ တီးတိုးသံများ၊ ရနံ့များသည် သူ့ ကိုလာ၍ အနှောင့်အယှက်ပေးနေကြလေ၏။ ပျော်ရွှင်ချမ်းမြေ့ခြင်း မရှိသော လူတစ်ယောက်အဖို့ လိမ္မော်ပင်များနှင့် အရိပ်များ၊ တိမ်များနှင့် သဘာဝ အလှများသည် ဘယ်မျှသေးဖွဲ့နေပါသနည်း။ ထိုအရာအားလုံးသည် တစ်သီး တခြားဖြစ်နေကာ လူ့လောကကြီးကို ဥပေက္ခာပြုထားသည့်နှယ် ဖြစ်နေလေ၏။

ချက်ကော့ဟာ စကားလုံးချွေတာသူဖြစ်လေတော့ သဘာဝအလှကို ဖွဲ့ရာမှာလည်း သူ့ဇာတ်ဆောင်ရဲ့ သိစိတ်ထဲမှာ ထင်ဟပ်လာတဲ့ သဘောလောက်ကိုပဲ ဖွဲ့လေ့ရှိပါတယ်။

ဒါဟာ ချက်ကော့ရဲ့ ရေးဟန်ပါပဲ။

* * *

## ဒဿနမရှိတဲ့
## ချက်ကော့ရဲ့ ဒဿန

ချက်ကော့ဟာ ပြဇာတ်တွေကိုလည်း ရေးခဲ့ပါတယ်။ သူ့ရဲ့ အထင်ရှားဆုံး ပြဇာတ်လေးပုဒ်ကတော့ 'ပင်လယ်စင်ရော်'၊ 'ဦးလေးဗန်ယ'၊ 'ညီအစ်မသုံးယောက်' နဲ့ 'ချယ်ရီခြံ' တို့ ဖြစ်ပါတယ်။ 'ညီအစ်မသုံးယောက်' ကလွဲလို့ ကျန်ပြဇာတ်သုံးပုဒ်ဟာ တောမြေပိုင်ရှင်ကလေးတွေရဲ့ လောကကို နောက်ခံပြုထားတာပါ။ သူရေးချယ်ပြတဲ့ မြေပိုင်ရှင်လောကဟာ ငြီးငွေ့ပြီး ပြိုကျပျက်စီးနေတဲ့ လောကဖြစ်ပါတယ်။ ဇာတ်ဆောင်တွေဟာ အဲဒီလောကကလေးထဲကနေပြီး မော်စကိုကို ထွက်ပြေးဖို့ စိတ်ကူးနေကြတယ်။ ဒါမှမဟုတ် ပါရီကို ထွက်ပြေးဖို့ အိပ်မက်မက်နေကြတယ်။ သူတို့အထင်မှာ အဲဒီမြို့ကြီးတွေဟာ နတ်ဘုံနတ်နန်းကြီးတွေလို့ ထင်နေကြတာကိုး။ 'ပင်လယ်စင်ရော်' ပြဇာတ်ကတော့ စာပေနဲ့ အနုပညာနောက်ခံပြဇာတ်ပါ။

ချက်ကော့မှာ ဒဿနမရှိဘူးလို့ တော်လ်စတွိုင်းက ပြောဖူးပါတယ်။ ဘယ်အခိုပ္ပါယ်နဲ့ ပြောသလဲဆိုတာတော့ မသိပါဘူး။ ဒါပေမယ့် ဘာပဲဖြစ်ဖြစ် လူတစ်ယောက်မှာ ဘဝအမြင်တော့ ရှိတာပါပဲ။ ချက်ကော့ရဲ့ ဘဝကို ပြန်ကြည့်လိုက်ရင် သူဟာ အသက်ကြီးလာတဲ့အခါမှာ ဘဝအမြင် ပြောင်းသွားပါတယ်။ စောစောပိုင်းကတော့ သူ့မှာ သမိုင်းဆရာ ပိုလိုနီးယတ်စ်လို နီတိကျင့်

ဝတ်တွေကို ဟောချင်တယ်။ ဒီအချက်ကို သူ့ညီဆီ ပေးတဲ့စာတွေထဲမှာ တွေ့နိုင်တယ်။ နောက်ပိုင်းမှာတော့ အဲဒီလို နီတိကျင့်ဝတ်တွေ ဟောတာမျိုးကို စွန့်လွှတ်လိုက်တာ တွေ့ရပါတယ်။ နောက်တစ်ချက်ကတော့ ချက်ကော့ရဲ့ ဝတ္ထုအဖွဲ့အနွဲ့များဟာ ကဗျာဆန်သည့်တိုင် သူ့ရဲ့ စိတ်ဓာတ်ကတော့ သိပ္ပံနည်းကျ စိတ်ဓာတ်ဖြစ်ပါတယ်။ သူဟာ သူတွေ့တဲ့ အရာဝတ္ထုကို ဆရာဝန်မျက်စိနဲ့ပဲ ကြည့်ပါတယ်။

သူ့ရဲ့ ကျင့်ဝတ်ဆိုင်ရာ အယူအဆတွေနဲ့ ပတ်သက်လို့ သူ အသက်နှစ်ဆယ့်ခြောက်နှစ်တုန်းက သူ့ညီ နီကိုလက်စ်ကို ပေးတဲ့စာတွေထဲမှာ တွေ့နိုင်ပါတယ်။ အဲဒီအချိန်ဟာ သူ့စရိုက် ဖွံ့ဖြိုးတိုးတက်လာချိန် ဖြစ်ပြီး ရည်ရွယ်ချက်ကင်းမဲ့ပြီး လေလွင့်နေတဲ့ သူ့ညီကို ယဉ်ကျေးတဲ့လူ့ အသိုင်းအဝိုင်းကို ရောက်အောင် ဘယ်လိုနေရထိုင်ရမယ်ဆိုတာနဲ့ ပတ်သက်လို့ ရေးခဲ့ပါတယ်။

သူ့စာထဲမှာ ချက်ကော့က ဒီလိုရေးထားပါတယ်။

'ငါ့သဘောထား ပြောရမယ်ဆိုရင်တော့ ဖော်ပြပါ အချက်အလက်တော့ မပြည့်စုံတဲ့သူဟာ ယဉ်ကျေးရည်မွန်တဲ့ လူတစ်ယောက်လို့ မခေါ်နိုင်ဘူး'

(၁) လူ့သိက္ခာကို ရိုသေရမယ်။ ဒါနဲ့အညီ စိတ်ကောင်းရှိရမယ်။ နူးညံ့ရမယ်။ သိမ်မွေ့ရမယ်။ အခြားသူတွေကို ကူညီရိုင်းပင်း ဖို့ အဆင်သင့်ဖြစ်ရမယ်။ တူလေးတစ်လက်နေရာမှား ထားမိလို့။ ခဲဖျက်ကလေး တစ်ခု နေရာမှားထားမိလို့ စတဲ့ အသေးအဖွဲကိစ္စကလေးတွေအတွက် စကားမများရဘူး။ တခြားလူတစ်ယောက်နဲ့ အတူနေခဲ့ရရင် ကိုယ်က သည်းညည်းခံရတယ်။ ကိုယ့်ဘက်က အနာခံနေရတယ်လို့ မအောက်မေ့ရဘူး။ သူနဲ့အတူ မနေကြတော့လို့ ခွဲခွာခဲ့ကြရင်လည်း ခင်ဗျားနဲ့နေရတာ စိတ်ဆင်းရဲလိုက်တာ၊ ဘယ်တော့မှ အတူနေဖို့ မကောင်းဘူး စတဲ့ စကားမျိုးကို မပြောသင့်ဘူး။ အေးတာ၊ ဆူညံတာ၊ စည်သွပ်ဗူးကို စားရတာ၊ ရယ်စရာ ပြောတာ၊ အိမ်ထဲမှာ လူစိမ်းသူစိမ်းလာတာ စသည်တို့ကို သည်းခံရမယ်။

(၂) သနားကြင်နာမှုကို ကြောင်တွေနဲ့ သူတောင်းစားတွေလောက်ကို ပြတာလောက်နဲ့ မပြီးသင့်ဘူး၊ မျက်စိက မမြင်နိုင်တဲ့အရာများ အတွက် သွေးယိုစီးနိုင်တဲ့ နှလုံးသားရှိရမယ်။ မိတ်ဆွေတစ်ယောက်ကို ကူညီနိုင်ဖို့၊ ညီငယ်ရဲ့ ကျောင်းလခကို ပေးနိုင်ဖို့၊ အမေ့အတွက် အဝတ်အစားကလေး ဝယ်ပေးနိုင်ဖို့အတွက် ညဥ့်နက်သန်းခေါင်ထိ အလုပ်လုပ်ဖို့ ဆန္ဒ ရှိရမယ်။

(၃) အခြားသူများရဲ့ ပစ္စည်းကို ထိုက်သင့်စွာ ရိုသေရမယ်။ ဒါနဲ့အတူ မိမိအပေါ်မှာ တင်ရှိတဲ့ကြွေးတွေကို ပေးဆပ်ရမယ်။

(၄) ရိုးသားရမယ်။ လိမ်လည်တာကို ပလိပ်ရောဂါကြောက် သလို ကြောက်ရမယ်။ အသေးအဖွဲ့ကလေးတွေမှာလည်း မလိမ်ရဘူး။ လိမ် ပြောခြင်းဟာ နားထောင်သူကို စော်ကားတာဖြစ်ပြီး လိမ်ပြောသူထက် အောက် တန်းကျတဲ့အဖြစ်ကို ရောက်အောင် လုပ်ရာရောက်တယ်။ ယဉ်ကျေးရည်မွန်တဲ့ သူများဟာ ဟိတ်ဟန်မလုပ်တတ်ဘူး။ လမ်းထွက်တော့လည်း အိမ်မှာလိုပဲ ပြုမူကြတယ်။ ဆင်းရဲတဲ့ အပေါင်းအသင်း မိတ်ဆွေတွေရှေ့မှာ ဟိတ်မထုတ် ဘူး။ မကြွားဘူး။ အသိမ်အဖျင်း စကားတွေမပြောဘူး။ သူတစ်ပါး မလိုလားတဲ့ အရာ၊ သူတစ်ပါး မယုံချင်တဲ့အရာကို ယုံပါလို့ အတင်းအကျပ်မပြောဘူး။ အခြားသူများရဲ့ နားကို လေးစားသောအားဖြင့် ပြောသင့်တာထက် လျှော့ပြော တယ်။

(၅) ယဉ်ကျေးတဲ့လူတစ်ယောက်ဟာ သူ့ကို သနားလာ အောင်လို့ သူ့ကိုယ်သူ သနားစရာဖြစ်ပုံမျိုး မဖမ်းဘူး။ ကိုယ့်ကိုယ်ကို အရေး ကြီးတဲ့ လူတစ်ယောက်လို့ ထင်ရအောင် အခြားသူများရဲ့ ခံစားချက်တွေကို အခွင့်ကောင်းမယူဘူး။ ကျွန်တော့်ကို ဘယ်သူမှ နားမလည်ကြဘူးဗျာ။ ကျွန် တော်က ဒုတိယတန်းစားထဲကပါဗျာ ဆိုတဲ့ စကားမျိုးကို ဘယ်တော့မှ မပြော ဘူး။ ဒီလိုပြောတာမျိုးဟာ အောက်တန်းကျတယ်။ အပေါစားဆန်တယ်။ သူပြော ငါပြောစကားတွေဖြစ်တယ်။

(၆) ယဉ်ကျေးတဲ့လူတစ်ယောက်ဟာ ဘယ်တော့မှ ကိုယ့် ကိုယ်ကို ဟုတ်လှပြီလို့ မထင်ဘူး။ ဘဝင်မမြင့်ဘူး။ နာမည်ကျော် ဘယ်သူနဲ့ သိတာပဲ၊ ဘယ်ကဗျာဆရာကြီးနဲ့ စကားပြောခဲ့တာပဲ။ ပန်းချီပြပွဲမှာ ဘယ် ပုဂ္ဂိုလ်ကြီးနဲ့ တွေ့ခဲ့တာပဲ။ ဘယ်သူနဲ့ ရင်းနှီးတာပဲ စတဲ့ ကိုယ်ပိုင်မဟုတ်တဲ့ စိတ်အတုတွေနဲ့ မကြွားဘူး။

'ဒါတွေဟာ ခင်ဗျားပြောတဲ့ စာရိတ္တကျင့်ဝတ်တွေလို့ ပြောမလား'လို့ မေးကောင်းမေးမယ်။ မဟုတ်ပါဘူး။ စာရိတ္တကျင့်ဝတ်တွေ မဟုတ်ပါဘူး။ ချားလ်စ် ဒူတိုးစ်က ယဉ်ကျေးတဲ့ စံလို့ပြောတဲ့အရာတွေပါ။ အခြားသူများ အတွက်ရော၊ ကိုယ့်အတွက်ရော အနည်းဆုံး လိုက်နာသင့်တဲ့ အရာတွေပါ။ ဒီအရာတွေ မရှိရင် ယဉ်ကျေးမှုဆိုတာလည်း မရှိနိုင်ဘူး။

ချက်ကော့ရဲ့ ဘဝဟာ တော်တော်ကြမ်းတမ်းပါတယ်။ တစ်သက် လုံးလိုလို ဆင်းဆင်းရဲရဲနေခဲ့ရပြီး တစ်သက်လုံးလိုလို နာမကျန်းဖြစ်ခဲ့သူပါ။ ဒါပေမယ့် သူ ဆင်းရဲတာ၊ သူ နာမကျန်းဖြစ်တာကို တစ်ခါမှ ထုတ်ဖော် ညည်းတွားခြင်း မပြုခဲ့ပါဘူး။ သူ့ရဲ့ အခြေအနေတွေ အဆိုးဆုံးရောက်လာ တဲ့အချိန်မှာတောင် အရင်းနှီးဆုံးသူများဟာ သူ ဘယ်လိုခံစားနေရတယ်။

ဘယ်လိုဖြစ်နေတယ်ဆိုတာကို မခန့်မှန်းတတ်ကြပါဘူး။ လူတွေက သူ့အတွက် စိတ်မကောင်းကြောင်း ပြောတဲ့အခါမှာ ချက်ကော့ဟာ စကားလမ်းကြောင်းပြောင်းပြီး အရေးမကြီးတဲ့ အရာတွေကို ချိုသာပြီး ဆွေးလျတဲ့ဟာသနဲ့ ပြောနေတတ်ပါတယ်။

အသက်ပိုကြီးလာတဲ့အခါမှာ ချက်ကော့ရဲ့ ကမ္ဘာ့အမြင်ဟာ နည်းတာတွေချည်းပဲ။ ကျွန်တော်လည်း တခြားလူတွေနဲ့ ဘာမှ မထူးပါဘူး။ အတူတူပါပဲ။ သဘာဝနဲ့ စာအုပ်တွေကို ကျွန်တော်ချစ်တယ်။ အချိန်ဇယားနဲ့ သက်ဦးဆံပိုင်စနစ်ကို ကျွန်တော်မုန်းတယ်' လို့ ပြောဖူးပါတယ်။

ချက်ကော့ဟာ မူးဇစ်လယ်သမားတွေနဲ့ မြေရှင်တွေအကြောင်းကို ဘက်မလိုက်ဘဲ ရေးခဲ့ပါတယ်။ 'လယ်သမားများ' ဆိုတဲ့ ဝတ္ထုကို ရေးတော့ ဝေဖန်ရေးဆရာတွေ တစ်ယောက်တစ်မျိုး ဖြစ်နေကြပါတယ်။ သူ့ကို ချီးကျူးရမလား၊ အပြစ်တင်ရမလား၊ တချို့လယ်သမားတွေကို ရေးပြရာမှာ ချက်ကော့ဟာ မကောင်းတဲ့အမြင်ကနေ ရေးပြထားတာတွေ ရှိတယ်။ အဲဒီအချိန်တုန်းက လယ်သမားအရေးကို ထောက်ခံအားပေးရမယ်လို့ ယူဆနေကြတဲ့ အချိန်။

'အမှောင်၏ စွမ်းအား' ဆိုတဲ့ ဝတ္ထုမှာ တော်လ်စတွိုင်းဟာလည်း အဲဒီလို ရေးခဲ့ဖူးပါတယ်။ ဒါပေမယ် တော်လ်စတွိုင်းက ဒီလိုရေးမိတဲ့အတွက် နောင်တရပါတယ်။ ချက်ကော့ကတော့ 'ဒါအမှန်ပဲလေ' လို့ ပြောပါတယ်။ မူးဇစ်တွေက မေတ္တာကို တောင်းနေတာမဟုတ်ဘူးဗျ။ သူတို့လိုချင်တာက ပေါင်မုန့်ရယ်၊ အလုပ်ရယ်၊ ပေါင်မုန့်ရယ်၊ မြေယာရယ်လို့ သူက ပြောပါတယ်။

သူပြောတာဟာ ပြောင်ကျကောင်းကျပါလိမ့်မယ်။ ရက်စက်ရာရောက်ကောင်းရောက်ပါလိမ့်မယ်။ ဒါပေမယ့် သူ့ကိုယ်သူ မလိမ်ချင်ပါဘူး။ ဘာသာရေးနဲ့ ပတ်သက်လို့လည်း ဒီအတိုင်းပါပဲ။ ချက်ကော့ဟာ ထာဝရဘုရားကို မယုံကြည်သူဖြစ်ပါတယ်။ ဒီအတိုင်းလည်း ပြောပါတယ်။ ဒါပေမယ့် သူ ကလေးဘဝက ယုံကြည်မှုကိုတော့ တွယ်တာနေတုန်းပဲ ရှိပါသေးတယ်။ ငယ်ငယ်က ကိုးကွယ်ခဲ့တဲ့ နတ်ဘုရားကားတွေ၊ ဘုရားရှိခိုးကျောင်း ခေါင်းလောင်းသံတွေကို စွဲလမ်းနေဆဲပဲ ရှိပါတယ်။ တချို့ သူ့ ဝတ္ထုတိုကလေးတွေဟာ ဘာသာရေး ခံစားချက်တွေနဲ့ ပြည့်နေပါတယ်။ ဒါပေမယ့် သူ့ရင်ထဲမှာ ရှိတဲ့ သိပ္ပံပညာရှင်က သူမသိတာကို လက်မခံပါဘူး။ ရေငတ်တဲ့အခါမှာ ပင်လယ်ကြီးတစ်ခုလုံးက ရေတွေကို သောက်လိုက်ရင် ကုန်သွားလိမ့်မယ်လို့ ထင်တာပဲ။ ဘာသာတရားဆိုတာ အဲဒါပဲ။ ဒါပေမယ့် တကယ် သောက်ကြည့်လိုက်တဲ့အခါကျတော့ ပင်လယ်ထဲက ရေနည်းနည်းပဲ သောက်လို့ရတယ်။ အဲဒါ သိပ္ပံပညာလို့ သူက ပြောပါတယ်။

သူမကွယ်လွန်ခင် သုံးလလောက်အလိုမှာ သူ့ဇနီးဆီကို စာတစ်စောင်ရေးပါတယ်။ 'ဘဝဆိုတာ ဘာလဲလို့ မင်းက မေးတယ်။ မုန်လာဥဝါဆိုတာ ဘာလဲဆိုတဲ့ မေးခွန်းလို မေးထိုက်တဲ့မေးခွန်းပါပဲ။ မုန်လာဥဝါဟာ မုန်လာဥဝါပဲပေါ့။ ငါလည်း ဒီလောက်ပဲ ပြောတတ်တာပဲ' လို့ ရေးခဲ့ပါတယ်။

ချက်ကော့ဟာ ဘက်မလိုက်ဘူးလို့ ပြောတဲ့အတွက် ဒုက္ခရောက်သူတွေကို မကူညီဘူးလို့တော့ မထင်သင့်ပါဘူး။ ကာလဝမ်းရောဂါကြီး ဖြစ်တုန်းက ချက်ကော့ ဘယ်လောက် သက်စွန့်ဆံဖျား ကူညီခဲ့တယ်။ ဘယ်လောက် ရဲရင့်စွာ ဆရာဝန်ပီသစွာ လူနာတွေကို ကုသခဲ့တယ်ဆိုတာ တွေ့နိုင်ပါတယ်။ စာရေးဆရာဟာ စွပ်စွဲချက်တင်ဖို့လည်း မဟုတ်။ စွပ်စွဲဖို့လည်း မဟုတ်ဘူး။ စာရေးဆရာဟာ အပြစ်ကျရင်၊ ပြစ်ဒဏ်ခံရရင် အပြစ်ရှိတဲ့သူများကိုပင်လျှင် အကာအကွယ်ပေးသင့်တယ်လို့ သူ ယူဆပါတယ်။ ပြင်သစ်ပြည်မှာ ဒရေးဖတ်စ်ရဲ့ အမှုပေါ်တော့ သူဟာ ဇိုလာနဲ့အတူ ဒရေးဖတ်စ်ကို ကာကွယ်ပေးခဲ့ပါတယ်။ ချက်ကော့ဟာ ဇရာကို မတွေ့လိုက်ရပါဘူး။ ဒါပေမယ့် သူဟာ စိတ်ရှင်းရှင်းနဲ့ သေသွားခဲ့ပါတယ်။ ကြီးကျယ်တဲ့ စာရေးဆရာကျော်ဟာ သူ့စာဖတ် ပရိသတ်တွေအတွက် ကြီးကျယ်တဲ့ ရည်မှန်းချက်ကို ညွှန်ပြသင့်တယ်လို့ တစ်နေရာမှာ သူရေးဖူးပါတယ်။ ဘယ်လို ကြီးကျယ်တဲ့ရည်မှန်းချက်လဲ။

'ပုံသဏ္ဍာန်အမျိုးမျိုးရှိသော ရိုင်းပျသော အင်အားစုများ၊ လိမ်လည်မှုများမှ လွတ်မြောက်ရေးဖြစ်တယ်။ ကျွန်တော်သာ ကြီးကျယ်တဲ့ အနုပညာရှင်ဖြစ်ခဲ့ရင် အဲဒါတွေဟာ ကျွန်တော့်ရဲ့ လုပ်ငန်းစဉ်ပဲ' လို့ သူက ပြောခဲ့ပါတယ်။

**မြသန်းတင့်**